အဘယ်ကြောင့်ဆိုသော် ဥပဒေပြုရေးမဏ္ဍိုင်ဆိုသည်မှာ လွန်စွာတာဝန်ကြီးသည့် အဖွဲ့အစည်းတစ်ခု ဖြစ်ပါကြောင်း၊ ဥပဒေပြုသည်ဆိုရာတွင် လွယ်မယောင်နှင့် ခက်သကဲ့သို့ တိမ်မယောင်နှင့်လည်း နက်ပါကြောင်း၊ ဥပဒေတစ်ခု ပြုမည်ဆိုပါက ယင်းဥပဒေ၏ ပုဒ်မတစ်ခုချင်းအလိုက် စိစစ်ရသကဲ့သို့ ယင်းပုဒ်မ တစ်ခုချင်း ကလည်း ဥပဒေတစ်ခုလုံးတွင် ပါသည့် အချက်အလက်များနှင့် လိုက်လျောညီထွေ ရှိ/မရှိ ဆိုသည်ကို ကြည့်ရှုရပါကြောင်း၊ ထို့ပြင် ဥပဒေတစ်ခုသည် အခြား ဥပဒေများနှင့် မည်မျှညီညွတ်ဆီလျော်မှု ရှိသလဲဆိုသည်ကို အပြန်အလှန် လေ့လာရပါကြောင်း၊ ဥပဒေပြုရာတွင် Spirit of Law ဟုဆိုသည့် ဥပဒေအနှစ်သာရကို ကြည့်ရသကဲ့သို့ Letter of Law ဟုဆိုသည့် ဥပဒေ ဝေါဟာရကိုလည်း ကြည့်ရပါကြောင်း၊ ဥပဒေ၏အနှစ်သာရကို ဦးစားပေးလွန်းသည့်အခါတွင် ဥပဒေ၏ဝေါဟာရ ပျောက်တတ်သကဲ့သို့ ဥပဒေ၏ဝေါဟာရကို ဦးစားပေးလွန်းပါကလည်း ဥပဒေ၏အနှစ်သာရ ကွယ်ပျောက်တတ်ပါကြောင်း၊ ယင်းတို့ကိုလည်း အထူးဂရုစိုက်စေလိုပါကြောင်း။

- ထို့ပြင် ဥပဒေတစ်ခုကိုပြုပါက ယင်းဥပဒေ၏ နောက်ကြောင်း အခြေခံအချက်အလက်သမိုင်းကြောင်းများကိုသိရှိရန်လိုအပ်ပါကြောင်း၊ နောက်ကြောင်းအခြေခံ အချက်အလက် သမိုင်းကြောင်းများကို သိမှသာ ဥပဒေတစ်ခုကို မှန်မှန် ကန်ကန်နှင့် ပြည့်ပြည့်စုံစုံ ပြဋ္ဌာန်းနိုင်မည်ဖြစ်ပါကြောင်း၊ ထိုသို့အရေးကြီးသည့် ဥပဒေပြုရေးမဏ္ဍိုင်က နိုင်ငံတော်၏ မူဝါဒများကိုလည်း ဥပဒေအဖြစ် ရေးဆွဲပေးရပါကြောင်း။
- မေးခွန်းများ၊ အဆိုများ ဥပဒေပြုသည့် အခါများတွင် ကိုယ်စားလှယ်အားလုံးက ဆွေးနွေးရခြင်း၊ ညှိနှိုင်းရခြင်းများ ရှိပါကြောင်း၊ ထိုသို့ ဆွေးနွေးညှိနှိုင်းသည့် အခါတွင်လည်း ဥပဒေပြုရေးမဏ္ဍိုင်နှင့် လိုက်လျောညီထွေသည့် အသုံးအနှုန်း၊ အပြောအဆိုများ ဖြစ်ရန် လိုအပ်ပါကြောင်း၊ ယင်းသည် မိမိ၏ ဂုဏ်သိက္ခာနှင့် ဆိုင်သကဲ့သို့ မိမိ အဖွဲ့အစည်း၏ ဂုဏ်သိက္ခာနှင့်လည်းဆိုင်ပါကြောင်း၊ ထိုသို့ ဆွေးနွေးကြသည့် အခါတွင်လည်း တစ်ဦးနှင့်တစ်ဦး အပြုသဘောအမြင်နှင့် ဆွေးနွေးကြစေလိုပါကြောင်း၊ နိုင်ငံတော်နှင့် နိုင်ငံသူ နိုင်ငံသားများ၏ အကျိုးအတွက် အပြုသဘောဆောင် ဆွေးနွေးကြပါက အောင်မြင်မှု ရနိုင်မည်ဖြစ်ပါကြောင်း။
- ဒီမိုကရေစီနိုင်ငံတော်ကြီး တည်ဆောက်ရန်အတွက် မိမိတို့ကိုယ်တိုင် မည်မျှပြုပြင်ပြောင်းလဲနိုင်ပြီဆိုသည့် စံချိန်လည်း လိုအပ်ပါကြောင်း၊ မိမိတို့ နိုင်ငံဖွံ့ဖြိုးတိုးတက်မှုသည် မိမိတို့ မည်မျှပြုပြင်ပြောင်းလဲနိုင်စွမ်း မည်မျှရှိသည်ဆိုသည့် အပေါ်တွင် မူတည်နေပါကြောင်း၊ မိမိတို့အားလုံးသည် မိမိတို့နိုင်ငံ ဖွံ့ဖြိုးတိုးတက်

ရေး၊ ဒီမိုကရေစီ နိုင်ငံတော် တည်ဆောက်ရေးအတွက် အားလုံး ကိုယ့်ကိုယ်ကိုယ် ပြုပြင်ပြောင်းလဲပြီး၊ ဒီမိုကရေစီကျင့်စဉ်ကို မှန်မှန်ကန်ကန်ကျင့်သုံး၍ ဒီမိုကရေစီ၏ မဏ္ဍိုင်ဖြစ်သည့် သဘောထား ကြီးခြင်း၊ သည်းခံခြင်း၊ စေ့စပ်ညှိနှိုင်း အဖြေရှာခြင်းများဖြင့် နိုင်ငံတော်က သန္နိဋ္ဌာန်ချထားသည့်၊ နိုင်ငံသူ နိုင်ငံသား များကလည်း နှစ်ရှည်လများ လိုလားတောင့်တပြီး အာသာဆန္ဒပြင်းပြနေသည့် ဒီမိုကရေစီနိုင်ငံတော်ကို ဝိုင်းဝန်းတည်ဆောက်ကြစေလိုကြောင်း။

**တောင်ကြီးမြို့ရှိ ရှမ်းပြည်နယ် အစိုးရအဖွဲ့ရုံး၌ ရှမ်းပြည်နယ် အစိုးရအဖွဲ့ဝင်များ၊ လွှတ်တော် ကိုယ်စားလှယ်များ၊ ပြည်နယ်၊ ခရိုင်၊ မြို့နယ်အဆင့် ဌာနဆိုင်ရာ တာဝန်ရှိသူများ၊ မြို့မိမြို့ဖများနှင့် တွေ့ဆုံစဉ် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၆-၂-၂၀၂၀)**

- ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက် လွတ်လပ်ရေးရပြီးချိန်တွင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ ဖေဖော်ဝါရီလ ၇ ရက်နေ့ကို ရှမ်းပြည်နယ်နေ့အဖြစ် သတ်မှတ်ပေးခဲ့ပါကြောင်း၊ ထို့ပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ပထမဆုံးသမ္မတမှာ ရှမ်းပြည်နယ်မှ ညောင်ရွှေစော်ဘွားကြီး စဝ်ရွှေသိုက်ဖြစ်ပါကြောင်း။
- နိုင်ငံတော်အစိုးရအနေဖြင့် ဒီမိုကရေစီဖက်ဒရယ် ပြည်ထောင်စုနိုင်ငံတော် တည်ဆောက်မည်ဟု သန္နိဋ္ဌာန်ချမှတ်ထားပါကြောင်း၊ ယင်းကို တာဝန်ရှိသူ အားလုံးအနေဖြင့် အလေးအနက် သတိပြုကြစေလိုပါကြောင်း၊ တောင်တန်း မြေပြန့် မခွဲခြားဘဲ ဒီမိုကရေစီ အခွင့်အရေးများ ရရှိစေရန် ပင်လုံစာချုပ်တွင် ပါရှိပါကြောင်း၊ နိုင်ငံတော်အစိုးရကလည်း ဒီမိုကရေစီနိုင်ငံတော် တည်ဆောက်မည်ဟု မူဝါဒထားရှိပါကြောင်း။
- တိုင်းရင်းသားများအားလုံး ဒီမိုကရေစီ အခွင့်အရေးရရှိပြီဆိုလျှင် သံသယများ၊ စိတ်ဝမ်းကွဲပြားမှုများ တဖြည်းဖြည်း လျော့နည်းပပျောက်လာမည် ဖြစ်ပါကြောင်း၊ ထိုသို့ လျော့နည်းပပျောက်လာမှသာလျှင် မိမိတို့ လိုလားတောင်းတနေသည့် ပြည်တွင်းငြိမ်းချမ်းရေးကို ရရှိမည်ဖြစ်ပါကြောင်း။
- အုပ်ချုပ်ရေး၊ ဥပဒေပြုရေး၊ တရားစီရင်ရေးမဏ္ဍိုင်ကြီး(၃)ရပ်သည် နိုင်ငံတော်၏ မူဝါဒဖြစ်သည့် ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စု ပေါ်ပေါက်လာအောင် အပြန်အလှန် ညှိနှိုင်းပေါင်းစပ်ရန် လိုအပ်ပါကြောင်း၊ မဏ္ဍိုင်ကြီး(၃)ရပ်တွင် တာဝန်ထမ်းဆောင်နေကြသူများသည် တစ်ဦးနှင့်တစ်ဦး ယှဉ်ပြိုင်ဖက်များ မဟုတ်ပါကြောင်း၊ မိတ်ဖက်လုပ်ဖော်ကိုင်ဖက်များသာ ဖြစ်ကြပါကြောင်း။

- မိမိပြည်နယ်၊ မိမိဒေသအတွက် အကျိုးရှိမည်ဆိုပါကမည်သူ၏ အတွေးအခေါ်၊ အယူအဆ၊ သဘောထားဖြစ်ဖြစ် ကောင်းမွန်ပါက လက်ခံရမည် ဖြစ်ပါကြောင်း၊ မတူညီသည့် အယူအဆ၊ ကွဲပြားနေသည့် သဘောထားများကို ညှိနှိုင်းပေါင်းစပ်ပြီး မိမိပြည်နယ်၊ မိမိဒေသအတွက် အကျိုးရှိအောင် ဆောင်ရွက်ကြရမည် ဖြစ်ပါကြောင်း၊ နိုင်ငံတော်အစိုးရအနေဖြင့် တိုင်းဒေသကြီးနှင့် ပြည်နယ်အားလုံး ဟန်ချက်ညီညီ ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ပေးရန် မူဝါဒချမှတ်ထားပါကြောင်း၊ အားလုံးဖွံ့ဖြိုးတိုးတက်မှ အားလုံးတည်ငြိမ်အေးချမ်းမည် ဖြစ်ပါကြောင်း။

## (၇၃) နှစ်မြောက် ရှမ်းပြည်နယ်နေ့အခမ်းအနားသို့ ပေးပို့သည့်သဝဏ်လွှာမှ ကောက်နုတ်ချက်

- ရှမ်း၊ ကချင်၊ ချင်း တိုင်းရင်းသားခေါင်းဆောင်များသည် မြန်မာပြည်မနှင့်အတူ မနေးအမြန်ပေါင်း၍ လွတ်လပ်ရေးရယူမည်ဟူသော သဘောတူဆုံးဖြတ်ချက်ကို ၁၉၄၇ ခုနှစ် ဖေဖော်ဝါရီလ ၇ ရက်နေ့တွင် ချမှတ်နိုင်ခဲ့ပါသည်။ ထိုသို့ တောင်တန်း၊ ပြည်မ မခွဲခြားဘဲ မြန်မာတစ်နိုင်ငံလုံး လွတ်လပ်ရေးကို အတူတကွ ရယူရန် ဆုံးဖြတ်နိုင်ခဲ့သော ဖေဖော်ဝါရီလ ၇ ရက်နေ့ကို ဂုဏ်ပြုသောအားဖြင့် ရှမ်းပြည်နယ်နေ့အဖြစ် သတ်မှတ်ခဲ့ပါသည်။ ယခုဆိုလျှင် ရှမ်းပြည်နယ်နေ့ အထိမ်းအမှတ် အခမ်းအနားများ ကျင်းပပြုလုပ်လာခဲ့သည်မှာ (၇၃) နှစ်မြောက် တိုင်ခဲ့ပြီဖြစ်ပါသည်။ လွတ်လပ်ရေးရရှိခဲ့သည်မှာ နှစ်ပေါင်း ၇၀ ကျော် ကြာမြင့်ခဲ့ပြီဖြစ်သော်လည်း တိုင်းရင်းသားညီအစ်ကိုအချင်းချင်းအကြား စိတ်ဝမ်းကွဲပြားခဲ့ပြီး လက်နက်ကိုင်ပဋိပက္ခများ ဖြစ်ပွားလာခဲ့ရာ ယနေ့ထက်တိုင် အချို့သော ဒေသများတွင် သေနတ်သံများ မစဲနိုင်သေးဘဲ ငြိမ်းချမ်းရေးနှင့် အလှမ်းဝေးနေဆဲ ဖြစ်နေရသည်မှာ ဝမ်းနည်းဖွယ်ရာပင်ဖြစ်ပါသည်။ ပြည်ထောင်စုကို အတူတကွ တည်ထောင်ခဲ့ကြသည့်ပြည်ထောင်စုဖွား တိုင်းရင်းသား ခေါင်းဆောင်ကြီးများ၏ မျှော်လင့်ချက်အိပ်မက်များကို အကောင်အထည်ဖော်နိုင်ရန် အမျိုးသား တန်းတူရေး၊အမျိုးသားညီညွတ်ရေး၊ဒီမိုကရေစီနှင့်အခြေခံလူ့အခွင့်အရေးများကို အာမခံချက် အပြည့်အဝပေးနိုင်သည့် ဖွဲ့စည်းပုံအခြေခံဥပဒေတစ်ရပ် ပေါ်ထွန်းလာရေးကိုလည်း မျက်ခြည်မပြတ် ကြိုးပမ်းဆောင်ရွက်လျက်ရှိပါသည်။
- တိုင်းရင်းသားညီအစ်ကိုမောင်နှမများကြားတွင် ၁၉၄၇ ခုနှစ်၌ ပင်လုံမြို့တွင် တည်ဆောက်ခဲ့သော စည်းလုံးညီညွတ်မှုမျိုး၊ နားလည်ယုံကြည်မှုမျိုး ပြန်လည်ရရှိမည်ဟု ကျွန်တော်အနေဖြင့် အခိုင်အမာယုံကြည်ထားပါသည်။ လွန်ခဲ့သော

(၇၃) နှစ်ဦး ရှမ်းပြည်နယ်၊ ပင်လုံမြို့ကလေးတွင် တိုင်းရင်းသားစည်းလုံးညီညွတ်မှုကို ပြသနိုင်သည့်အတွက် တစ်နိုင်ငံလုံး လွတ်လပ်ရေးရရှိခဲ့သလို ယနေ့ အချိန်အခါတွင်လည်း တိုင်းရင်းသားအားလုံး၏ စည်းလုံးညီညွတ်မှုအင်အားဖြင့် တစ်နိုင်ငံလုံး ရေရှည်တည်တံ့ခိုင်မြဲသော ငြိမ်းချမ်းရေးကို ရရှိမည်ဖြစ်ပါသည်။ ပြည်ထောင်စုစိတ်ဓာတ်သို့မဟုတ် ပင်လုံစိတ်ဓာတ်ဖြင့် ကျွန်တော်တို့တိုင်းရင်းသားခေါင်းဆောင်ကြီးများသည် ပြည်ထောင်စုအတွက် အတူတကွအုတ်မြစ်ချခဲ့ပြီး လွတ်လပ်ရေးကို အရယူပေးခဲ့ကြပြီးဖြစ်ပါသည်။ ဤလွတ်လပ်ရေး အစွန်နှံ့ရှည်တည်တံ့ခိုင်မြဲရန်၊ တိုင်းရင်းသားခေါင်းဆောင်ကြီးများ မျှော်မှန်းခဲ့သော ပြည်ထောင်စုကြီးတည်ဆောက်နိုင်ရန် ကျွန်တော်တို့ခေတ်၊ ကျွန်တော်တို့အခါတွင်လည်း ပင်လုံစိတ်ဓာတ်ဖြင့် ဆက်လက်ကြိုးပမ်း ဆောင်ရွက်သွားကြရန် ဖြစ်ပါသည်။

**(၇၃)နှစ်မြောက် ရှမ်းပြည်နယ်နေ့ အခမ်းအနားတွင် ပြောကြားသည့် နှုတ်ခွန်းဆက်စကားမှ ကောက်နုတ်ချက် (၇-၂-၂၀၂၀)**

- ရှမ်းပြည်နယ်နေ့ဟာ ကျွန်တော်တို့ရဲ့ ပြည်ထောင်စုကြီးအတွက် ထူးခြားလေးနက်တဲ့ နိုင်ငံရေးအဓိပ္ပာယ်တွေ၊ နိုင်ငံရေးအနှစ်သာရတွေ ပြည့်စုံနေတဲ့ နေ့တစ်နေ့ပဲ ဖြစ်ပါတယ်။ လွန်ခဲ့တဲ့ (၇၃)နှစ်က ဒီနေ့လို ဖေဖော်ဝါရီလ ၇ ရက်နေ့မှာ ရှမ်းတိုင်းရင်းသား ခေါင်းဆောင်ကြီးတွေဟာ အခြားသော တောင်တန်းဒေသနေ ချင်း၊ ကချင် တိုင်းရင်းသားခေါင်းဆောင်ကြီးတွေနဲ့ ညှိနှိုင်းတိုင်ပင်ပြီးတော့ ပြည်မနဲ့အတူတကွ လွတ်လပ်ရေးရယူကြမယ်ဆိုတဲ့ ပြည်ထောင်စုထူထောင်ရေးအတွက် အရေးကြီးလှတဲ့ သမိုင်းဝင်ဆုံးဖြတ်ချက်ကို စိတ်တူကိုယ်တူ ဆန္ဒတူနဲ့ ချမှတ်ခဲ့တဲ့နေ့ဖြစ်ပါတယ်။ ဒီလိုမျိုး ပြည်ထောင်စုတစ်ခုတည်းမှာ ပါဝင်ပူးပေါင်းကြမယ်လို့ပြည်ထောင်စုစိတ်ဓာတ်နဲ့ ဆုံးဖြတ်ခဲ့တဲ့နေ့ကို ဂုဏ်ပြုပြီး ဖေဖော်ဝါရီလ(၇) ရက်ကို ရှမ်းပြည်နယ်နေ့အဖြစ် သတ်မှတ်ကာ အထိမ်းအမှတ်အခမ်းအနားတွေ ကျင်းပပြုလုပ်လာခဲ့တာ အခုဆိုရင် (၇၃)နှစ်ပြည့်မြောက်ခဲ့ပြီ ဖြစ်ပါတယ်။
- ဒီကနေ့ဒီအချိန်မှာ ကျွန်တော်တို့နိုင်ငံဟာ ဒီမိုကရေစီအသွင်ကူးပြောင်းရေး လမ်းကြောင်းပေါ်မှာ တစ်ဆင့်ပြီးတစ်ဆင့် တက်လှမ်းနေပြီ ဖြစ်ပါတယ်။ ဒါပေမယ့် ထွန်းသစ်စဒီမိုကရေစီဟာ ရင့်ကျက်ခိုင်မာပြီး ရေရှည်တည်တံ့ဖို့ဆိုရင် ငြိမ်းချမ်းရေးနဲ့ဖွံ့ဖြိုးတိုးတက်ရေးဟာဒွန်တွဲပြီးအလွန်အရေးကြီးတယ်ဆိုတာကို အားလုံးက လက်ခံနားလည်ထားကြပြီး ဖြစ်ပါတယ်။ ဒါကြောင့်လည်း

ကျွန်တော်တို့အစိုးရအနေနဲ့ အမျိုးသားပြန်လည်သင့်မြတ်ရေး၊ ပြည်ထောင်စု ငြိမ်းချမ်းရေးနဲ့ ဖွံ့ဖြိုးတိုးတက်ရေးတို့ကို ဦးစားပေးများအဖြစ် သတ်မှတ်ပြီး ကြိုးပမ်းဆောင်ရွက်နေတာ ဖြစ်ပါတယ်။

- ဒီလို ကြိုးပမ်းဆောင်ရွက်ရာမှာလည်း ကျွန်တော်တို့ရဲ့ ပြည်ထောင်စုဖွား တိုင်းရင်းသားတွေအားလုံး ကျေနပ်လက်ခံ၊ ဂုဏ်ယူနိုင်မယ့် ဒီမိုကရေစီဖက်ဒရယ် ပြည်ထောင်စု တည်ဆောက်နိုင်ဖို့အတွက် ပြည်ထောင်စုငြိမ်းချမ်းရေး ညီလာခံ-(၂၁) ရာစုပင်လုံ အစည်းအဝေးမှာ အခြေခံမူတွေ ချမှတ်နိုင်ဖို့ ကြိုးပမ်းဆောင်ရွက် နေတာ ဖြစ်ပါတယ်။ ရှေ့ဆက်မယ့် ခရီးလမ်းမှာလည်း အခက်အခဲတွေ၊ စိန်ခေါ်မှု တွေကတော့ အများကြီး ရှိနေမှာပါ။ ဒါကိုလည်း အပြန်အလှန်နားလည်မှု၊ အပြန် အလှန် လေးစားမှုနဲ့ အပြန်အလှန်ယုံကြည်မှုတွေကို အခြေခံပြီး ဘုံသဘော တူညီချက်တွေရရှိအောင် ညှိနှိုင်းသွားကြရမှာ ဖြစ်ပါတယ်။
- ကျွန်တော်တို့ အားလုံးဟာ ပြည်ထောင်စုသားတွေ ဖြစ်ကြတဲ့အတွက် တစ်ဦးနဲ့ တစ်ဦး နားလည်မှု၊ ယုံကြည်မှု၊ လေးစားမှုတွေကို တိုးမြှင့်တည်ဆောက်ရင်း နိုင်ငံရေး တွေ့ဆုံဆွေးနွေး ညှိနှိုင်းမှုတွေကတစ်ဆင့် ကြိုးပမ်းကြရန် အထူးပဲ အရေးကြီးလှပါတယ်။ တိုင်းရင်းသားလူမျိုးများ အားလုံးအနေနဲ့လည်း ပြည်ထောင်စုကြီးရဲ့ အနာဂတ်အတွက် အရေးကြီးလှတဲ့ (၂၁) ရာစုပင်လုံ နိုင်ငံရေး စားပွဲဝိုင်းတွေမှာ သဘောထားကြီးခြင်း၊ သည်းခံခြင်း၊ စေ့စပ်ညှိနှိုင်း အဖြေရှာခြင်း တို့ဖြင့် ပူးပေါင်းပါဝင်ကြဖို့ အလေးအနက် တိုက်တွန်းပြောကြားလိုပါတယ်။

**နေပြည်တော်ရှိ နိုင်ငံတော်သမ္မတ အိမ်တော် အစည်းအဝေးခန်းမ၌ တိုင်းဒေသကြီးနှင့် ပြည်နယ်များမှ တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးများအား တွေ့ဆုံစဉ် ပြောကြား သည့် အမှာစကားမှ ကောက်နုတ်ချက် (၁၁-၂-၂၀၂၀)**

- တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးများသည် သက်ဆိုင်ရာ တိုင်းဒေသကြီးနှင့် ပြည်နယ်များတွင်ရှိသည့် သက်ဆိုင်ရာလူမျိုးစုများက တိုက်ရိုက်ရွေးချယ်ထား သည့် ကိုယ်စားလှယ်များ ဖြစ်ကြပါကြောင်း၊ မိမိတို့နှင့် သက်ဆိုင်သည့် လူမျိုးစု များ၏ အရေးကိစ္စများကို ဆောင်ရွက် ပေးရန် တာဝန်ရှိသူများလည်း ဖြစ်ကြပါ ကြောင်း၊ နိုင်ငံတော် ဖွံ့ဖြိုးတိုးတက်ရေး၊ ငြိမ်းချမ်းရေးဖော်ဆောင်ရေး ကိစ္စ ရပ်များတွင် တိုင်းရင်းသားလူမျိုးရေးရာ ဝန်ကြီးများ ပါဝင်ကူညီ ဆောင်ရွက် ပေးရန် လိုအပ်လှပါကြောင်း၊
- အထူးသဖြင့် ငြိမ်းချမ်းရေးလုပ်ငန်းစဉ်များ ပိုမိုအောင်မြင်စေရန် တိုင်းရင်းသား လူမျိုးရေးရာဝန်ကြီးများ ပါဝင်ကူညီဆောင်ရွက်ကြရန် လိုအပ်ပါကြောင်း၊

တစ်နိုင်ငံလုံး ပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေး သဘောတူစာချုပ် (Nationwide Ceasefire Agreement –NCA) ကို တိုင်းရင်းသား လက်နက်ကိုင်အဖွဲ့ (၁၀)ဖွဲ့ အထိ လက်မှတ်ရေးထိုးခဲ့ပြီး ဖြစ်သော်လည်း လက်မှတ်မရေးထိုးရသေးသည့် အဖွဲ့များ ကျန်ရှိနေသေးသည့် အချို့ဒေသများတွင် တိုက်ပွဲများ ဖြစ်နေဆဲ ရှိသည်ကို ဝန်ကြီးများအသိပင် ဖြစ်ပါကြောင်း၊ ထို့ကြောင့် ကျန်နေသေးသည့် အဖွဲ့များ NCA လက်မှတ်ရေးထိုးရေး၊ တိုက်ပွဲများ ရပ်တန့်ရေးတို့တွင် တိုင်းရင်းသားလူမျိုးရေးရာ ဝန်ကြီးများအနေဖြင့် မိမိတို့သက်ဆိုင်ရာ တိုင်းရင်းသားအလိုက် မည်သို့ကူညီဆောင်ရွက်ပေးနိုင်မည်ကို စဉ်းစားသုံးသပ်ပြီး တတ်နိုင်သမျှ ကူညီပံ့ပိုးကြစေလိုပါကြောင်း။

- တိုင်းရင်းသားစည်းလုံးညီညွတ်မှုသည် ပြည်ထောင်စုမပြိုကွဲရေး၊ ငြိမ်းချမ်းရေး၊ နိုင်ငံဖွံ့ဖြိုးတိုးတက်ရေးတို့နှင့် အဓိကဆက်စပ်လျက်ရှိပါကြောင်း၊ တိုင်းရင်းသား စည်းလုံး ညီညွတ်မှုကို စကားဖြင့် ပြောဆိုတည်ဆောက်နေ၍ မရပါကြောင်း၊ တိုင်းရင်းသား အချင်းချင်းထိတွေ့ဆက်ဆံမှု၊ တစ်ဦးနှင့်တစ်ဦး စာနာထောက်ထားမှု၊ တစ်ဦး၏အခက်အခဲကို တစ်ဦးကနားလည်နိုင်မှု၊ တစ်ဦး၏ ယဉ်ကျေးမှုဓလေ့ထုံးစံများကို တစ်ဦးကလေးစားမှု စသည်တို့ရှိမှသာ တိုင်းရင်းသားစည်းလုံး ညီညွတ်မှု ခိုင်မြဲမည်ဖြစ်ပါကြောင်း။
- မိမိတို့အစိုးရအဖွဲ့အနေဖြင့် ဒီမိုကရေစီ ပြုပြင်ပြောင်းလဲရေးလုပ်ငန်းများ ဆောင်ရွက်နေခြင်းသည် တစ်ဦးတစ်ယောက်၊ တစ်ဖွဲ့တစ်ပါတီအတွက် လုပ်ဆောင်နေခြင်း မဟုတ်ပါကြောင်း၊ နိုင်ငံတော်နှင့် နိုင်ငံသူနိုင်ငံသားများ၏ အမျိုးသားအကျိုးစီးပွားအတွက် နိုင်ငံတော်တည်ငြိမ်အေးချမ်းပြီး ဖွံ့ဖြိုးတိုးတက်လာစေရန်၊ ပြည်သူများ၏ လူမှုစီးပွားဘဝ ပိုမိုကောင်းမွန် လာစေရန် ရည်ရွယ်ဆောင်ရွက်နေခြင်းဖြစ်ပါကြောင်း၊ ယင်းကို တိုင်းရင်းသားပြည်သူများ အားလုံး နားလည်သဘောပေါက်ပြီး နိုင်ငံတော်ငြိမ်းချမ်းရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးတွင် အားလုံး ပါဝင်လာရန်အတွက် တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးများ အနေဖြင့် မိမိသက်ဆိုင်ရာ တိုင်းရင်းသားလူမျိုးများကို ရှင်းပြပေးစေလိုပါကြောင်း၊ ပြည်ထောင်စုဖွား တိုင်းရင်းသား အချင်းချင်း ပိုမိုထိတွေ့ဆက်ဆံပြီး တစ်ဦးနှင့် တစ်ဦး နားလည်မှု၊ ယုံကြည်မှု၊ တန်ဖိုးထားမှု၊ လေးစားမှုများကို အပြန်အလှန် တည်ဆောက်ကြပါ၊ ပြည်ထောင်စုစိတ်ဓာတ် ကိန်းအောင်းနေစေရန် ဆောင်ရွက်ပေးကြပါ၊ အနာဂတ် ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စု တည်ဆောက်ရေးအတွက် စည်းလုံးညီညွတ်စွာ တတ်စွမ်းသမျှ ဝိုင်းဝန်းကူညီပေးကြပါဟု ပြောကြားလိုကြောင်း။

**နိုင်ငံတော်သမ္မတဦးဝင်းမြင့် ထံမှ (၇၃) နှစ်မြောက် ပြည်ထောင်စုနေ့ အခမ်းအနားသို့ ပေးပို့သည့် သဝဏ်လွှာမှ ကောက်နုတ်ချက် (၁၂-၂-၂၀၂၀)**

- ခေတ်အဆက်ဆက်အစိုးရများသည် ပြည်တွင်းလက်နက်ကိုင် ပဋိပက္ခ ချုပ်ငြိမ်းရေးနှင့် ငြိမ်းချမ်းရေးအတွက် နည်းလမ်းအမျိုးမျိုးဖြင့် ချဉ်းကပ်ကြိုးစား ခဲ့ကြသော်လည်း လက်နက်ကိုင်ပဋိပက္ခများ၏ အရင်းခံအကြောင်းတရား ဖြစ်သော နိုင်ငံရေးပြဿနာများကို ဖြေရှင်းရန် နိုင်ငံရေးတွေ့ဆုံဆွေးနွေးမှုများ ထိထိရောက်ရောက်ဆောင်ရွက်နိုင်ခဲ့ခြင်းမရှိခဲ့ပါ။ မိမိတို့အစိုးရအနေဖြင့် ပြည်ထောင်စုဖွံ့ဖြိုးတိုးတက်ရေး၊ ဒီမိုကရေစီခိုင်မာရေး၊ ပြည်တွင်းလက်နက် ကိုင်ပဋိပက္ခချုပ်ငြိမ်းရေးနှင့် ရေရှည်တည်တံ့ခိုင်မြဲသည့် ငြိမ်းချမ်းရေးရရှိရေး တို့သည် အလွန်အရေးကြီးသည်ဟု ယုံကြည်သည့်အလျောက် ငြိမ်းချမ်းရေး လုပ်ငန်းစဉ်ကို အဓိက ဦးစားပေးလုပ်ငန်းစဉ်ကြီးတစ်ရပ်အဖြစ် သတ်မှတ်ကာ မူဝါဒများချမှတ် အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါသည်။
- နိုင်ငံတော်အစိုးရ၏ အမျိုးသားပြန်လည်သင့်မြတ်ရေး၊ ငြိမ်းချမ်းရေးလုပ်ငန်း စဉ်များ အောင်မြင်စွာ အကောင်အထည်ဖော်ဆောင်နိုင်ရေး၊ ပြည်ထောင်စုကြီး ထာဝရတည်ငြိမ်အေးချမ်းရေးတို့အတွက် အခြေခံအုတ်မြစ်မှာ ပြည်ထောင်စု စိတ်ဓာတ်ပင်ဖြစ်သည်။ ပြည်ထောင်စုစိတ်ဓာတ်၏ အရင်းခံမူလမှာ တိုင်းရင်းသား ညီအစ်ကို မောင်နှမအားလုံး၏ ပေါင်းစည်းမှုစွမ်းအားပေါ်တွင် အခြေခံပါသည်။ တိုင်းရင်းသား ညီအစ်ကို မောင်နှမအားလုံး လွန်ခဲ့သော (၇၃) နှစ် လွတ်လပ်ရေး အကြိုကာလ စည်းလုံးညီညွတ်မှုမျိုးဖြင့် အတူတကွပူးပေါင်း ဆောင်ရွက်ကြပါက ပြည်ထောင်စုတစ်ဝန်းလုံးတွင် ရေရှည်တည်တံ့ခိုင်မြဲသော ငြိမ်းချမ်းရေးကို မဝေးလှသော ကာလ၌ မလွဲမသွေရရှိနိုင်မည်ဟု ယုံကြည်ပါသည်။
- ဖွဲ့စည်းပုံအခြေခံဥပဒေသည် နိုင်ငံတော်၏အသက်တမျှအရေးပါလှသည့်အတွက် ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုကြီး တည်ဆောက်ရာတွင် ဒီမိုကရေစီ စံချိန် စံညွှန်းများနှင့်အညီ နိုင်ငံတော်၏ ပကတိအခြေအနေ၊ အနာဂတ်မျှော်မှန်းချက် တို့နှင့် ကိုက်ညီသော ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စု ဖွဲ့စည်းပုံအခြေခံဥပဒေ တစ်ရပ် ပေါ်ထွန်းလာစေရေးကို တိုင်းရင်းသားပြည်သူတစ်ရပ်လုံးက ဆက်လက် ဝိုင်းဝန်း ကြိုးပမ်းဆောင်ရွက်သွားကြရမည်ဖြစ်ပါသည်။ ဒီမိုကရေစီစနစ် ရှင်သန်ဖွံ့ဖြိုးလာသည်နှင့်အမျှ ဒီမိုကရေစီ၏ အနှစ်သာရများဖြစ်သော တရား မျှတခြင်း၊ လွတ်လပ်ခြင်း၊ ညီမျှခြင်း တည်းဟူသော လောကပါလတရားများကို တိုင်းရင်းသားပြည်သူတစ်ရပ်လုံး ရရှိခံစားနိုင်ပြီး စစ်မှန်သော ဒီမိုကရေစီ ဖက်ဒရယ်ပြည်ထောင်စုကြီး တည်ဆောက်နိုင်မည်ဖြစ်ပါသည်။

- ပြည်ထောင်စုအတွင်း တိုင်းရင်းသားအားလုံးသည် ပြည်ထောင်စုစိတ်ဓာတ်ဖြင့် ရင်းနှီးချစ်ကြည်စွာ အတူတကွ လက်တွဲနေထိုင်ခဲ့ကြသည့် အားလျော်စွာ တိုင်းရင်းသားတို့၏ ယဉ်ကျေးမှုအမွေအနှစ်များနှင့် ရိုးရာဓလေ့ထုံးစံများကို မပျောက်ပျက်စေရန် အလေးထား ထိန်းသိမ်းစောင့်ရှောက်ရေး၊ တိုင်းရင်းသား လူမျိုးအားလုံး တန်းတူညီမျှရှိရေးနှင့် လူမှုဘဝဖွံ့ဖြိုးတိုးတက်ရေးတို့ကိုလည်း အတူတကွ ပူးပေါင်းဆောင်ရွက်သွားကြရမည် ဖြစ်ပါသည်။

**ဗိုလ်ချုပ်အောင်ဆန်းကြေးရုပ်တု ဖွင့်ပွဲအခမ်းအနားတွင်ပြောကြားသည့် မိန့်ခွန်းမှ ကောက်နုတ်ချက် (၁၃-၂-၂၀၂၀)**

- ယခုလို ဗိုလ်ချုပ်အောင်ဆန်းကြေးရုပ်တု စိုက်ထူတာဟာ သာမန်ကာလျှံကာ အသွင်သဏ္ဌာန်အရ လုပ်နေကြခြင်း မဟုတ်ဘဲ နိုင်ငံရဲ့ အရေးအရာများနှင့် စပ်လျဉ်းပြီး အနှစ်သာရရှိရှိနဲ့ လုပ်နေကြခြင်းဖြစ်တယ်လို့ ခံယူပါတယ်။ မျိုးဆက်သစ်လူငယ်များအနေနဲ့ ဗိုလ်ချုပ် အောင်ဆန်းရဲ့ ရိုးသားဖြောင့်မတ်တည်ကြည်မှု၊ တိုင်းပြည်အတွက် ဖြူစင်တဲ့ စေတနာ၊ သန့်ရှင်းတဲ့မေတ္တာ၊ မွန်မြတ်တဲ့ လမ်းစဉ်တွေကို အတုယူကြကာ တိုင်းကျိုးပြည်ကျိုး သယ်ပိုးစေရန်လည်းကောင်း၊ ဗိုလ်ချုပ်အောင်ဆန်းရဲ့ ပြတ်သားတဲ့ လက်ရုံးရည် နှလုံးရည်၊ သီလ၊ သမာဓိ၊ သိက္ခာ၊ ပြောင်မြောက်တဲ့ အသိပညာ အတွေးအခေါ် အယူအဆတွေကိုလည်း အားကျလျက် တိုင်းချစ်ပြည်ချစ်စိတ်များ ထက်သန်စေရန်လည်းကောင်း၊ တိုင်းပြည်နဲ့လူမျိုးအတွက် ကိုယ်ကျိုးမဖက် ရာထူးမမက် လွတ်လပ်ရေးအတွက် အသက်ပေးပြီး ကိုယ်ကျိုးစွန့် အနစ်နာခံသွားခဲ့တာတွေကို နမူနာယူကြပြီး ဇာတိသွေးဇာတိမာန် ရှင်သန်စေရန်လည်းကောင်း၊ မြန်မာ့နိုင်ငံရေးသမိုင်းတွင် မော်ကွန်းထိုးထားရမယ့် ကြီးကျယ်ခမ်းနားတဲ့ ဗိုလ်ချုပ်အောင်ဆန်းရဲ့ လုပ်ဆောင်ချက်များကို စံပြုကြရန်လည်းကောင်း ရည်ရွယ်ချက် ကောင်းများရှိတယ်လို့ ကျွန်တော်ခံယူထားပါတယ်။
- ဒါ့အပြင် ဗိုလ်ချုပ်အောင်ဆန်းရဲ့ ကြေးရုပ်တုကို မြင်တွေ့တိုင်း ဗိုလ်ချုပ်ရဲ့မူဝါဒ လမ်းစဉ်တွေကို အကောင်အထည်ဖော်ရန် ကျန်သေးတယ်ဆိုတာကို မမေ့မလျော့စေရန် ဖြစ်ပါတယ်။ ဗိုလ်ချုပ်အောင်ဆန်းကို သတိရတိုင်း ဗိုလ်ချုပ်ရဲ့ အဆိုအမိန့် လုပ်ငန်းလမ်းညွှန်တွေကို ဆောင်ရွက်ရန် ရှိသေးတာကို မလစ်ဟင်းကြစေရန် ဖြစ်ပါတယ်။ ဗိုလ်ချုပ် မျှော်မှန်းတမ်းတ ထုဆစ်ပုံဖော်လိုတဲ့ တိုင်းပြည်မျိုးဖြစ်အောင် ကြိုးပမ်းကြဖို့ တာဝန်ဝတ္တရားတွေ မပြီးသေးတာကို သတိမပြတ်ကြစေရန် မွန်မြတ်တဲ့ ဦးတည်ချက်တွေရှိတယ်လို့ ကျွန်တော် ယုံကြည်ပါတယ်။

- ဗိုလ်ချုပ်အောင်ဆန်းက “ကျွန်တော်တို့ဟာ ဒီမိုကရေစီဝါဒကိုသာ ခေတ်စားအောင် လုပ်ရမယ်၊ “ ဒီမိုကရေစီဝါဒသာ လွတ်လပ်ရေးနဲ့ ဆီလျော်တယ်။ ဒီဝါဒသာ ငြိမ်းချမ်းရေးကို အားပေးတယ်။ အဲဒါကြောင့် ဒီဝါဒကိုသာ ကျွန်တော်တို့ ရည်ရွယ်ရမယ်” လို့ ၁၉၄၅ ခုနှစ်၊ ဩဂုတ်လ စတုတ္ထအကြိမ်မြောက် နိုင်ငံ့ ခေါင်းဆောင်များအစည်းအဝေးမှာ အတိအလင်း မြွက်ကြားခဲ့ပါတယ်။
- ဗိုလ်ချုပ်အောင်ဆန်းက ဒီမိုကရေစီနှင့်စပ်လျဉ်းပြီးတော့လည်း နိုင်ငံသူ နိုင်ငံသားတွေ အလစ်အငိုက် မခံရစေဖို့၊ သတိမမူ ဂူမမြင် မဖြစ်စေဖို့ ပြောကြားခဲ့တာတွေလည်းရှိပါတယ်။ ၁၉၄၇ ခုနှစ်၊ မေလ (၁၉)ရက်နေ့မှာ ကျင်းပတဲ့ ဖဆပလ ပဏာမပြင်ဆင်မှုညီလာခံမှာ “အခု ဒီမိုကရေစီတွေခေါ်နေတဲ့ တိုင်းပြည်များဟာ တကယ့်ဒီမိုကရေစီ မဟုတ်သေးဘူး၊ ငါးမူး သုံးမတ် တစ်ပဲ လောက်ပဲ ဒီမိုကရေစီတွေ ဖြစ်သေးတယ်”။ “ဒီမိုကရေစီတိုင်း ဒီမိုကရေစီတာ မဟုတ်ဘူး။ ဒီမိုကရေစီခေတ်စားလာတဲ့အခါမို့ ရောယောင်ပြီး သံဖမ်းပြော ကြတာတွေလဲ အများကြီးပဲ ” စသည်ဖြင့် နိုင်ငံသူ နိုင်ငံသားများ ဒီမိုကရေစီ အခွင့်အရေး မဆုံးရှုံးစေရန် ပြောကြားခဲ့ပါတယ်။
- ပြည်သူတို့ရဲ့ လွတ်လပ်မှုနဲ့ လုံခြုံမှုကို ကာကွယ်ပေးတဲ့ အုပ်ချုပ်ရေး ယန္တရား ဖြစ်စေရန်၊ တရားဥပဒေစိုးမိုးရေးကို အထောက်အကူပြုတဲ့ အုပ်ချုပ်ရေးစနစ် ဖြစ်လာစေရန် ရည်သန်ပြီး ဗိုလ်ချုပ်အောင်ဆန်းက “တိုင်းသူပြည်သားဆန္ဒအရ မဟုတ်ဘဲ၊ တိုင်းသူ ပြည်သား တွေနဲ့ ကင်းကွာပြီး မင်းစိတ်ပေါက်တဲ့ အရာရှိတွေ ခြယ်လှယ်တဲ့ စနစ်ဆိုးမျိုးရှိနေရင် အများ ပြည်သူတို့ဆန္ဒနဲ့ လုပ်ကိုင်ရတဲ့ ဒီမိုကရေစီဝါဒခေတ်မစားနိုင်တဲ့ ဖက်ဆစ်ဝါဒ ဆင်တူရိုးမှားတွေ ပေါ်လာနိုင်တယ်” လို့ သတိထားကြရန် ပြောခဲ့ပါသေးတယ်။
- ဒ့ါအပြင် တပ်မတော်ရဲ့ဖခင်ကြီး ဗိုလ်ချုပ်အောင်ဆန်းက တပ်မတော်နှင့် စပ်လျဉ်း၍ လည်း လိုက်နာရန် ယခုလို မိန့်ဆို ခဲ့ပါသေးတယ်၊ “ဗမာ့လွတ်လပ်ရေး တပ်မတော်သည် အုပ်ချုပ်ရေး၊ နိုင်ငံရေးနှင့်ပတ်သက်၍ အလျဉ်းစွက်ဘက်ခြင်း ပြုလိမ့်မည်မဟုတ်၊ ဗမာ့ လွတ်လပ်ရေးတပ်မတော်ဗိုလ်များနှင့် တပ်သားများ သည် ပါတီနိုင်ငံရေး၊ အုပ်ချုပ်ရေး ကိစ္စများ နှင့်ပတ်သက်၍ ပါဝင်စွက်ဘက်ခြင်း အလျဉ်းမရှိစေရ”လို့ နိုင်ငံ၏စည်းလုံး ညီညွတ်ရေးကို ရည်ရွယ်၍ ဆောင်ရန် ရှောင်ရန်ကိုလည်း လမ်းညွှန်ခဲ့ကြောင်း ဗိုလ်ချုပ်အောင်ဆန်း၏ နိုင်ငံရေး ဂန္ထဝင်စာအုပ်တွင် လေ့လာတွေ့ရှိရပါတယ်။
- တစ်ဖန် တပ်မတော်ဖခင်ကြီးက တစ်မျိုးသားလုံးညီညွတ်ရေးကို ရည်ရွယ်ပြီး “ဒီတပ်မတော်ဟာ လူတစ်ဦးတစ်ယောက်အတွက် တည်ထောင်ထားတာ

မဟုတ်ဘူး၊ တစ်နိုင်ငံလုံး တစ်မျိုးသားလုံးအတွက်ဖြစ်တယ်။ ဒီတပ်မတော်ဟာ တစ်ဖွဲ့တစ်ပါတီ လူတစ်စုအတွက် တည်ထောင်ထားတာ မဟုတ်ဘူး၊ တစ်နိုင်ငံလုံး တစ်မျိုးသားလုံးအတွက်ဖြစ်တယ်"ဟု မည်သို့သော တပ်မတော်မျိုး ဖြစ်သင့်သည်ကို အထူးသတိပြု ဆင်ခြင်ဖွယ်ရာ မိန့်ကြားခဲ့တာကို ဗိုလ်ချုပ်အောင်ဆန်း၏ ရှားပါးမိန့်ခွန်းတွင် ဖတ်ရှုရပါတယ်။

- ဗိုလ်ချုပ်အောင်ဆန်းက တိုင်းရင်းသားများအရေးနှင့် စပ်လျဉ်း၍လည်း တောင်တန်း ဒေသများအတွက် နယ်တွင်းအုပ်ချုပ်ရေးတွင် ကိုယ်ပိုင်ပြဌာန်းခွင့် အပြည့်အဝရှိကြောင်းကို ပင်လုံစာချုပ် အပိုဒ်-၅ တွင် လက်ခံခဲ့ပါတယ်။ "တောင်တန်းဒေသရှိ ပြည်သူတို့သည် ဒီမိုကရေစီ တိုင်းပြည်များတွင် အခြေခံအခွင့်အရေးနှင့် ရပိုင်ခွင့်များဟု သတ်မှတ်ထားသည့် အခွင့်အရေးများနှင့် ရပိုင်ခွင့်များကို ရရှိခံစားစေရမည်" ဟုလည်း ပင်လုံစာချုပ် အပိုဒ်-၇ တွင် သဘောတူခဲ့ပါတယ်။
- ဒ့ါအပြင် ၁၉၄၇ ခုနှစ်၊ မေလ (၁၉)ရက်နေ့မှာ ကျင်းပတဲ့ ဖဆပလ ပဏာမပြင်ဆင်မှု ညီလာခံတွင် ဗိုလ်ချုပ်အောင်ဆန်းက "ကျွန်တော့် အမြင်အရဆိုရင်တော့ အထက်လူမျိုးရေးအရ ရသင့်ရထိုက်တဲ့ အခွင့်အရေးမျိုးတွေကို စည်းကမ်းသတ်မှတ်ပေးပြီးတော့ (Unitary State) လူမျိုးကြီးတစ်မျိုးတည်းဆိုတဲ့ နိုင်ငံမျိုးတော့ ထောင်လို့မဖြစ်ဘူး၊ ပြည်ထောင်စု သဘောမျိုးပဲ ဖြစ်ရမှာဘဲ" လို့ ပြည်ထောင်စုမြန်မာနိုင်ငံတော် တည်ထောင်ရန် ရှင်းလင်းစွာ လမ်းညွှန်ခဲ့သည်မှာ ဗိုလ်ချုပ်ရဲ့ မွန်မြတ်တဲ့ စေတနာနဲ့ ဖြူစင်တဲ့ သဘောထားကို ကွက်ကွက်ကွင်းကွင်း ပေါ်လွင်စေပါတယ်။

## (၇၂) နှစ်မြောက် ချင်းအမျိုးသားနေ့အခမ်းအနားသို့ ပေးပို့သည့် သဝဏ်လွှာမှ ကောက်နုတ်ချက် ( ၂၀-၂-၂၀၂၀)

- ချင်းအမျိုးသားနေ့သည် ချင်းပြည်နယ်အတွင်း အုပ်ချုပ်ရေးအာဏာနှင့် အခွင့်အရေးအားလုံးကို စော်ဘွားများ၊ တိုက်သူကြီးများ၊ ရွာသူကြီးများကသားစဉ်မြေးဆက် အမွေဆက်ခံကာ ၎င်းတို့လက်ဝယ်ထားရှိသည့် ပဒေသရာဇ် အမွေ၊ ကိုလိုနီအမွေ ပဒေသရာဇ်အုပ်ချုပ်ရေးစနစ်ဟောင်းမှ ဒီမိုကရေစီ အုပ်ချုပ်ရေးစနစ်သစ် ပြောင်းလဲကျင့်သုံးရန် ဆုံးဖြတ်ခဲ့သည့် ဖေဖော်ဝါရီလ ၂၀ ရက်ကို ချင်းအမျိုးသားနေ့အဖြစ် သတ်မှတ်အတည်ပြုခဲ့ကြပါသည်။ ထို့ကြောင့် ၁၉၄၈ ခုနှစ်မှ အစပြုခဲ့သည့် ချင်းအမျိုးသားနေ့သည် ယခုအခါ (၇၂) နှစ်မြောက် ဖြစ်ပါသည်။

- တည်ငြိမ်အေးချမ်းမှုရှိသော်လည်း ပထဝီသွင်ပြင်အနေအထား ထူးခြားသည့် တောင်ကုန်းတောင်တန်းများ ပေါများလှသဖြင့် လမ်းပန်းဆက်သွယ်ရေးအတွက် ကန့်သတ်ချက်များပြားလှသောကြောင့် ချင်းပြည်နယ်သည် ဖွံ့ဖြိုးတိုးတက်မှု အပိုင်းတွင် နှောင့်နှေး ခဲ့ရသည်မှာ များစွာစိတ်မကောင်းဖြစ်ဖွယ်ရာ ဖြစ်ပါသည်။ သို့ရာတွင် မိမိတို့အစိုးရအနေဖြင့် နိုင်ငံဖွံ့ဖြိုးတိုးတက်ရေးဆောင်ရွက်ရာတွင် ဖွံ့ဖြိုးမှုအားနည်းသည့် ဒေသများ မကျန်ခဲ့စေရေးအတွက် အလေးထားပြီး ဆောင်ရွက်လျက်ရှိသည်နှင့်အညီ တောင်ကုန်းတောင်တန်းများ ထူထပ်ပြီး လမ်းပန်းဆက်သွယ်ရေးခက်ခဲသည့် ချင်းပြည်နယ်တွင် လမ်းများ အသစ်ဖောက် လုပ်ခြင်း၊ ပြုပြင်ခြင်း၊ အဆင့်မြှင့်တင်ခြင်းများ ဦးစားပေးဆောင်ရွက်လျက် ရှိပါသည်။ အလားတူ ချင်းတိုင်းရင်းသားများ၏ လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက် ရေးအတွက် ပညာရေး၊ ကျန်းမာရေးနှင့် လျှပ်စစ်ကဏ္ဍတို့တွင်လည်း တိုးတက်မှု ရရှိအောင် ဆောင်ရွက်လျက်ရှိပါသည်။ ထိုသို့ ဆောင်ရွက်ရာတွင် နိုင်ငံတော် အစိုးရ၊ ပြည်နယ်အစိုးရတို့နှင့်အတူ ချင်းတိုင်းရင်းသား ပြည်သူများကလည်း လက်တွဲကြိုးပမ်းဆောင်ရွက်သွားကြရန် လိုအပ်ပါသည်။
- နိုင်ငံတော်အစိုးရအနေဖြင့် တိုင်းရင်းသားလူမျိုးအသီးသီးတို့၏ ထုံးတမ်းအစဉ် အလာများ၊ ယဉ်ကျေးမှုရိုးရာဓလေ့ပွဲတော်များ၊ ဘာသာစကား၊ စာပေနှင့် တိုင်းရင်းသား အခွင့်အရေးများကိုလည်း ပိုမိုတိုးတက်ဖွံ့ဖြိုးစေရန် ရည်မှန်းချက် ထား ဆောင်ရွက်လျက်ရှိပါသည်။ ချင်းတိုင်းရင်းသားမျိုးနွယ်စုများအနေဖြင့် လည်း မိမိတို့ ဘာသာစကား၊ စာပေ၊ ယဉ်ကျေးမှု၊ ဓလေ့ထုံးတမ်းအစဉ်အလာများ ဖွံ့ဖြိုးတိုးတက်ပြီး မိမိတို့၏ ရိုးရာယဉ်ကျေးမှုများ မပျောက်ပျက်အောင် မြှင့်တင်ထိန်းသိမ်းရေး ကြိုးပမ်းဆောင်ရွက်သွားကြရန် တိုက်တွန်းလိုပါသည်။ မတူညီသော တိုင်းရင်းသားလူမျိုးစုတို့၏ ယဉ်ကျေးမှု၊ ဓလေ့ထုံးတမ်းနှင့် ဘာသာစာပေတို့သည် ပြည်ထောင်စု၏ပဒေသာစုံ အလှတရားများပင် ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ မိမိတို့၏ ရိုးရာယဉ်ကျေးမှု ဓလေ့ထုံးတမ်း၊ ဘာသာ စကား၊ စာပေများကို ယခုထက်မက တိုးမြှင့်ပြီး ထိန်းသိမ်းကာကွယ်၍ ပြည်ထောင်စုကြီး၏ အလှကို ဖန်တီးပုံဖော်ပေးကြရန် တိုက်တွန်းလိုပါသည်။

**အိန္ဒိယသမ္မတနိုင်ငံ နယူးဒေလီမြို့၌ နိုင်ငံတော်သမ္မတ ဦးဝင်းမြင့်နှင့် အိန္ဒိယသမ္မတနိုင်ငံသမ္မတ ရှရီရမ်နက်သ်ကိုဗင့်ဒ်တို့သည် သမ္မတအိမ်တော် North Drawing Room ၌ တွေ့ဆုံဆွေးနွေးကြစဉ် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂၈-၂-၂၀၂၀)**

- မကြာသေးမီနှစ်များအတွင်း နှစ်နိုင်ငံအဆင့်မြင့် ကိုယ်စားလှယ်အဖွဲ့များ မကြာခဏ အပြန်အလှန် သွားလာလည်ပတ်မှုများ ရှိခဲ့ပါကြောင်း၊ ၂၀၁၈ ခုနှစ်တွင် အဆွေတော် အိန္ဒိယသမ္မတကြီး ရှရီ ရမ် နက်သ် ကိုဗင့်ဒ်နှင့် ၂၀၁၇ ခုနှစ်၊ စက်တင်ဘာလတွင် အိန္ဒိယဝန်ကြီးချုပ် နာရန်ဒရာမိုဒီတို့ မြန်မာနိုင်ငံသို့ လာရောက်ခဲ့သည့် ချစ်ကြည်ရေးခရီးစဉ်များသည် နှစ်နိုင်ငံပြည်သူများ အကျိုးစီးပွားအတွက် နှစ်နိုင်ငံအကျိုးတူ ပူးပေါင်းဆောင်ရွက်မှုနယ်ပယ်ကို ပိုမို ကျယ်ပြန့်လာစေပြီး နှစ်နိုင်ငံ ဆက်ဆံရေးကို ပိုမိုနက်ရှိုင်းစေခဲ့ပါကြောင်း။
- အိန္ဒိယနိုင်ငံ၏ "အရှေ့နှင့်ထိတွေ့ဆက်ဆံရေးမူဝါဒ"နှင့် "အိမ်နီးချင်းဦးစားပေးမူဝါဒ"များနှင့် မြန်မာနိုင်ငံ၏ "လွတ်လပ်၍ တက်ကြွပြီး ဘက်မလိုက်သောနိုင်ငံခြားရေးမူဝါဒ" များသည် မိမိတို့၏အတူတကွ ကြိုးပမ်းအားထုတ်မှုများကို ပိုမိုအားဖြည့်ပေးလျက်ရှိပါကြောင်း။ အိန္ဒိယနိုင်ငံနှင့် အာဆီယံအဖွဲ့အကြား ပေါင်းစည်းဆက်နွယ်မှု ပိုမိုကောင်းမွန်လာအောင် ကြိုးပမ်းရာတွင် မိမိတို့နိုင်ငံ၏ မဟာဗျူဟာမြောက်သည့် ပထဝီဝင်အနေအထားအရ မြန်မာနိုင်ငံသည် အိန္ဒိယနိုင်ငံအတွက် အရှေ့တောင်အာရှကို ဝင်-ထွက် သွားလာနိုင်မည့် ဝင်ပေါက်အဖြစ် အဓိကအခန်းကဏ္ဍမှ ပါဝင်ဆောင်ရွက်ပေးနိုင်မည် ဖြစ်ပါကြောင်း။
- မိမိတို့ အကောင်အထည်ဖော်လျက်ရှိသည့် အိန္ဒိယ-မြန်မာ-ထိုင်း သုံးနိုင်ငံအဝေးပြေး လမ်းမကြီးစီမံကိန်းနှင့် ကုလားတန်မြစ်ကြောင်း ဘက်စုံသုံးပို့ဆောင်ရေးစီမံကိန်းကဲ့သို့သော အခြေခံအဆောက်အဦစီမံကိန်းများ ပြီးစီးခဲ့ပါက ဖွံ့ဖြိုးမှုနောက်ကျလျက်ရှိသည့် မြန်မာနိုင်ငံ၏ အနောက်မြောက်ပိုင်းဒေသနှင့် အိန္ဒိယနိုင်ငံ၏ အရှေ့မြောက်ပိုင်းဒေသတို့မှ ပြည်သူများအတွက် များစွာအကျိုးဖြစ်ထွန်းစေမည်ဟု ယုံကြည်ပါကြောင်း၊ ယခုကဲ့သို့ အရေးကြီးသည့် အခြေခံအဆောက်အဦဆိုင်ရာ စီမံကိန်းများ ဆောလျင်စွာ ပြီးစီးအောင် အတူတကွ ဆောင်ရွက်ရန်အတွက် မိမိတို့ နှစ်နိုင်ငံ၏ ကတိကဝတ်များကို ထပ်လောင်းပြီး အတည်ပြုကြရမည် ဖြစ်ပါကြောင်း။
- မြန်မာနိုင်ငံသည် သိမ်မွေ့နက်နဲလှသည့် ဒီမိုကရေစီအသွင်ကူးပြောင်းမှုကာလကို ဖြတ်သန်းလျက်ရှိရာ စိန်ခေါ်မှုများစွာ ရင်ဆိုင်ကြုံတွေ့နေရပါကြောင်း၊

တစ်နိုင်ငံ၏ စိန်ခေါ်မှုများကို အခြားတစ်နိုင်ငံက နားလည်ပြီး၊ အပြုသဘော ဆောင်သည့် ပံ့ပိုးကူညီမှုများပေးခြင်းသည် နှစ်နိုင်ငံဆက်ဆံရေး ပိုမို တိုးတက် ခိုင်မာလာစေရန်အတွက် အရေးကြီးသည့် အချက်တစ်ရပ်ဖြစ်ပါကြောင်း၊ အခွင့် ကြုံခိုက် ဒေသဆိုင်ရာနှင့် နိုင်ငံတကာမျက်နှာစာတွင် အိန္ဒိယအစိုးရအနေဖြင့် မြန်မာနိုင်ငံအပေါ် တစ်စိုက်မတ်မတ် ဆက်လက်ထောက်ခံပေးလျက်ရှိသည့် အတွက် ကျေးဇူးတင်ရှိပါကြောင်း၊ အာဆီယံ-အိန္ဒိယ မဟာဗျူဟာကျသည့် မိတ်ဖက်ဆက်ဆံရေး၊ ဘင်းမ်စတက်၊ ဂင်္ဂါ-မဲခေါင် ပူးပေါင်းဆောင်ရွက်ရေးနှင့် ကုလသမဂ္ဂ စသည့် ဒေသဆိုင်ရာနှင့် နိုင်ငံတကာ မျက်နှာစာများတွင် အိန္ဒိယ နိုင်ငံနှင့် ပိုမိုနီးကပ်စွာ ဆက်လက်ဆောင်ရွက်သွားရန် လိုလားပါကြောင်း ထပ်လောင်း အတည်ပြု ပြောကြားလိုပါကြောင်း။

## နိုင်ငံတော်သမ္မတ ဦးဝင်းမြင့် တောင်သူလယ်သမားနေ့ အခမ်းအနားသို့ ပေးပို့သည့် သဝဏ်လွှာမှ ကောက်နုတ်ချက် (၁-၃-၂၀၂၀)

- မိမိတို့ အစိုးရအဖွဲ့အနေဖြင့်လည်း စိုက်ပျိုးမွေးမြူရေးထုတ်ကုန်များ၏ အထွက် နှုန်းတိုးတက်ရေးအတွက်သာမက စားသုံးသူပြည်သူများ၏ အစားအစာလုံခြုံ စိတ်ချမှုရှိရေးနှင့် လယ်ယာထွက်ကုန်များ နိုင်ငံတကာဈေးကွက်တွင် တိုးတက် ယှဉ်ပြိုင်နိုင်ရေးအတွက် အခြေခံအုတ်မြစ်ကောင်းများ ရရှိစေရန် စိုက်ပျိုးရေး ဆိုင်ရာ အလေ့အကျင့်ကောင်းများ၊ ကောင်းမွန်သောမွေးမြူရေးကျင့်စဉ်။ ကောင်းမွန်သော ရေသတ္တဝါမွေးမြူရေးကျင့်စဉ်တို့နှင့်အညီ စိုက်ပျိုးမွေးမြူထုတ် လုပ်နိုင်ရေး၊ ဟင်းသီးဟင်းရွက်သစ်သီးဝလံနှင့် လယ်ယာသီးနှံများ၊ သားငါးများ၏ အရည်အသွေးကောင်းမွန်ရေး၊ ဓာတ်ကြွင်းအာနိသင်များ ကင်းစင်ရေး၊ ရိတ်သိမ်း ချိန်လွန် ဆုံးရှုံးမှုလျော့ချရေး နည်းပညာများပါဝင်သည့် စိုက်ပျိုးမွေးမြူရေးဆိုင်ရာ အလေ့အကျင့်ကောင်းများနှင့် သက်ဆိုင်သည့် လမ်းညွှန်များများ ရေးဆွဲ ထုတ်ပြန်၍ ပညာပေးဆောင်ရွက်လျက်ရှိသည်။
- ပြောင်းလဲလာသည့် ရာသီဥတုနှင့်အညီ ရေကို အကျိုးရှိရှိထိရောက်စွာ အသုံးပြု နိုင်ရေးကိုလည်း ဆောင်ရွက်လျက်ရှိပါသည်။ ရေလိုအပ်ချက်နည်းသော သက်တမ်းတိုသီးနှံများကို စိုက်ပျိုးခြင်း၊ ဒေသအခြေအနေပေါ်မူတည်၍ သီးနှံနှင့် သီးနှံပုံစံများ ပြောင်းလဲစိုက်ပျိုးခြင်း၊ စပါးစိုက်ပျိုးရာတွင် ရေသွင်း၊ ရေခန်းစနစ် အသုံးပြု၍ စိုက်ပျိုးစေခြင်း၊ ရေကိုချွေတာသုံးစွဲနိုင်သည့် ခေတ်မီရေသွင်း ကိရိယာများ အသုံးပြုစိုက်ပျိုးစေခြင်းစသည့် ပညာပေးလုပ်ငန်းများ၊ သရုပ် ပြပွဲများ ဆောင်ရွက်လျက်ရှိပါသည်။ အပူပိုင်းဇုန်ဒေသများတွင်လည်း ရေတွင်း များတူးပေးခြင်း၊ ရေစု/ရေလှောင်ကန်များပြုလုပ်ပေးခြင်း၊ ရေရရှိမှုအပေါ်

မှုတည်ပြီး နွေစပါးအစား အခြားသီးနှံများစိုက်ပျိုးမည့်အစီအစဉ်များရေးဆွဲခြင်းတို့ကို ဆောင်ရွက်ပေးလျက်ရှိပါသည်။ ထို့အပြင် ဆည်တာတမံကြီးများ၊ မြစ်ရေတင်လုပ်ငန်းကြီးများတွင် စိုက်ပျိုးရေးကို ပိုမိုထိရောက်စွာနှင့် ရေရှည်အသုံးပြုနိုင်ရေးအတွက် ထိန်းသိမ်းမွမ်းမံခြင်းလုပ်ငန်းများ၊ ရေကိုအကျိုးရှိစွာချွေတာသုံးစွဲရေး ပညာပေးလုပ်ငန်းများလည်း ဆောင်ရွက်လျက်ရှိပါကြောင်း။

- ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလ (၂၇) ရက်နေ့တွင် ကျေးလက်ဒေသ ဖွံ့ဖြိုးတိုးတက်ရေးဥပဒေကိုလည်း ပြဋ္ဌာန်းခဲ့ပြီးဖြစ်သည်။ ယင်းဥပဒေတွင်ပါရှိသော တောင်သူလယ်သမားအများစုနေထိုင်ရာ ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေးနှင့် လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်ရေး၊ မြို့ပြနှင့် ကျေးလက်ဒေသအကြား လူမှုအဆင့်အတန်းကွာဟချက်များ ကျဉ်းမြောင်းစေရေး၊ လူ့စွမ်းအားနှင့် ငွေကြေးအရင်းအနှီးများကို ထိရောက်အကျိုးရှိစွာ အသုံးချနိုင်ရေး၊ ကျေးလက်ဒေသနေပြည်သူများ၏ စွမ်းဆောင်ရည် တိုးတက်လာစေရေးနှင့် ဘေးအန္တရာယ်များကျရောက်လာပါက တုံ့ပြန်ကာကွယ်ဆောင်ရွက်နိုင်မှု အားကောင်းသော လူမှုအဖွဲ့အစည်း ဖြစ်ပေါ်လာစေရေး စသည့်ရည်မှန်းချက်များအောင်မြင်အောင် ဝိုင်းဝန်းကြိုးပမ်းကြရမည်ဖြစ်ပါသည်။
- နိုင်ငံတော်က တောင်သူလယ်သမားများ သီးနှံစိုက်ပျိုးရာတွင် မိမိဒေသနှင့်ကိုက်ညီမည့် မိမိတို့အကျိုးစီးပွားဖြစ်ထွန်းစေသော သီးနှံများကို စိုက်ပျိုးခွင့်ပေးထားပြီးဖြစ်သည်နှင့်အညီ စီးပွားရေးတွက်ခြေကိုက်သော ဈေးကွက်ဝင်သီးနှံများ စိုက်ပျိုးနိုင်ရေးအတွက် တောင်သူလယ်သမားများ၏ လိုအပ်ချက်များကို အစဉ်တစိုက် လေ့လာပံ့ပိုး ကူညီဆောင်ရွက်ပေးလျက်ရှိပါသည်။ တောင်သူလယ်သမားများကိုယ်တိုင် မျိုးစေ့ထုတ်လုပ်နိုင်ရန်၊ မျိုးစေ့ထုတ်သင်တန်းများ ပို့ချခြင်း၊ မျိုးစေ့ထုတ်အဖွဲ့အစည်းများ ဖွဲ့စည်းဆောင်ရွက်ပေးခြင်း၊ မျိုးကောင်းမျိုးသန့်များပွားများနိုင်ရေးအတွက် ကျေးရွာမျိုးစေ့ဘဏ်များထူထောင်ပေးခြင်း၊ သက်ဆိုင်ရာဘာသာရပ်အလိုက် ကျွမ်းကျင်သူများက မြေဆီလွှာ၊ မျိုးစေ့နှင့်သီးနှံ ကာကွယ်ရေးဆိုင်ရာကိစ္စရပ်များကို စစ်ဆေးမှုများပြုလုပ်ပေးခြင်း၊ ဘက်စုံအဆင့်မြင့်နည်းပညာသုံး စံပြကျေးရွာများကိုတည်ထောင်ပေးခြင်းများ ဆောင်ရွက်ပေးလျက်ရှိပါသည်။
- ခေတ်မီစိုက်ပျိုးနည်းပညာများ၊ ရာသီဥတုဆိုင်ရာသတင်းအချက်အလက်များနှင့် ဈေးကွက်ဆိုင်ရာ သတင်းအချက်အလက်များကို တောင်သူလယ်သမားကြီးများ အချိန်နှင့်တစ်ပြေးညီ သိရှိအသုံးချနိုင်ရေးအပါအဝင် လယ်ယာကဏ္ဍဆိုင်ရာသတင်းများ၊ ပညာပေးနှင့် ဖြေဖျော်ရေးအစီအစဉ်များစသည့် ကဏ္ဍစုံပါဝင်သော “တောင်သူလယ်သမားကဏ္ဍာရုပ်သံလိုင်း(Farmer Channel)”

အစီအစဉ်နှင့် တောင်သူလယ်သမားများ ဗဟုသုတရရှိရေး အတွက် ဂျာနယ်များ၊ ပညာပေးစာစောင်များ၊ လယ်ယာစီးပွားသတင်းများ ထုတ်ပြန်ပေးနေသည့် အပြင် စိုက်ပျိုးနည်းပညာများ လွယ်လင့်တကူရရှိနိုင်ရန် မိုဘိုင်းဖုန်းများမှ Mobile Application များဖြင့် မိုးလေဝသသတင်းများ၊ လယ်ယာကဏ္ဍနှင့် ဈေးကွက်ဆိုင်ရာ အချက်အလက်များ၊ စိုက်ပျိုးရေးဆိုင်ရာနည်းပညာများကို ထုတ်ပြန်ဝန်ဆောင်မှုပေးနေသဖြင့် တောင်သူလယ်သမားများ အချိန်နှင့် တစ်ပြေးညီ လေ့လာသိရှိနိုင်ကြပြီ ဖြစ်ပါသည်။

- ထို့အပြင် နိုင်ငံတော်အစိုးရအနေဖြင့် စပါးစိုက်တောင်သူများ နစ်နာမှုနည်းပါးစေရေး၊ ဆန်စပါးဈေးကွက်ခိုင်မာစေရေးတို့အတွက်လည်း စပါးဈေးနှုန်းအား တင်း(၁၀၀)လျှင် အနိမ့်ဆုံး ကျပ် (၅) သိန်း သတ်မှတ်ကြေညာပေးခဲ့ပါသည်။ သိမ်းဆည်းခံခဲ့ကြရသော တောင်သူလယ်သမားများ၏ လယ်ယာမြေများ ပြန်လည်ရရှိအောင် ဆောင်ရွက်ပေးခြင်း၊ စွန့်လွှတ်ပေးနိုင်ခြင်းမရှိသော လယ်ယာမြေများအား လျော်ကြေး၊ နစ်နာကြေးများပေးစေခြင်း၊ မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများကိုလည်း လုပ်ကွက်ယ်တောင်သူလယ်သမားများ၊ ဒေသခံ တိုင်းရင်းသား များအား ဦးစားပေး၍ စိုက်ပျိုးလုပ်ကိုင်နိုင်ရန် စိစစ်ခွင့်ပြု ချထားပေးခြင်း၊ ခေတ်ကာလနှင့်အညီ လယ်ယာမြေဥပဒေကို ပြန်လည်ပြင်ဆင်ရေးဆွဲခြင်း၊ လယ်ယာမြေများ တရားဝင်လုပ်ပိုင်ခွင့်ခိုင်မာစွာရရှိစေခြင်း၊ ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ပြီး တောင်သူလယ်သမားများ၏ အခြားဝင်ငွေ ရရှိစေရန် အခွင့်အလမ်းများ ဖန်တီးပေးခြင်းတို့ကို ကြိုးပမ်းဆောင်ရွက်လျက် ရှိပါသည်။

## (၄၆) နှစ်မြောက် မွန်ပြည်နယ်နေ့ အခမ်းအနားသို့ ပေးပို့သည့်သဝဏ်လွှာမှ ကောက်နုတ်ချက် (၁၉-၃-၂၀၂၀)

- ယခင်က မွန်ပြည်နယ်သည် တနင်္သာရီတိုင်းအတွင်းပါဝင်ခဲ့သော်လည်း အမြော်အမြင် ကြီးမားသည့် မွန်တိုင်းရင်းသားခေါင်းဆောင်များ၏တင်ပြမှုကြောင့် ၁၉၇၄ ခုနှစ်၊ ဖွဲ့စည်းပုံ အခြေခံဥပဒေမူကြမ်းတွင် "မွန်ပြည်နယ်"ဟု ကမ္ပည်းစတင်ရေးသားခဲ့သည့် ၁၉၇၄ ခုနှစ်၊ မတ်လ ၁၉ ရက်နေ့ကို "မွန်ပြည်နယ် နေ့" အဖြစ် သတ်မှတ်ပြီး အခမ်းအနားကို နှစ်စဉ်ကျင်းပ ခဲ့သည်မှာ ယနေ့ဆိုလျှင် (၄၆) ကြိမ်မြောက် တိုင်ခဲ့ပြီဖြစ်ပါသည်။
- မိမိတို့အစိုးရအနေဖြင့် တိုင်းရင်းသားပြည်သူများအားလုံး နှစ်ပေါင်းကြာရှည်မျှော်လင့်တောင့်တခဲ့ရသည့် ရေရှည်တည်တံ့ခိုင်မြဲသော ငြိမ်းချမ်းရေးရရှိရန်

အတွက် လက်နက်ကိုင် ပဋိပက္ခများ၏ အရင်းခံအကြောင်းတရားဖြစ်သည့် နိုင်ငံရေးပြဿနာများကိုနိုင်ငံရေးနည်းလမ်းဖြင့်တွေ့ဆုံဆွေးနွေးညှိနှိုင်းဖြေရှင်းနိုင်ရန်၊ တိုင်းရင်းသား ညီအစ်ကို မောင်နှမများ လက်ခံနိုင်မည့် ဒီမိုကရေစီ ဖက်ဒရယ်ပြည်ထောင်စုကြီး တည်ဆောက်နိုင်ရန်တို့ကို ပြည်ထောင်စု ငြိမ်းချမ်းရေးညီလာခံ-(၂၁) ရာစုပင်လုံအစည်းအဝေး များကျင်းပပြီး အကောင်အထည်ဖော် ကြိုးပမ်းဆောင်ရွက်လျက်ရှိပါသည်။

- မွန်ပြည်နယ်တွင် တိုင်းရင်းသားညီအစ်ကိုမောင်နှမများအချင်းချင်း ရင်းနှီးပွင့်လင်းစွာ ဆွေးနွေးညှိနှိုင်းမှုများ၏ ကောင်းကျိုးရလဒ်အဖြစ် ပစ်ခတ်တိုက်ခိုက်မှုများရပ်စဲနိုင်ခဲ့ပြီး ဖြစ်ပါသည်။ ပစ်ခတ်တိုက်ခိုက်မှုများရပ်စဲပြီး ငြိမ်းချမ်း၊ တည်ငြိမ်လာသည်နှင့်အမျှ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး၊ ပညာရေး၊ ကျန်းမာရေး၊ လမ်းပန်းဆက်သွယ်ရေး စသည်ဖြင့် ပြည်သူတို့၏လူမှုစီးပွားဘဝတွင် ဖွံ့ဖြိုးတိုးတက်မှုအသီးအပွင့်များ အထိုက်အလျောက် ရရှိခံစားနေကြ ရပြီဖြစ်ပါသည်။ ပစ်ခတ်တိုက်ခိုက်မှုများရပ်စဲရေးမှသည် ရေရှည်တည်တံ့ခိုင်မြဲသော ငြိမ်းချမ်းရေးရရှိသည်အထိ တစိုက်မတ်မတ် ကြိုးစားဆောင်ရွက်သွားကြရန်ကိုလည်း အလေးထားဂရုပြုကြရမည်ဖြစ်ပါသည်။

## ဘဏ္ဍာရေးကော်မရှင်(၁/၂၀၂၀)တွင် ပြောကြားသောလမ်းညွှန်ချက်မှ ကောက်နုတ်ချက် (၇-၄-၂၀၂၀)

- ပြည်ထောင်စုအဆင့်ဌာန၊ အဖွဲ့အစည်းများ၊ တိုင်းဒေသကြီး/ပြည်နယ်အဆင့် ဌာန၊ အဖွဲ့အစည်းများအနေဖြင့် ထပ်မံခွင့်ပြုပေးမည့် အသုံးစရိတ်များကို ဘဏ္ဍာရေးနှစ်အတွင်း ဘဏ္ဍာရေးစည်းမျဉ်း၊ စည်းကမ်းနှင့်အညီ စနစ်တကျ စိစစ်သုံးစွဲရန် တာဝန်ရှိပါကြောင်း၊ ထို့ပြင် နိုင်ငံခြားသုံးငွေနှင့်သုံးစွဲမှုများကိုလည်း ထိန်းထိန်းသိမ်းသိမ်း ဆောင်ရွက်ကြရန် တတ်နိုင်သမျှ နိုင်ငံခြားသုံးငွေဖြင့် သုံးစွဲမည့်အစား ပြည်တွင်းကျပ်ငွေ ဖြင့်သာသုံးစွဲကြရန် အထူးမှာကြားလိုပါကြောင်း။ လက်ရှိအခြေအနေတွင် COVID-19 ကြောင့်ဖြစ်ပွားသည့် အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါသည် ကမ္ဘာ့ကပ်ရောဂါဆိုး တစ်ခုအနေဖြင့် ဖြစ်ပေါ်နေခြင်းကြောင့် ကမ္ဘာတစ်ဝန်းလုံးတွင် စီးပွားရေးအပေါ် သက်ရောက်မှုများ ရှိလာပါကြောင်း၊ ကမ္ဘာ့စီးပွားရေး ကျဆင်းမှုသည် မိမိတို့နိုင်ငံ၏ စီးပွားရေး တိုးတက်မှုနှုန်းအပေါ် သက်ရောက်မှုရှိမည် ဖြစ်ပါကြောင်း၊ ပြည်တွင်း၊ ပြည်ပ ရင်းနှီးမြှုပ်နှံမှုများ ကျဆင်းမှုရှိနိုင်သဖြင့် စီးပွားရေး ဖွံ့ဖြိုးမှုနှုန်းအပေါ် ထိခိုက်နိုင်မှုကိုလည်း ကြိုတင်သုံးသပ် တွက်ချက်ထားရမည် ဖြစ်ပါကြောင်း။

- အခွန်အကောက်ရငွေ လျာထားချက်အပေါ်တွင်လည်း သက်ရောက်မှုရှိနိုင်သဖြင့် အသုံးစရိတ်များကို ပိုမိုပြီး စိစစ်သုံးစွဲကြစေလိုပါကြောင်း၊ ရငွေပေါ်မူတည်ပြီး အသုံးစရိတ် ကို ခွဲဝေပေးရသည့်အတွက် ဖြည့်စွက်ခွင့်ပြုငွေ တောင်းခံမှုများကို စိစစ်ရာတွင် လိုငွေပမာဏ မများစေရန်နှင့် ဘဏ္ဍာရေးနှစ်အတွင်း အချိန်မီပြီးစီး နိုင်ပြီး နိုင်ငံနှင့်ပြည်သူအကျိုးကို တိုက်ရိုက် အကျိုးပြုနိုင်မည့် အသုံးစရိတ်များ ကိုသာ စိစစ်ခွင့်ပြုပေး ခြင်းဖြစ်ပါကြောင်း။
- တိုင်းဒေသကြီး/ ပြည်နယ်အစိုးရအဖွဲ့များအနေဖြင့်လည်း ထပ်မံရရှိသည့် ဖြည့်စွက်ခွင့်ပြုငွေများကို ဒေသခံပြည်သူများ၏ လိုအပ်ချက်နှင့် တစ်ထပ်တည်း ဖြစ်စေမည့် ဒေသဖွံ့ဖြိုးရေး လုပ်ငန်းများတွင် အသုံးပြုကြရန်၊ ဆောင်ရွက်ရမည့် လုပ်ငန်းစီမံကိန်းများကို သတ်မှတ်ထားသည့် ကာလအတွင်း အချိန်မီပြီးစီးစေ ရန်နှင့် အရည်အသွေး ပြည့်မီစေရန်အတွက် စစ်ဆေး၊ ကြပ်မတ် စီမံဆောင်ရွက် သွားကြရန်ကိုလည်း အထူးမှာကြားလိုပါကြောင်း။
- ပြည်ထောင်စုအဆင့်ဌာန၊ အဖွဲ့အစည်းများနှင့် တိုင်းဒေသကြီး/ပြည်နယ်အဆင့် ဌာန၊ အဖွဲ့အစည်းများ အနေဖြင့် ရငွေကိုတတ်နိုင်သမျှ လျာထားချက်ပြည့်မီ အောင် ရှာဖွေကြရမည်ဖြစ်ပြီး အသုံးစရိတ်များကို သုံးစွဲရာတွင်လည်း ဘဏ္ဍာရေး စည်းမျဉ်းစည်းကမ်းများနှင့်အညီ သက်ဆိုင်ရာဘဏ္ဍာရေးနှစ်အတွင်း ထိရောက်စွာ အလေအလွင့်မရှိအောင် စိစစ်သုံးစွဲကြရန် လိုအပ်ပါကြောင်း။
- ပြည်ထောင်စုအဆင့် ဌာန၊ အဖွဲ့အစည်းများ၊ တိုင်းဒေသကြီး/ ပြည်နယ် အဆင့် ဌာန၊ အဖွဲ့အစည်းများအားလုံးကို အထူးသတိပေး မှာကြားလိုသည်မှာ သတ်မှတ် ထားသည့် လုပ်ထုံးလုပ်နည်းနှင့် မညီသော တင်ဒါခေါ်ယူမှုများ၊ တင်ဒါစည်းမျဉ်း များအတွင်း လက်တစ်လုံးခြား လုပ်ကိုင်ဆောင်ရွက်မှုများကို ဆောင်ရွက်ခြင်း မပြုဘဲ နိုင်ငံတော်သမ္မတရုံး၏ ညွှန်ကြားချက် ၁/ ၂၀၁၇ နှင့်အညီ ဆောင်ရွက် ကြရန်ဖြစ်ပါကြောင်း။

**အလုပ်သမားနေ့ အခမ်းအနားသို့ ပေးပို့သော သဝဏ်လွှာမှ ကောက်နုတ်ချက် (၁-၅-၂၀၂၀)**

- နိုင်ငံတော်အစိုးရအနေဖြင့် နိုင်ငံတွင်း အစိုးရ၊ အလုပ်ရှင်၊ အလုပ်သမား သုံးပွင့်ဆိုင် ဆက်ဆံရေးကောင်းမွန်ပြီး တည်ငြိမ်အေးချမ်းသည့် လုပ်ငန်းခွင်များ ဖြစ်ပေါ်စေရေး၊ အလုပ်သမားဥပဒေပါ အကျိုးခံစားခွင့်များ ရရှိစေရေး၊ ပြည်တွင်းပြည်ပ၌ သင့်လျော်ကောင်းမွန်သည့် အလုပ်အကိုင်ရရှိစေရေးနှင့် လုံခြုံစိတ်ချရသော ရွှေ့ပြောင်းသွားလာမှုဖြစ်ပေါ်စေရေး၊ လုပ်သားထုယှဉ်ပြိုင်

နိုင်စွမ်း မြှင့်တင်ပေးနိုင်ရန် လုပ်ငန်းခွင်ကျွမ်းကျင်မှု လေ့ကျင့်သင်ကြားပေးရေး၊ အလုပ်သမားများအတွက် လူမှုအကာအကွယ်နှင့် ကျန်းမာရေးစောင့်ရှောက်မှုပေးနိုင်သည့် လူမှုဖူလုံရေးစီမံကိန်း အကောင်အထည်ဖော်ဆောင်ရွက်ရေး၊ လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းစေရေးနှင့် လုပ်ငန်းခွင်မတော်တဆထိခိုက်မှု၊ လုပ်ငန်းခွင်ရောဂါရှိခံစားမှု လျော့နည်းကျဆင်းရေး၊ အလုပ်သမားရေးရာ အငြင်းပွားမှုများကို လွတ်လပ်ပြီး တရားမျှတမှုရှိသော သုံးပွင့်ဆိုင်စနစ်ဖြင့် ညှိနှိုင်းဖျန်ဖြေဆုံးဖြတ်ပေးရေးတို့အတွက် ဥပဒေများပြဋ္ဌာန်းပြီး စည်းကြပ်ဆောင်ရွက်ပေးလျက်ရှိသည်။

- စတုတ္ထစက်မှုတော်လှန်ရေး (Industrial Revolution 4.0) ခေတ်ကာလတွင် အလုပ်သမားများ၏ ကျွမ်းကျင်မှု အရေးပါလာသောကြောင့် မြန်မာလုပ်သားထု ကျွမ်းကျင်မှု ဖွံ့ဖြိုးတိုးတက်စေရန် မြန်မာနိုင်ငံလုပ်သားများ ကျွမ်းကျင်မှု ‘စံ’ သတ်မှတ်ပြဋ္ဌာန်းရေးအဖွဲ့ (National Skills Standards Authority– NSSA) ဖွဲ့စည်းခဲ့ပါသည်။
- နိုင်ငံတွင်း ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေးနှင့်ဆင်းရဲနွမ်းပါးမှုလျှော့ချရေးကို အထောက်အကူဖြစ်စေရန် Decent Work Country Programme– DWCP (2018–2021) ကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် အမျိုးသားအဆင့် အခမ္မခိုင်းစေမှုဆိုင်ရာ တိုင်ကြားမှုယန္တရားအကောင်အထည်ဖော်ရေး အမျိုးသားကော်မတီဖွဲ့စည်း၍ အထူးအလေးထားအကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါကြောင်း။
- အလုပ်သမားများ၏ လူမှုဘဝလုံခြုံရေးနှင့်ကျန်းမာရေးစောင့်ရှောက်မှုများ ပိုမိုရရှိခံစားနိုင်ရေး၊ ကုန်ထုတ်လုပ်မှုတိုးတက်ပြီး နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူဖြစ်ရေးအတွက် ၂၀၁၂ ခုနှစ်၊ လူမှုဖူလုံရေးဥပဒေနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ပေးလျက်ရှိရာ၂၀၂၀ ပြည့်နှစ်ဇန်နဝါရီလအထိ လူမှုဖူလုံရေးစီမံကိန်း အကျုံးဝင်သည့် အာမခံအလုပ်သမားများဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူဖြစ်ရေးအတွက် ၂၀၁၂ ခုနှစ်၊ လူမှုဖူလုံရေးဥပဒေနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ပေးလျက်ရှိရာ၂၀၂၀ ပြည့်နှစ်ဇန်နဝါရီလအထိ လူမှုဖူလုံရေးစီမံကိန်း အကျုံးဝင်သည့် အာမခံအလုပ်သမားအင်အား ၁ ဒသမ ၄၆ သန်းကျော်ရှိပြီဖြစ်ပါသည်။ လူမှုဖူလုံရေးအဖွဲ့အနေဖြင့် အာမခံအလုပ်သမားများအတွက် လူမှုဖူလုံရေးအကျိုးခံစားခွင့်များ ထိရောက်မြန်ဆန်စွာ ဆောင်ရွက်ပေးနိုင်ရန် သတင်းအချက်အလက်နှင့် နည်းပညာကဏ္ဍပြုပြင်ပြောင်းလဲခြင်း၊ ကျန်းမာရေးဝန်ဆောင်မှုကဏ္ဍပြုပြင်ပြောင်းလဲခြင်း၊

စီမံခန့်ခွဲမှုကဏ္ဍ ပြုပြင်ပြောင်းလဲခြင်း၊ ဥပဒေရေးရာကဏ္ဍ ပြုပြင်ပြောင်းလဲခြင်းတို့ကို ILO နှင့်မိတ်ဖက်အဖွဲ့အစည်းများ၏ နည်းပညာအကူအညီထောက်ပံ့မှုများဖြင့် ဆောင်ရွက်လျက်ရှိပါသည်။

- ကိုဗစ်-၁၉ ကပ်ရောဂါနှင့်အထွေထွေရိုက်ခတ်မှုကြောင့် ပိတ်သိမ်းသွားသည့် အလုပ်ဌာနများမှ လူမှုဖူလုံရေးအာမခံကြေး ထည့်ဝင်ထားသည့် အလုပ်သမားများအတွက် ကျန်းမာရေးစောင့်ရှောက်မှု၊ ဆေးဖိုး၊ ခရီးစရိတ်များကို အလုပ်လက်မဲ့ဖြစ်သည့်နေ့မှ တစ်နှစ်အထိ တိုးမြှင့်ခံစားနိုင်ရန် စီမံဆောင်ရွက်ထားပါသည်။ မြန်မာနိုင်ငံသားပိုင် CMP လုပ်ငန်းများ၊ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းများနှင့် အငယ်စား၊ အသေးစား၊ အလတ်စားစီးပွားရေးလုပ်ငန်းများကို အတိုးနှုန်းသက်သာစွာဖြင့် ထုတ်ချေးနိုင်ရန် ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်ဖြင့် လူမှုဖူခံလုပ်ငန်းများ၊ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းများနှင့် အငယ်စား၊ အသေးစား၊ အလတ်စားစီးပွားရေးလုပ်ငန်းများကို အတိုးနှုန်းသက်သာစွာဖြင့် ထုတ်ချေးနိုင်ရန် ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်ဖြင့် လူမှုဖူလုံရေးရန်ပုံငွေမှ ကျပ် ၅၀ ဘီလီယံကို ကိုဗစ်-၁၉ ရန်ပုံငွေထူထောင်ရာတွင် ထည့်သွင်းမတည်ခဲ့ပါကြောင်း။
- ဈေးကွက်စီးပွားရေးစနစ်တွင် နိုင်ငံဖွံ့ဖြိုးတိုးတက်ရေးအတွက် အလုပ်သမားထု၏အင်အားသည် အဓိကကျသကဲ့သို့ အလုပ်အကိုင်များ ဖန်တီးပေးသည့် အလုပ်ရှင်များသည်လည်း အလုပ်သမားများအတွက် မရှိမဖြစ်သော မိတ်ဖက်ဖြစ်ပါသည်။ ထို့ကြောင့် အလုပ်ရှင်နှင့်အလုပ်သမားများ ဟန်ချက်ညီပူးပေါင်းဆောင်ရွက်ခြင်းဖြင့် မိမိတို့အကျိုးစီးပွားဖြစ်ထွန်းစေနိုင်သကဲ့သို့နိုင်ငံတော်ဖွံ့ဖြိုးတိုးတက်ရေးကိုလည်း အထောက်အကူဖြစ်စေပါသည်။ ထို့ပြင် လုပ်ငန်းခွင်ဘေးကင်း လုံခြုံပြီး စွမ်းဆောင်ရည်ပြည့်ဝသည့် လုပ်သားအရင်းအမြစ်ဝန်းကျင်ကောင်းတစ်ရပ် ဖန်တီးနိုင်မှသာ ဈေးကွက်စီးပွားရေးအတွက် တည်ငြိမ်သည့် အခြေအနေကောင်းများရရှိပြီး အားကောင်းသည့် ရင်းနှီးမြှုပ်နှံမှုများဖြစ်ပေါ်လာနိုင်ပါသည်။ သို့မှသာ အလုပ်သမားထုအတွက်လည်း ရေရှည်တည်တံ့သည့် အလုပ်အကိုင်အခွင့်အလမ်းကောင်းများ ပေါ်ပေါက်လာကာ ဝင်ငွေကောင်းများ ရရှိခံစားနိုင်ကြမည် ဖြစ်ပါကြောင်း။

## နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ် ဒေါ်အောင်ဆန်းစုကြည်၏ မိန့်ခွန်းကောက်နုတ်ချက်နှင့် သဝဏ်လွှာကောက်နုတ်ချက်များ

**နေပြည်တော် ကောင်စီနယ်မြေ ပျဉ်းမနားမြို့ အမှတ်(၂)အခြေခံပညာ အထက်တန်းကျောင်း၌ ပညာရေးဝန်ကြီးဌာန၊ အခြေခံပညာဦးစီးဌာနက ဖွင့်လှစ်သင်ကြား ပို့ချလျက်ရှိသည့် နေပြည်တော် ဒက္ခိဏခရိုင်၏ အခြေခံပညာ အလယ်တန်းအဆင့် (သင်ရိုးသစ်) Grade – 6 ခရိုင်အဆင့် ဆွေးနွေးပွဲ/ သင်တန်းသို့ လာရောက်ပြီး ဆရာ၊ ဆရာများ Grade – 6 သင်ရိုးသစ် သင်ကြားနေမှုကို ကြည့်ရှုအားပေးစဉ် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂၁–၅–၂၀၁၉)**

- သင်တန်းသားဆရာ၊ ဆရာမများအနေဖြင့် သင်ယူရာတွင် တော်ကြသည်ကို သိရှိပါကြောင်း၊ သင်ယူရာတွင် တော်ကြသကဲ့သို့ သင်ကြားရာတွင်လည်း တော်ကြမည်ဖြစ်ပါကြောင်း၊ ဆရာ၊ ဆရာမများအနေဖြင့် ကျောင်းသူ၊ ကျောင်းသားများ စာသင်ချိန်နှင့် ကျောင်းတွင် ပျော်ရွှင်အောင် မည်သို့ဆောင်ရွက်ရမည်ကို စဉ်းစားရမည်ဖြစ်ပါကြောင်း၊ ကလေးများ ကျောင်းသွားရသည်ကို ပျော်မှသာ ပညာတတ်များဖြစ်မည်ဖြစ်ပါကြောင်း၊ မိမိတို့နိုင်ငံဖွံ့ဖြိုးတိုးတက်ရန် လိုအပ်နေပါသေးကြောင်း၊ အဓိကမှာ ပညာရေးစနစ်ဖြစ်ပါကြောင်း၊ ပညာရေးစနစ်မှန်ကန်လျှင် အခြားနိုင်ငံများအား ရင်ပေါင်တန်းပြီး အချိန်တိုအတွင်း အမှီလိုက်နိုင်မည် ဖြစ်ပါကြောင်း၊ မိမိတို့နိုင်ငံရှိ ကျောင်းသား၊ ကျောင်းသူများအား အခြားနိုင်ငံများမှ ကျောင်းသား၊ ကျောင်းသူများထက် တစ်မူထူးပြီး တော်စေချင်ပါကြောင်း၊ ကျောင်းစာသာမက စာရိတ္တပိုင်းနှင့် ပူပေါင်းဆောင်ရွက်မှုအပိုင်းတွင် တော်စေချင်ပါကြောင်း၊ မိမိတို့နိုင်ငံသားများ အတူပူးပေါင်းပြီး အစုအဖွဲ့အလိုက် ဆောင်ရွက်ရာတွင် တော်စေချင်ပါကြောင်း၊ မိမိတို့ လူမှုအသိုင်းအဝိုင်း ပျော်ရွှင်ရန်၊ တိုးတက်ရန် လုပ်ဆောင်ပေးနိုင်သည့် ကလေးငယ်များကို မွေးထုတ်ချင်ပါကြောင်း၊ အဓိကကျသည်မှာ ဆရာ၊ ဆရာမများ ဖြစ်ပါကြောင်း ပြောကြားသည်။

**နေပြည်တော်ရှိ မြန်မာအပြည်ပြည်ဆိုင်ရာ ကွန်ဗင်းရှင်းဗဟိုဌာန –၂ ၌ ကျင်းပသည့် ကျွန်းမာရေးအဆင့်မြှင့် ကျောင်းလုပ်ငန်းများ အရှိန်အဟုန်မြှင့်တင်ရေး အမျိုးသားအဆင့် နှီးနှောဖလှယ်ပွဲတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၁၂–၆–၂၀၁၉)**

- နှီးနှောဖလှယ်ပွဲ၏ ရလဒ်အနေဖြင့် တစ်နိုင်ငံလုံးရှိ ကျောင်းများ၊ တက္ကသိုလ်များတွင် လုပ်ငန်းများ လက်တွေ့အကောင်အထည်ဖော်နိုင်ရေး သက်ဆိုင်သူများ

အားလုံး၊ အထူးသဖြင့် ပညာရေးဝန်ကြီးဌာနက အလေးထားဆောင်ရွက်သွားကြမည်ဟု မျှော်လင့်ပါကြောင်း၊ ၂၀၁၄ ခုနှစ် သန်းခေါင်စာရင်းအရ မြန်မာနိုင်ငံတွင် အသက် ၁၅ နှစ်အောက် ဆယ်ကျော်သက် အရေအတွက် ၁၄ ဒသမ ၄ သန်းရှိပြီး ၁၅ နှစ်မှ ၂၄ နှစ်အကြားရှိ လူငယ်အရေအတွက် ၉ သန်း ရှိသည့်အတွက်ကြောင့် ဆယ်ကျော်သက် လူငယ်အရေအတွက်သည် တစ်နိုင်ငံလုံးရှိ လူဦးရေ၏ ၄၆ ဒသမ ၅ ရာခိုင်နှုန်း ရှိပါကြောင်း၊ ယခုနှစ်အတွက် ခန့်မှန်းချက်သည် အသက် ၁၅ နှစ်အောက် ၁၅ ဒသမ ၀၆ သန်း၊ ၁၅ နှစ်မှ ၂၄ နှစ်ကြား ၉ ဒသမ ၄၁ သန်းရှိသည့်အတွက် ဆယ်ကျော်သက်လူငယ်အရေအတွက် (၄၅) ရာခိုင်နှုန်းရှိကြောင်း။

- ၂၀၁၆ ခုနှစ်တွင် ဆောင်ရွက်ခဲ့သည့် (2016) Myanmar Global School Health Survey –GSHS အရ ၁၃ နှစ်နှင့် ၁၇ နှစ်အကြား ဆယ်ကျော်သက်များတွင် အာဟာရ ချို့တဲ့မှုနှုန်း ၁၈ ရာခိုင်နှုန်း တွေ့ရပြီး ကိုယ်အလေးချိန်များခြင်းနှင့် အဝလွန် ခြင်း ၁၀ ရာခိုင်နှုန်းခန့် တွေ့ရှိရသည့်အတွက် အာဟာရချို့တဲ့ခြင်းနှင့် အာဟာရ လွန်ကဲသည့် ပြဿနာများ (ဥပမာ– အဝလွန်ခြင်း၊ သွေးတိုး၊ ဆီးချိုနှင့် အခြားသော မကူးစက်နိုင်သော ရောဂါများ) ဖြစ်ပေါ်နေသည်ကို တွေ့ရပါကြောင်း၊ ၂၀၁၇ ခုနှစ် မြန်မာနိုင်ငံ အဏုအာဟာရနှင့် အစာစားသုံးမှု အခြေအနေ လေ့လာရေးစစ်တမ်းအရ အသက် ၁၅ နှစ်မှ ၁၉ နှစ်အကြား ဆယ်ကျော်သက် လူငယ်များ၏ ၁၈ ဒသမ ၈ ရာခိုင်နှုန်းက ပိန်လှီနေပြီး ၅ ဒသမ ၂ ရာခိုင်နှုန်းသည် ကိုယ်အလေးချိန်များနေကြောင်း၊ ထို့အတူ ဆယ်ကျော်သက်အရွယ်များတွင် ဆယ်ဦးမှာ တစ်ဦးသာ ကိုယ်လက်လှုပ်ရှားမှုအနေနှင့် ကမ္ဘာ့ကျန်းမာရေးအဖွဲ့ (WHO)၏ တစ်နေ့လျှင် အနည်းဆုံး (၁)နာရီ လှုပ်ရှားမှုရှိသင့်သည့် အကြံပြုချက်ကို ပြည့်မီသည်ကို တွေ့ရပါကြောင်း၊ ဆယ်ကျော်သက် လူငယ်ဆယ်ဦးအနက် တစ်ဦးသည် အထီးကျန်ခံစားနေရကြောင်းလည်း တွေ့ရှိရပါကြောင်း။
- ဘဝတွက်တာ ကျွမ်းကျင်စရာဘာသာရပ်သည် နယ်ပယ်အားဖြင့် လူမှုဘဝမှာ ကျွမ်းကျင်စရာ (Social Skills)၊ ထိန်းသိမ်းအစဉ်တို့ဝန်းကျင်(Environment and Sanitation)၊ ရောဂါကင်းဝေး အာဟာရကျွေး(Disease Prevention and Nutrition)၊ ဆယ်ကျော်သက်အရွယ် သတိထားဖွယ် (Sexual and Reproductive Health and Rights)၊ သတိပြုပါ လိင်ရောဂါ (HIV/AIDS)၊ မူးယစ်အန္တရာယ် တို့ကာကွယ် (Drug Use)၊ စိတ်ကျန်းမာရေး လေ့ကျင့်ပေး (Emotional Intelligence) များ ပါဝင်ပါကြောင်း၊ ဘဝတွက် တာကျွမ်းကျင်စရာ ဘာသာရပ် သင်ကြားရာတွင် အသိသညာအခြေပြု (Knowledge–based) သာမက

ကျွမ်းကျင်မှု အခြေပြု (Skill -based) သင်ရိုးအဖြစ် ကျောင်းသား၊ ကျောင်းသူများ အကြား ပြဿနာ ဖြေရှင်းနိုင်ခြင်း၊ တီထွင်ကြံဆနိုင်ခြင်း၊ လေးနက်စွာဆန်းစစ်ဝေဖန်နိုင်ခြင်း၊ ဆုံးဖြတ်ချက် ချမှတ်နိုင်ခြင်း၊ ဆက်သွယ်နိုင်ခြင်း၊ မိမိကိုယ်ကို သိရှိနားလည်ခြင်း၊ တစ်ဦးနှင့် တစ်ဦး အပြန်အလှန်ဆက်ဆံခြင်း၊ ကိုယ်ချင်းစာတရားထားတတ်ခြင်း၊ စိတ်လှုပ်ရှားမှုနှင့် စိတ်ဖိစီးမှုကို ထိန်းချုပ်တတ်ခြင်း စသည့် ကျွမ်းကျင်မှုများရရှိနိုင်ရန် အဆင့်ဆင့် အတန်းလိုက် သင်ကြားလျက် ရှိပါကြောင်း။

- မြန်မာနိုင်ငံတွင် လူငယ်ရေးရာမူဝါဒကို ၂၀၁၇ ခုနှစ်တွင် ရေးဆွဲခဲ့ပြီး ယခုအခါ မဟာဗျူဟာများ ဆက်လက်ရေးဆွဲကာ လုပ်ငန်းစဉ်များကို ဆက်လက်ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ တစ်ဦးတစ် ယောက်မျှ မကျန်ရစ်စေဘဲ အားလုံးပါဝင်စေ (No one left behind, inclusiveness) ဆိုသည့် သဘော တရားများအတိုင်း ဆယ်ကျော်သက် (မသန်စွမ်း၊ အစွန်အဖျားနေ၊ ကျောင်းပြင်ပ စသည်ဖြင့်) လူငယ်များ အားလုံးပါဝင်နိုင်ရန် ကြိုးစားရမည်ဖြစ်ပါကြောင်း။
- ကျောင်းသားလူငယ်များ၏ ကိုယ်လက်လှုပ်ရှားမှု တိုးတက်လာစေရန်အတွက် ကျောင်း သင်ရိုး ညွှန်းတမ်းပါကာယပညာ (Physical Education) အချိန်များတွင် ကျောင်းသား၊ ကျောင်းသူအားလုံး တက်ကြွစွာ ကိုယ်လက်လှုပ်ရှား အားကစားခြင်းနှင့် ကျောင်းတွင်း အားကစားပြိုင်ပွဲများ ပြုလုပ်ခြင်းဖြင့် ကိုယ်ကာယကြံ့ခိုင်လာနိုင်သည့် အပြင်ဂိမ်း အလွန်အကျွံ စွဲလမ်းမှုများ လျော့နည်းသွားနိုင်ပြီး အချင်းချင်း ချစ်ခင်ရင်းနှီးမှု၊ အသင်းအဖွဲ့ အလိုက် ပူးပေါင်းဆောင်ရွက်နိုင်မှုနှင့် ကူညီ ရိုင်းပင်းစိတ်များ တိုးတက်လာမည်ဖြစ်ပါကြောင်း။

**နိုင်ငံတော်သမ္မတအိမ်တော် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးခန်းမ၌ ကျင်းပသည့် အမျိုးသားစီမံကိန်းကော်မရှင် (၁/၂၀၁၉) အစည်းအဝေးတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၁၇-၆-၂၀၁၉)**

- စီမံကိန်းများကို အကောင်အထည်ဖော်သည့်အခါတွင် အတိတ်က သင်ခန်းစာများကို ပြန်လည်သုံးသပ်ပြီး အားသာချက်များကို ပိုမိုတိုးတက်ကောင်းမွန်အောင် ဆောင်ရွက်ရန်၊ အားနည်းချက်များကို ပြင်ဆင်ရန် လိုအပ်မည်ဖြစ်ပါကြောင်း။
- စီမံကိန်းများရွေးချယ်ရာတွင် ဘတ်ဂျက်ကိုကြည့်ပြီး ရွေးချယ်ခြင်းမျိုးမဖြစ်ရန် လိုပါကြောင်း၊ ငွေရေးကြေးရေးက အရေးကြီးသော်လည်း အမှန်တကယ် လုပ်သင့်လုပ်ထိုက်သည်ကို ရွေးချယ်ရန် ပိုပြီးအရေးကြီးပါကြောင်း၊ ပြည်သူ

များ၏ သာယာဝပြောရေးနှင့် နိုင်ငံအတွက် အများဆုံး အကျိုးဖြစ်စေသည့် ကိစ္စရပ်များကို အကောင်အထည်ဖော်နိုင်မည့် စီမံကိန်းများ ရွေးချယ်စေလိုပါကြောင်း၊ အမျိုးသားစီမံကိန်းကို အကောင်အထည်ဖော်ရာတွင် ဒေသ၊ ကဏ္ဍလိုအပ်ချက်များနှင့် နိုင်ငံ့လိုအပ်ချက်များကို ဖြည့်ဆည်းနိုင်ရန် မဟာဗျူဟာမြောက် စဉ်းစား ဆောင်ရွက်ကြရန်ကိုလည်း တိုက်တွန်းလိုပါကြောင်း။

**အင်ဒိုနီးရှားသမ္မတနိုင်ငံ သမ္မတမစ္စတာဂျိုကိုဝီဒိုဒို၊ ထိုင်းနိုင်ငံ ဝန်ကြီးချုပ် ဗိုလ်ချုပ်ကြီး ပရာယုဒ်ချန်အိုချာ (ငြိမ်း) တို့နှင့် ထိုင်းနိုင်ငံ ဗန်ကောက်မြို့ရှိ Athenee Tower ၌ သီးခြားစီတွေ့ဆုံစဉ် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက်(၂၂–၆–၂၀၁၉)**

- အင်ဒိုနီးရှားသမ္မတနိုင်ငံတွင် ရွေးကောက်ပွဲ အောင်မြင်စွာ ကျင်းပနိုင်ခဲ့ခြင်းနှင့် အင်ဒို နီးရှား သမ္မတအဖြစ် ပြန်လည် ရွေးချယ်တင်မြှောက်ခြင်း ခံရသည့်အတွက် ဂုဏ်ယူဝမ်းမြောက်ပါကြောင်း၊ အင်ဒိုနီးရှားနိုင်ငံမှ ရခိုင်ပြည်နယ်ရှိ လူမှုအသိုက်အဝန်းအားလုံးအတွက် လူသားချင်းစာနာ ထောက်ထားမှု အကူအညီအဖြစ် ကျန်းမာရေးဆိုင်ရာအကူအညီများ ပေးအပ်နိုင်ရန် ရခိုင်ပြည်နယ်တွင် ဆေးရုံတစ်ရုံ တည်ဆောက်ပေးခဲ့ခြင်းအတွက် ကျေးဇူးတင်ရှိပါကြောင်းနှင့် နှစ်နိုင်ငံတို့သည် သဘာဝဘေးအန္တရာယ်များ ခံစားကြရသည့် နိုင်ငံများဖြစ်ပြီး အပြန်အလှန် အကူအညီများပေးအပ်ခဲ့ပါကြောင်း၊ သဘာဝဘေးအန္တရာယ် ကာကွယ်ရေးအတွက် နှစ်နိုင်ငံ ပူးပေါင်းဆောင်ရွက်သွားရန် လိုအပ်ကြောင်း။

**မြန်မာကိုယ်စားလှယ်အဖွဲ့သည် ထိုင်းနိုင်ငံ၊ ဗန်ကောက်မြို့၌ ကျင်းပသည့် (၃၄) ကြိမ်မြောက် အာဆီယံထိပ်သီး အစည်းအဝေးတွင် ပြန်လည်ဆွေးနွေးမှုမှ ကောက်နုတ်ချက်(၂၂–၆–၂၀၁၉)**

- အာဆီယံဆန်းစစ်လေ့လာရေး အဖွဲ့အနေဖြင့် ရခိုင်ပြည်နယ်အရေးကိစ္စ ဖြေရှင်းရေးအပေါ် လက်တွေ့ကျပြီး အပြုသဘောဖြင့် ချဉ်းကပ်ဆောင်ရွက်သည့်အတွက် အာဆီယံ အတွင်းရေးမှူးချုပ်နှင့် AHA Centre တို့အား ကျေးဇူးတင်ရှိကြောင်း၊ လိုအပ်ချက်များ ပဏာမ ဆန်းစစ်လေ့လာရေးအဖွဲ့၏ အစီရင်ခံစာမှာ အပြုသဘောဆောင်ကြောင်း၊ အာဆီယံအဖွဲ့ဝင် နိုင်ငံများ၏ ကူညီပံ့ပိုးမှုများအား ကြိုဆိုကြောင်း၊ ယင်းပြဿနာအား ချောမွေ့လျင်မြန်စွာ ဖြေရှင်းရေးကို မိမိတို့ လောက် လိုလားသည့်နိုင်ငံရှိမည် မဟုတ်ကြောင်း၊ မြန်မာနှင့် ဘင်္ဂလားဒေ့ရှ် နှစ်နိုင်ငံအကြား လက်မှတ်ရေးထိုးထားသည့် သဘောတူညီချက် ဆောလျင်စွာ

အကောင်အထည်ဖော်ရေးအတွက် အတူတကွ ပူးပေါင်းဆောင်ရွက်ကြရန် အရေးကြီးကြောင်း၊ လုံခြုံရေး၊ တည်ငြိမ်အေးချမ်းရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေး တို့သည် အပြန်အလှန် ဆက်စပ်လျက်ရှိသဖြင့် အသိုက်အဝန်းများအကြား ရေရှည်သဟဇာတဖြစ်ရေးအတွက် ရခိုင်ပြည်နယ်၌ လုံခြုံရေး၊ တည်ငြိမ်အေးချမ်း ရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးကို ဖော်ဆောင်ရန် ကြိုးပမ်းဆောင်ရွက်နေကြောင်း ပြန်လည် ပြောကြားသည်။

**မကွေးတိုင်းဒေသကြီး မင်းဘူး နေရောင်ခြည် စွမ်းအင်သုံးဓာတ်အားပေးစက်ရုံ စီမံကိန်းဖွင့်ပွဲအခမ်းအနား ကျင်းပသည့် ယာယီရှင်းလင်းဆောင်သို့ ရောက်ရှိပြီး မင်းဘူး(စကု) ဒေသခံပြည်သူများ၊ တာဝန်ရှိသူများနှင့် တွေ့ဆုံစဉ် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂၇-၆-၂၀၁၉)**

- နိုင်ငံတော်အစိုးရအနေဖြင့် ၃ နှစ်တာကာလအတွင်း မြို့ပေါင်း ၆၈ မြို့၊ ကျေးရွာပေါင်း ၅၁၉၁ ရွာကို ၂၄ နာရီလျှပ်စစ်ဓာတ်အားသုံးစွဲနိုင်ရန် ပိုမို တိုးချဲ့ဆောင်ရွက်ပေးနိုင်ခဲ့သည့်အတွက် ၂၀၁၆ ခုနှစ်တွင် လျှပ်စစ်ဓာတ်အားသုံးစွဲမှု ၃၄ ရာခိုင်နှုန်းသာရှိခဲ့ရာမှ ယခုအခါ ၄၄ ရာခိုင်နှုန်းအထိ တိုးတက်အောင် ဆောင်ရွက်ပေးနိုင်ခဲ့ပါကြောင်း၊ ထို့ပြင် ၂၀၁၉ ခုနှစ် ဒီဇင်ဘာလတွင် တစ်နိုင်ငံလုံး၏ လျှပ်စစ်ဓာတ်အား သုံးစွဲနိုင်မှု ၅၀ ရာခိုင်နှုန်းပြည့်မီရန်လည်း စီမံဆောင်ရွက်လျက်ရှိပါကြောင်း။
- နိုင်ငံတော်အစိုးရအနေဖြင့် လျှပ်စစ်ဓာတ်အားရရှိသုံးစွဲသူများ တည်ငြိမ်သည့် လျှပ်စစ်ဓာတ်အားရရှိစေရန် ဆောင်ရွက်ပေးနေသကဲ့သို့ လျှပ်စစ်ဓာတ်အား မရသေးသူများအတွက်လည်း လျှပ်စစ်ဓာတ် အားရရှိအောင် ဆောင်ရွက်ပေး လျက်ရှိသည့်နေရာတွင် ၂၀၂၁ ခုနှစ်၌ တစ်နိုင်ငံလုံး၏ လျှပ်စစ်ဓာတ်အား သုံးစွဲနိုင်မှု ၅၅ ရာခိုင်နှုန်းသို့ လည်းကောင်း၊ ၂၀၂၅-၂၀၂၆ ခုနှစ်တွင် ၇၅ ရာခိုင်နှုန်းသို့လည်းကောင်း၊ ၂၀၃၀ ခုနှစ်တွင် တစ်နိုင်ငံလုံး ရာနှုန်းပြည့် လျှပ်စစ်မီးသုံးစွဲနိုင်ရန် စီမံဆောင်ရွက်လျက်ရှိပါကြောင်း၊ လာမည့်နှစ်တွင် လျှပ်စစ်သုံးစွဲမှု တိုးတက်လာမည်ကို ဖြည့်ဆည်းသွားနိုင်ရန် ၁၂၀၀ မဂ္ဂါဝပ်ခန့်ရှိ LNG နှင့် Gas အင်ဂျင် သုံးစက်များဖြင့် ကာလတိုအတွင်း အချိန်မီ ဖြည့်ဆည်း နိုင်ရန် စီမံဆောင်ရွက်လျက်ရှိပါကြောင်း။

**ရှောဝတီတိုင်းဒေသကြီး၊ ခနေဖြူမြို့ လယ်ယာဝန်ဆောင်မှုစင်တာ၌ ကျင်းပသည့် ဒေသခံတောင်သူလယ်သမားများနှင့် တွေ့ဆုံဆွေးနွေးပွဲတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက်(၂၈-၆-၂၀၁၉)**

- "ကျွန်မတို့ရဲ့ တောင်သူလယ်သမား ဦးကြီးများအတွက်ဆိုရင် အဓိကကျတဲ့ မြေအသုံးချမှုနဲ့ ပတ်သက်တဲ့ ဥပဒေ၊ နည်းဥပဒေတွေကို လွယ်ကူရှင်းလင်းအောင်၊ လက်တွေ့လုပ်ဆောင်ရာမှာ အခက်အခဲမရှိအောင် တတ်နိုင်သမျှ ဦးစားပေးပြီး ပြင်ဆင်ရေးဆွဲတာတွေ ဆောင်ရွက်နေပါတယ်။ အထူးသဖြင့် လယ်ယာမြေဥပဒေ၊ မြေလွတ်၊ မြေလပ်၊ မြေရိုင်း ဥပဒေတွေကို အထူးဦးစားပေးပြီး လွှတ်တော်အဖွဲ့အစည်းအသီးသီးက အစိုးရဌာနတွေနဲ့ ညှိနှိုင်းပြီး လုပ်ကိုင်နေတာ ဖြစ်ပါတယ်။ တစ်ဖက်မှာလည်း အရင်တုန်းကအကြောင်း အမျိုးမျိုးနဲ့သိမ်းဆည်းခဲ့တဲ့ လယ်ယာမြေတွေကို မူလပိုင်ရှင်တွေထံ အမြန်ဆုံး ပြန်လည်လွှဲပြောင်းပေးအပ်နိုင်ဖို့ကိုလည်း နိုင်ငံတော်သမ္မတရုံးက ဦးစီးပြီးတော့ အလေးပေး ဆောင်ရွက်လျက် ရှိပါတယ်။
- "စိုက်ပျိုးရေး၊ မွေးမြူရေးနဲ့ ရေလုပ်ငန်းကိုလုပ်ကိုင်အသက်မွေးတဲ့ တောင်သူလယ်သမားကြီး တွေဟာ ကျွန်မတို့နိုင်ငံရဲ့ စီးပွားရေးအတွက်သာမက ကျွန်မတို့ ပြည်သူတွေရဲ့ စားနပ်ရိက္ခာဖူလုံရေးအတွက်ပါ အင်မတန်အရေးကြီးပါတယ်။ ဒီလို အရေးကြီးတာကြောင့်လည်း တောင်သူလယ်သမား အခွင့်အရေးကာကွယ်ရေးနဲ့ အကျိုးစီးပွားမြှင့်တင်ရေးဥပဒေကို ပြဋ္ဌာန်းထားရှိပြီး တောင်သူလယ်သမားတွေ ရသင့်ရထိုက်တဲ့ အခွင့်အရေးတွေ ရရှိအောင်၊ လယ်ယာထွက်ကုန်တွေအတွက် သင့်တင့်မျှတတဲ့ ဈေးကွက်ဈေးနှုန်း ရရှိအောင်၊ တောင်သူလယ်သမားတွေရဲ့ အကျိုးစီးပွားကို တတ်နိုင်သမျှ ဖော်ဆောင်ပေးနိုင်အောင် ရည်ရွယ်ပြီး ဥပဒေပြဋ္ဌာန်းထားတာ ဖြစ်ပါတယ်။
- "လယ်ယာလုပ်ငန်းလုပ်ကိုင်ကြတဲ့ တောင်သူလယ်သမားကြီးတွေကို တွေ့ဆုံခွင့်ရခိုက်မှာ ကျွန်မအနေနဲ့ အထူးမေတ္တာရပ်ခံလိုတာကတော့ စားနပ်ရိက္ခာ ဘေးကင်းလုံခြုံရေးပဲ ဖြစ်ပါတယ်။ အားလုံးသိတဲ့အတိုင်း လယ်ယာကဏ္ဍဟာ ကျွန်မတို့နိုင်ငံရဲ့ အဓိက အခြေခံဖြစ်ပါတယ်။ ကျွန်မတို့နိုင်ငံရဲ့ လယ်ယာထွက်ကုန်တွေဟာ ဂုဏ်သတင်းကောင်း၊ နာမည်ကောင်းတွေ ရှိခဲ့ပါတယ်။ လူတွေရဲ့ စားသောက်နေထိုင်မှုပုံစံတွေ ပြောင်းလဲတိုးတက်လာတာနဲ့အမျှ ဘေးကင်းလုံခြုံတဲ့ စားနပ်ရိက္ခာတွေကို ပိုမိုပြီးတောင်းဆို လာကြပါတယ်။ ဒါ့ကြောင့် ကျွန်မ တို့ရဲ့ တောင်သူလယ်သမားကြီး တွေအနေနဲ့ ပိုးသတ်ဆေးတွေ၊

ဓာတုဆေးဝါးတွေကို မဖြစ်မနေလိုအပ်မှသာ ချင့်ချိန်သုံးစွဲကြဖို့ တိုက်တွန်းလို ပါတယ်။

- “လယ်ယာကဏ္ဍဖွံ့ဖြိုးရေးအတွက် လိုအပ်တဲ့ စီမံကိန်းတွေ၊ ကျေးလက်လမ်းပန်း ဆက်သွယ်ရေး အပါအဝင် လိုအပ်တဲ့ သိုလှောင်ရုံတွေ၊ အခြောက်ခံစက်တွေ၊ မျိုးကောင်း မျိုးသန့်ရရှိရေးတွေ၊ ဈေးကွက်ရရှိရေးတွေဟာ အမြဲကြိုးပမ်းနေမယ့် လုပ်ငန်းတွေပဲဖြစ်ပါတယ်။ ကျွန်မတို့ရဲ့ တောင်သူလယ်သမားတွေအတွက် လိုအပ်တဲ့ ကုန်ထုတ်လမ်းတွေ၊ နည်းပညာတွေနဲ့ အခြားအရင်းအမြစ်တွေ တိုးတက်လာရေးကို အစိုးရပိုင်းက တတ်နိုင်သမျှ ဖြည့်ဆည်းဆောင်ရွက်နေ သလိုပါပဲ၊ ဒီနေ့ကမ္ဘာကြီးနဲ့ ကမ္ဘာ့ ဈေးကွက်၊ ကမ္ဘာ့နိုင်ငံရေး၊ စီးပွားရေးတွေဟာ နေ့စဉ် ပြောင်းလဲနေတာဖြစ်လို့ ဒါတွေကို မျက်ခြေမပြတ် လေ့လာပြီး ကျွန်မ တို့ရဲ့ တောင်သူလယ်သမားကြီးတွေအနေနဲ့ နိုင်ငံတော်အစိုးရနဲ့ အတူပူးပေါင်းပြီး ကြိုးပမ်းပေးပါလို့ အထူးမေတ္တာရပ်ခံလိုပါတယ်။
- “နောက်တစ်ခုကလည်း တောင်သူလယ်သမားတွေရဲ့ လိုအပ်ချက်တွေကို ဗဟိုအစိုးရကနေပြီးတော့ မသိဘူးဆိုရင် ဗဟိုအစိုးရဆီရောက်အောင် တင်ပြ ရမှာက တိုင်းအစိုးရရဲ့ တာဝန်ဖြစ်ပါတယ်။ တိုင်း၊ ပြည်နယ်အစိုးရတွေက တစ်နည်းအားဖြင့် ပြောရမယ်ဆိုရင် ဗဟိုအစိုးရနဲ့ ပြည်သူလူထုတွေကြားမှာ ရှိနေတဲ့ တံတားတစ်ခုပဲ ဖြစ်ပါတယ်။ အဲဒါကြောင့် ခြုံငုံပြီးတော့ အကြံပြုချင် တာက တိုင်းအစိုးရအဖွဲ့ဝင်များနဲ့ တိုင်းမှာရှိတဲ့ အုပ်ချုပ်ရေးယန္တယားက ဝန်ထမ်းများဟာ တောင်သူလယ်သမားများနဲ့ ပုံမှန်ထိတွေ့မှုရှိအောင် လုပ်ကြပါ၊ ကွင်းဆင်းပါ၊ လယ်သမားကြီးများဆီရောက်အောင်သွားပါ၊ ဒါမှမဟုတ် တစ်နေရာမှာ စုပြီးတော့ တွေ့ဆုံဆွေးနွေးပွဲတွေ လုပ်ပါ။ အခု ခနဲ့ဖြူမှာဆိုပေ မယ့်လည်း နေရာတော်တော်များများက လာတယ်ဆိုတော့ အားလုံးကနေပြီး တော့ အသေးစိတ် ကိုယ့်ရဲ့ဒေသမှာ ဘာတွေဖြစ်နေတယ်၊ ဘာတွေ လိုအပ်ချက် တွေရှိနေတယ်ဆိုတာ တင်ပြနိုင်မှာမဟုတ်ပါဘူး။ ကျွန်မတို့ကလည်း ဒီလို ကန့်သတ် ထားတဲ့ အချိန်အတွင်းမှာ အားလုံးကို ပြည့်ပြည့်ဝဝ ဖြည့်ပေးနိုင်မှာ မဟုတ်ပါဘူး။ တစ်ချိန်လုံး ထိတွေ့နေဖို့ကတော့ အင်မတန်မှ အရေးကြီးပါတယ်။

**နေပြည်တော်ရှိ မြန်မာအပြည်ပြည်ဆိုင်ရာကွန်ဗင်းရှင်းဗဟိုဌာန–၂ (MICC–2)၌ ကျင်းပသည့် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် နှစ် ၁၀၀ ပြည့် အထိမ်းအမှတ် အခမ်းအနားတွင် ပြောကြားသည့် မိန့်ခွန်းမှ ကောက်နုတ်ချက် (၂၂–၁၁–၂၀၁၉)**

- မြန်မာနိုင်ငံအနေနဲ့ အခြေခံခိုင်မာသော၊ တန်းတူမျှတသော၊ ရေရှည်တည်တံ့သော၊ ကဏ္ဍ အားလုံးပါဝင်သော ဖွံ့ဖြိုးတိုးတက် ရေးမဟာဗျူဟာဖော်ဆောင်နိုင်ရေး အတွက် မြန်မာနိုင်ငံရဲ့ ရေရှည်တည်တံ့ ခိုင်မြဲပြီး ဟန်ချက်ညီသောဖွံ့ဖြိုးတိုး တက်မှုစီမံကိန်း ၂၀၁၈–၂၀၃၀ (Myanmar Sustainable Development Plan 2018–2030)ကို ၂၀၁၈ ခုနှစ်မှာချမှတ်ခဲ့ပါတယ်။ MSDP ရဲ့ ပန်းတိုင် ၃ ကို အလုပ်အကိုင် ဖန်တီးရေးနဲ့ ပုဂ္ဂလိကကဏ္ဍဦးဆောင်တဲ့ ဖွံ့ဖြိုးရေးအဖြစ် ချမှတ် ထားပါတယ်။ ကောင်းမွန်တဲ့ စီးပွားရေးလုပ်ငန်းများဖွံ့ဖြိုးတိုးတက်စေရေးနဲ့ ကောင်းမွန်တဲ့ အုပ်ချုပ်ရေးစနစ် ထည့်သွင်းအသုံးပြုရေးတို့ အတွက် မူဝါဒများနဲ့ စည်းမျဉ်းများချမှတ်ခဲ့ပြီးလည်း ဖြစ်ပါတယ်။ ဒါ့အပြင် ပြုပြင်ပြောင်းလဲ ရေးလုပ်ငန်းများ အရှိန်အဟုန် တိုးတက်စေဖို့အတွက် နှေးကွေးမှုများနဲ့ အတား အဆီးများကိုလည်း ဖယ်ရှားရေးလုပ်ငန်းစဉ်များဖြင့် ဆောင်ရွက်လျက်ရှိပါ တယ်။
- မြန်မာနိုင်ငံရဲ့ ရေရှည်တည်တံ့ခိုင်မြဲပြီးဟန်ချက်ညီတဲ့ ဖွံ့ဖြိုးတိုးတက်မှု စီမံ ကိန်းနဲ့အတူ အာဆီယံအတွင်း ပေါင်းစည်းရေးဆောင်ရွက်ဖို့ ဒေသဆိုင်ရာ တန်ဖိုး ကွင်းဆက်များ၊ ပြည်သူအချင်းချင်း ဆက်သွယ်မှုများနဲ့ ဆိုက်ဘာ(Cyber) နည်းပညာများကိုထိရောက်စွာ အသုံးချပြီး မြန်မာ ၄.၀ ကို ပြည်သူလူထု လူကြီး၊ လူငယ်မရွေးပညာသင်ကြားမှု၊ သတင်းအချက်အလက်ရယူမှု၊ ငွေသားသုံးစွဲဖို့ မလိုအပ်တော့တဲ့ ငွေကြေးပေးချေမှုစနစ်များအပါအဝင် ခေတ်မီနည်းစနစ်များ အသုံးပြုသွားနိုင်ဖို့ ဆောင်ရွက်သွားမှာ ဖြစ်ပါတယ်။ စမတ်ဖုန်းသုံးစွဲမှု ၁၀၀ ရာခိုင်နှုန်းကျော်သွားပြီဖြစ်တဲ့အတွက်ကြောင့် မြန်မာနိုင်ငံမှာ လုပ်ငန်းအမျိုးမျိုး အတွက် မိမိတို့ရဲ့ နေ့စဉ်ဘဝမှာ စမတ်ဖုန်းအသုံးချနိုင်တော့မှာ ဖြစ်ပါတယ်။

**အာဆီယံ–ကိုရီးယား ယဉ်ကျေးမှုဆိုင်ရာ တီထွင်ဆန်းသစ်မှု ထိပ်သီးအစည်းအဝေး တွင် "Growing with Art" ခေါင်းစဉ်ဖြင့် ပြောကြားခဲ့သည့် မိန့်ခွန်းမှ ကောက်နုတ် ချက် (၂၅–၁၁–၂၀၁၉)**

- တီထွင်ဆန်းသစ်မှုလုပ်ငန်းကလူငယ်များ၊ အမျိုးသမီးများ၊ အသေးစားစီးပွားရေး လုပ်ငန်းများအတွက် စီးပွားရေးဆိုင်ရာ အခွင့်အလမ်းများ ဖန်တီးပေးရုံသာမက

လူမှုရေး မညီမျှမှုနဲ့ နိုင်ငံနဲ့ဒေသများအကြား ဖွံ့ဖြိုးတိုးတက်မှု ကွာဟချက်များကို ကျဉ်းမြောင်းစေဖို့အတွက် အလားအလာများစွာ ရှိတာကြောင့် တီထွင်ဆန်းသစ်မှု လုပ်ငန်းကဟာ ဖွံ့ဖြိုးတိုးတက်မှုကိုဖြစ်စေတဲ့ အင်အားကြီးအရာတစ်ခု ဖြစ်ပါတယ်။

**ကိုရီးယားသမ္မတနိုင်ငံ၊ ဘူဆန်မြို့၌ကျင်းပသည့် အာဆီယံ-ကိုရီးယား စီးပွားရေးဆိုင်ရာ အမှုဆောင်အရာရှိချုပ်များ၏ ထိပ်သီးအစည်းအဝေး ၂၀၁၉ တွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂၅-၁၁-၂၀၁၉)**

- မြန်မာနိုင်ငံအနေနဲ့ နှစ်ဦးနှစ်ဖက် အကျိုးဖြစ်ထွန်းစေတဲ့ မိတ်ဖက်ဆက်ဆံရေးကို အထူး အလေးထားတဲ့အပြင် မိမိတို့နိုင်ငံများနဲ့ မိမိတို့ဒေသ သာယာဝပြောစေဖို့အတွက် အတူတကွ ပူးပေါင်းဆောင်ရွက်ဖို့ စိတ်အားထက်သန်လျက် ရှိပါတယ်။ အဲဒီ မျှော်မှန်းချက်တွေကို မြန်မာနိုင်ရဲ့ ရေရှည်တည်တံ့ ခိုင်မြဲပြီး ဟန်ချက်ညီသော ဖွံ့ဖြိုးတိုးတက်မှု စီမံကိန်းသစ်မှာ ရှင်းရှင်းလင်းလင်း ဖော်ပြထားပါတယ်။
- ကိုရီးယားသမ္မတနိုင်ငံရဲ့ တောင်ပိုင်းဒေသမူဝါဒသစ်နဲ့ မြန်မာနိုင်ငံရဲ့ရေရှည်တည်တံ့ခိုင်မြဲပြီး ဟန်ချက်ညီသော ဖွံ့ဖြိုးတိုးတက်မှုစီမံကိန်းတို့မှာ တူညီတဲ့ အချက်များစွာရှိတာကို တွေ့မြင်နိုင်လိမ့်မယ်လို့ မိမိအနေနဲ့ ယုံကြည်ပါတယ်။ မိမိတို့ပြည်သူများနဲ့ မိမိတို့ဒေသရဲ့ လွတ်လပ်မှုနဲ့ သာယာဝပြောမှုတို့ကို ဖော်ဆောင်ပေးရေးဆိုတဲ့ တူညီတဲ့ ရည်မှန်းချက်နဲ့ ဒီမူဝါဒနဲ့ စီမံကိန်းတို့ဟာ စည်းနှောင်ပေါင်းစည်းထားပါတယ်။

**ကိုရီးယားသမ္မတနိုင်ငံ ဘူဆန်မြို့၌ ပထမအကြိမ် မဲခေါင်-ကိုရီးယား ထိပ်သီးအစည်းအဝေးတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂၇-၁၁-၂၀၁၉)**

- ပထမအကြိမ် မဲခေါင်-ကိုရီးယား ထိပ်သီးအစည်းအဝေးသို့ တက်ရောက်ပြီး ၂၀၁၁ ခုနှစ်က စတင်ခဲ့သည့် မဲခေါင်-ကိုရီးယား ပူးပေါင်းဆောင်ရွက်မှုမှာ အောင်မြင်မှုများ ရရှိခဲ့ပြီး မဲခေါင်ဒေသ ပြည်သူများအတွက် အကျိုးဖြစ်ထွန်းစေခဲ့ပါကြောင်း၊ မဲခေါင် - ကိုရီးယား ပူးပေါင်း ဆောင်ရွက်မှု လုပ်ငန်းစဉ်များအား ထိပ်သီးအစည်းအဝေးအဆင့်သို့ မြှင့်တင်နိုင်ခြင်းသည် မဲခေါင်-ကိုရီးယား နိုင်ငံ့ခေါင်းဆောင်များ၏ မဲခေါင်-ကိုရီးယား ပူးပေါင်းဆောင်ရွက်မှုအပေါ် အလေးအနက်ထားမှုအား ပြသခြင်းဖြစ်ပါကြောင်း၊ ကိုရီးယားနိုင်ငံ၏ New Southern Policy၊ အာဆီယံ-ကိုရီးယား ပူးပေါင်းဆောင်ရွက်မှုနှင့် မဲခေါင်-ကိုရီးယား

ပူးပေါင်းဆောင်ရွက်မှုတို့သည် တစ်ခုနှင့်တစ်ခု အပြန်အလှန် အထောက်အကူပြုနေသည့်အတွက် ဒေသတွင်း၌ ငြိမ်းချမ်းသာယာသော ပြည်သူ့အခြေပြု လူမှုအသိုက်အဝန်းများ ထူထောင်ရေးအပေါ် များစွာအကျိုးကျေးဇူး ဖြစ်ထွန်းစေပါကြောင်း၊ ဇီဝမျိုးစုံမျိုးကွဲ ထိန်းသိမ်းစောင့်ရှောက်ရေးနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးသည် နိုင်ငံများအားလုံးအတွက် အလွန်အရေးကြီးသော လုပ်ငန်းဖြစ်သည့်အားလျော်စွာ " မဲခေါင်-ကိုရီးယား ပူးပေါင်း ဆောင်ရွက်မှု ဇီဝမျိုးစုံမျိုးကွဲ ထိန်းသိမ်းစောင့်ရှောက်ရေးစင်တာ"ကို မြန်မာနိုင်ငံက အိမ်ရှင်နိုင်ငံအဖြစ် လက်ခံတည်ထောင်ရန် အဆိုပြုလိုပါကြောင်း၊ မဲခေါင်-ကိုရီးယား ပူးပေါင်း ဆောင်ရွက်မှုအရ မြန်မာနိုင်ငံတွင် ဆောင်ရွက်လျက်ရှိသည့် စီမံကိန်းများအား ကိုရီးယားသမ္မတနိုင်ငံမှ ရန်ပုံငွေထောက်ပံ့ခြင်း အတွက် ကျေးဇူးတင်ရှိပါကြောင်း။

**ကိုရီးယားသမ္မတနိုင်ငံ၊ ဘူဆန်မြို့၌ ကျင်းပသည့် အာဆီယံ-ကိုရီးယား ဆွေးနွေးဖက်ဆက်ဆံရေးအထိမ်းအမှတ် ထိပ်သီးအစည်းအဝေးနှင့် ပထမအကြိမ် မဲခေါင်-ကိုရီးယား ထိပ်သီးအစည်းအဝေးသို့တက်ရောက်၍ Westin-Chosun ဟိုတယ်၌ သမ္မတမွန်ဂျေအင်းနှင့် နှစ်နိုင်ငံတွေ့ဆုံဆွေးနွေးပွဲတွင် ဆွေးနွေးသည့် အမှာစကားမှ ကောက်နုတ်ချက် (၂၅-၁၁-၂၀၁၇)**

- နှစ်နိုင်ငံအကြား ချစ်ကြည်ရင်းနှီးမှု ပိုမိုတိုးတက်ခိုင်မာစေရေး၊ မကြာသေးမီက မြန်မာနိုင်ငံသို့ လာရောက်ခဲ့သည့် သမ္မတမွန်ဂျေအင်း၏ ခရီးစဉ်အတွင်း နှစ်နိုင်ငံအကြား သဘောတူညီခဲ့သော ကိစ္စရပ်များ အကောင်အထည်ဖော်ရာတွင် တိုးတက်မှုအခြေအနေများ၊ ယဉ်ကျေးမှု၊ ပညာရေး၊ စိုက်ပျိုးရေး၊ ရေလုပ်ငန်း၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး၊ အခြေခံအဆောက်အဦနှင့် ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေးကဏ္ဍများ အပါအဝင် နှစ်နိုင်ငံ အကျိုးတူပူးပေါင်း ဆောင်ရွက်မှုများ တိုးမြှင့်ဆောင်ရွက်သွားရေးနှင့် ပြည်သူအချင်းချင်း ထိတွေ့ဆက်ဆံမှု ပိုမိုတိုးတက် ခိုင်မာစေရေးဆိုင်ရာ ကိစ္စရပ်များကို ရင်းနှီးစွာ အမြင်ချင်း ဖလှယ်ဆွေးနွေးခဲ့ကြသည်။ ထို့ပြင် ကိုရီးယား EPS စနစ်ဖြင့် မြန်မာအလုပ် သမားများ ပိုမိုတိုးမြှင့်ခေါ်ယူရေး၊ ကိုရီးယားယဉ်ကျေးမှုကို စိတ်ဝင်စားသူ မြန်မာလူငယ်များအား K-Wave Academy မှ ကူညီပံ့ပိုးပေးရေးနှင့် ရခိုင်ပြည်နယ်၊ မာန်အောင်ကျွန်းတွင် နေရောင်ခြည်စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ ဖွင့်လှစ်ရေး ကိစ္စရပ်များကိုလည်း ထည့်သွင်းဆွေးနွေးခဲ့သည်။

**ရန်ကုန်တက္ကသိုလ် နှစ်(၁၀၀)ပြည့် ရာပြည့်သဘင် အခမ်းအနားကျင်းပရေး ဦးစီး ကော်မတီက ဦးဆောင်ကျင်းပသည့် ရန်ကုန်တက္ကသိုလ် ရာပြည့်အထိမ်းအမှတ် စတင်ကြောင်း ကြေညာခြင်း အခမ်းအနားတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက်(၂-၁၂-၂၀၁၉)**

- ရန်ကုန်တက္ကသိုလ် အဆင့်မြှင့်ရေးမှာ အဓိကအကျဆုံးလုပ်ငန်းကတော့ ပညာအရည်အချင်း မြှင့်တင်ရေးပဲဖြစ်ပါတယ်။ တက္ကသိုလ်ဆိုတာဟာ ပညာပေးတဲ့ အဆင့်မြင့် ဌာနတစ်ခုဖြစ်ပါတယ်။ ပညာပေးရာမှာ ပြီးပြည့်စုံတဲ့ လူသားကောင်း တစ်ယောက်ဖြစ်ဖို့ ရည်ရွယ်ရပါတယ်။ ဒီနေရာမှာ ပညာနဲ့ပတ်သက်ပြီး အဓိပ္ပာယ် အမျိုးမျိုး ဖွင့်ဆိုနိုင်မှာ ဖြစ်ပေမယ့် ကျွန်မအနေနဲ့ ပညာဆိုတာ လူသားတွေကိုခေတ်အဆက်ဆက် တိုးတက်ပြောင်းလဲစေခဲ့တဲ့ အမြော်အမြင်ဖြစ်တယ်လို့ ဆိုချင်ပါတယ်။ ပညာသင်ယူတယ်ဆိုတာ ဘဝမှာ ကိုယ်ကြုံတွေ့ရမယ့် အခြေအနေတွေကို မျှော်မှန်းပြီး ဘယ်လို အခြေအနေတွေ ဖြစ်ပေါ်လာရင် ဘယ်လို ရင်ဆိုင်ကျော်လွှားမလဲဆိုတာကို မှန်မှန်ကန်ကန် ဆုံးဖြတ်နိုင်ဖို့ ပဲဖြစ်ပါတယ်။ ဒီလိုဆုံးဖြတ်နိုင်ဖို့အတွက် ပညာအမြော်အမြင် ရှိဖို့လိုပါတယ်။ စာတွေတတ်ပေမယ့် အမြော်အမြင် မရှိရင် ဘဝကိုမှန်ကန်စွာ ရင်ဆိုင်နိုင်မှာ မဟုတ်ပါဘူး၊ စာတော်ပြီး အမြော်အမြင်ရှိမှသာလျှင် နိုင်ငံကို အကျိုးပြုနိုင်မှာ ဖြစ်ပါတယ်၊ အကျိုးပြုမယ့် လူသားတွေကို အကျိုးပြုနိုင်မယ့်သူတွေဖြစ်လာအောင် ပြုစုပျိုးထောင်ပေးရမှာ ဖြစ်ပါတယ်။ ရန်ကုန်တက္ကသိုလ်ရဲ့ ပညာအရည်အချင်း မြှင့်တင်ရေးမှာ ဒီလိုပညာအမြော်အမြင်ရှိတဲ့ နိုင်ငံသားကောင်းတွေ၊ လူသားကောင်းတွေ ဖြစ်လာအောင် ပြုစုပျိုးထောင်ပေးနိုင်ဖို့ ရည်မှန်းချက် ထားရှိရမှာ ဖြစ်ပါတယ်။
- ပညာရပ်နယ်ပယ်မှာ ဘယ်ဘာသာရပ်က ဘယ်ဘာသာရပ်ထက် ပိုပြီး တန်ဖိုးရှိတယ်ဆိုတာကို ယတိပြတ်ပြောလို့မရပါဘူး။ ဘာသာရပ်တိုင်းဟာ သူ့နေရာနဲ့သူ တန်ဖိုးရှိတာပဲ ဖြစ်ပါတယ်။ ပညာအရည်အချင်းမြှင့်တင်ရေးမှာ ဘာသာရပ်တိုင်းကို ဖွံ့ဖြိုးတိုးတက်ဖို့ အားပေးမှသာ ပညာရပ်နယ်ပယ်တစ်ခုလုံး ဖွံ့ဖြိုးတိုးတက်လာမှာဖြစ်ပါတယ်။ ဘာသာရပ်တွေရဲ့ တန်ဖိုးရှိမှု မရှိမှုဟာ သုံးစွဲပုံပေါ်မှာ အင်မတန်မှမူတည်ပါတယ်။ ကောင်းကောင်းမွန်မွန် မှန်မှန်ကန်ကန် သုံးစွဲရင် တန်ဖိုးရှိပြီးတော့ မမှန်မကန်သုံးစွဲရင် အန္တရာယ်ဖြစ်လာမယ် ဆိုတာကို ကျွန်မတို့ အားလုံး သိပြီးသားလို့ မျှော်လင့်ပါတယ်။ ရန်ကုန်တက္ကသိုလ်နဲ့တကွ တက္ကသိုလ်အသီးသီးမှာရှိတဲ့ ပညာရပ်တိုင်းကို ဟန်ချက်ညီညီနဲ့ ဖွံ့ဖြိုးတိုးတက်စေဖို့ အားပေးလုပ်ဆောင်သွားကြရမှာ ဖြစ်ပါတယ်။ ဘာသာရပ်အသီးသီးက

ကျောင်းသူကျောင်းသားတွေကို ထူးချွန်ထက်မြက်လာအောင် ပြုစုပျိုးထောင်နိုင်မှ နိုင်ငံတော်ကဏ္ဍအသီးသီးရဲ့ တာဝန်တွေကို ထူးချွန်ထက်မြက်တဲ့ ဒီလူငယ်တွေက လက်ဆင့်ကမ်းပြီး ဖွံ့ဖြိုးတိုးတက်တဲ့ နိုင်ငံဖြစ်လာအောင် ဆောင်ရွက်သွားကြရမှာ ဖြစ်ပါတယ်။

**ရန်ကုန်မြို့ လမ်းမတော်မြို့နယ်ရှိဆေးတက္ကသိုလ်(၁)ဝင်းအတွင်းကျင်းပပြုလုပ်သည့် ဆေးပညာကျွမ်းကျင်မှု ပုံတူပြုလေ့ကျင့်ရေးနှင့် သုတေသနအဆောက်အဦဖွင့်ပွဲ၌ ပြောကြားသော မိန့်ခွန်းမှ ကောက်နုတ်ချက် (၂-၁၂-၂၀၁၉)**

- ကျွန်မတို့နိုင်ငံရဲ့ ဆေးပညာသင်ကြားလေ့ကျင့်ရေးဟာ နိုင်ငံတကာ အဆင့်မီအောင်တော့ ဆက်ပြီးကြိုးစားဖို့ လိုနေပါသေးတယ်။ ကျွန်မတို့ဟာ လုပ်ငန်းတစ်ခုမှာ နောက်ကျကျန်ရစ်ခဲ့ရင် ဘယ်လိုလိုက်မလဲ၊ ဘယ်နည်းလမ်းတွေနဲ့ လုပ်ကြမလဲ၊ နိုင်ငံတကာမှာ ဘယ်လိုလုပ်နေကြသလဲဆိုတာ လေ့လာရမှာ ဖြစ်ပါတယ်။ ဒီခေတ်ကြီးမှာ နည်းပညာ တိုးတက်မှုတွေ မြန်ဆန်သလို ဆေးပညာရပ်ပိုင်းမှာလည်း အဆက်မပြတ် တိုးတက်နေပါတယ်။ ဆရာဝန်တွေ၊ သူနာပြုတွေနဲ့ ကုသမှုအထောက်အကူပြု ပညာရှင်တွေရဲ့ ပညာရပ်ပိုင်းဆိုင်ရာ ကျွမ်းကျင်မှု အရည်အသွေးဟာ လူနာတွေရဲ့ အသက်ရှင်သန်မှု၊ ရောဂါသက်သာပျောက်ကင်းမှု၊ ပြန်လည်ကျန်းမာသန်စွမ်းမှုတို့နဲ့ တိုက်ရိုက်သက်ဆိုင်နေပါတယ်။ ဒါကြောင့် မိမိတို့ရဲ့ အရည်အသွေးနဲ့ ကျွမ်းကျင်မှုမြှင့်တင်ရေး၊ တိုးတက်လာတဲ့ နည်းပညာတွေကို လေ့လာပြီး လက်တွေ့အသုံးချနိုင်ရေးဟာ စဉ်ဆက်မပြတ် လေ့လာနေရမယ့် ကိစ္စဖြစ်ပါတယ်။
- နောက်အလေးထားရမယ့် ကိစ္စတစ်ခုကတော့ တက္ကသိုလ်တွေရဲ့ သုတေသနလုပ်ငန်းတွေပါ။ သုတေသနလုပ်ငန်းတွေဟာ တက္ကသိုလ်တွေရဲ့ ရှင်သန်ဖွံ့ဖြိုးတိုးတက်မှုအတွက် အဓိကနေရာက ပါဝင်ပါတယ်။ သုတေသနလုပ်ငန်းတွေ ဖွံ့ဖြိုးတိုးတက်ခြင်းဟာ နိုင်ငံတော် ဖွံ့ဖြိုးတိုးတက်မှုကို များစွာ အထောက်အကူဖြစ်စေပါတယ်။
- ဆေးနှင့် ဆေးနီးနွယ်တက္ကသိုလ်များက ဆေးသုတေသနဦးစီးဌာနနဲ့ အမျိုးသားဓာတ်ခွဲဌာနတွေနဲ့ ပူးပေါင်းပြီး ဆေးပညာရပ်ဆိုင်ရာ သုတေသနတွေ ကျယ်ပြန့်ပြန့် လုပ်ဆောင်စေချင်ပါတယ်။ အဲဒီနေရာမှာ စိတ်ဓာတ်မကျစေချင်ပါဘူး။ တခြားနိုင်ငံတွေနဲ့ ယှဉ်လိုက်လို့ရှိရင် နောက်ကရောက်နေတယ်ဆိုရင် ရှေ့မှာ သွားစရာ

လမ်း ကျန်သေးတယ်လို့ ဒီလိုပဲယူဆပြီးတော့ ပိုပိုကြိုးစားပြီး စိတ်ဓာတ်အပြည့် အဝနဲ့ ထမ်းဆောင်စေချင်ပါတယ်။

- နိုင်ငံတော်ရဲ့ လိုအပ်ချက်တွေသိဖို့၊ ပြဿနာတွေကို ဖြေရှင်းနိုင်မယ့် နည်းလမ်းတွေကိုသိဖို့ သုတေသနဟာ အသက်ပဲဖြစ်ပါတယ်။ ဒီဌာနကြီးရဲ့ သုတေသန လေ့ကျင့်သင်ကြားရေးဌာနတွေမှာ ဆေးပညာဘွဲ့လွန်ကျောင်းသားတွေ၊ အထူးကုဆရာဝန်တွေ၊ ပါမောက္ခတွေဟာ မိမိတို့နဲ့ သက်ဆိုင်တဲ့ ဘာသာရပ် ဖွံ့ဖြိုးတိုးတက်ဖို့နဲ့ လူနာတွေရဲ့ ပြဿနာတွေကို ဖြေရှင်းပေးနိုင်ဖို့ သုတေသန လုပ်ငန်းတွေကို တိုးမြှင့်လုပ်ဆောင်ကြဖို့ တိုက်တွန်းပါတယ်။ မိမိရဲ့ သုတေသန ရလဒ်တွေကို ထုတ်ဝေနိုင်ဖို့၊ အသုံးချနိုင်ဖို့ ဆောင်ရွက်စေချင်ပါတယ်။

## အပြည်ပြည်ဆိုင်ရာတရားရုံးသို့ ဒုတိယအကြိမ် ရှင်းလင်းပြောကြားချက်မှ ကောက်နုတ်ချက်(၁၂-၁၂-၂၀၁၉)

- မြန်မာနိုင်ငံမှာ စစ်ဘက်ဆိုင်ရာ တရားစီရင်ရေးစနစ်ရှိတာဟာ အငြင်းပွားနေစရာ ကိစ္စတစ်ခု မဟုတ်ပါဘူး။ အမေရိကန် ပြည်ထောင်စုနဲ့ ဗြိတိန်နိုင်ငံတို့မှာလည်း အလားတူတရားစီရင်ရေးစနစ်များ ရှိကြတာပါပဲ။ မြန်မာနိုင်ငံမှာ ဖွဲ့စည်းပုံ အခြေခံဥပဒေကို အခြေခံတဲ့ ဒီမိုကရေစီနဲ့ တရားဥပဒေစိုးမိုးရေး ရှင်သန် ထွန်းကားဖို့ဆိုရင် မြန်မာနိုင်ငံရဲ့လက်ရှိ အခြေခံဥပဒေကို လျစ်လျူရှုဖို့ မကြိုး စားသင့်သလို လျစ်လျူရှုထားလို့လည်း မရပါဘူး။ နိုင်ငံတကာ ရာဇဝတ်ခုံရုံး တွေမှာတောင် ကြီးလေးတဲ့ နိုင်ငံတကာ ရာဇဝတ်မှုတွေကို ရုံးတင်စစ်ဆေးစီရင်ဖို့ အချိန် (၄) နှစ်ကနေ (၈) နှစ်အထိ၊ တစ်ခါတလေ ဒီထက်တောင် ကြာတတ် ပါတယ်။ ARSA ကို တုံ့ပြန်တဲ့ လက်နက်ကိုင်ပဋိပက္ခအခြေအနေတွေ ဖြစ်ပွား ခဲ့ပြီး (၂) နှစ်ကျော် အချိန်အတွင်းမှာ ဒုတိယစစ်ခုံရုံးဖွဲ့ စုံစမ်းမှုများကို ဆောင်ရွက် နေပြီဖြစ်ပါတယ်။ ဂမ်ဘီယာနိုင်ငံအနေနဲ့ အင်းဒင်ဖြစ်ရပ်နဲ့ ပတ်သက်ပြီး စစ်ဖက်ဆိုင်ရာတရားစီရင် မှန်ကန်မှုအပေါ် ဝေဖန်ခြင်းမပြုဘဲ လွတ်ငြိမ်းချမ်း သာခွင့်ပေးခဲ့ခြင်း အပေါ်မှာသာ ဝေဖန်ခဲ့ခြင်းဖြစ်ပါတယ်။ အဲဒီကိစ္စနဲ့ပတ်သက်လို့ အများစိတ်မသက်မသာ ဖြစ်ရပါတယ်။ လက်ရှိဆောင်ရွက်နေတဲ့ ဘူးသီးတောင် မြို့နယ်၊ ဂူတာပြင်စစ်ခုံရုံးလုပ်ငန်းစဉ်ကို ပြီးတဲ့အထိ ဆောင်ရွက်ခွင့်ပေးဖို့ လိုပါ တယ်။ အလားတူပါပဲ မကြာမီ ရက်သတ္တပတ်အတွင်း ထုတ်ပြန်ဖို့ရှိတဲ့ ICOE ရဲ့ အစီရင်ခံစာ တင်သွင်းပြီးလျှင်လည်း နောက်ထပ်စစ်ခုံရုံးများ ရှိလာနိုင်ပါတယ်။
- မြန်မာနိုင်ငံရဲ့ မျက်မှောက်ကာလနဲ့ အနာဂတ်အရေးအတွက် အရပ်ဖက်နဲ့ စစ်ဘက်ဆိုင်ရာ တရားစီရင်ရေးစနစ်များဟာ အခြေခံဥပဒေနဲ့အညီ ဆောင်ရွက်

သွားနိုင်ဖို့ အရေးကြီးပါတယ်။ စစ်ဘက်ဆိုင်ရာ တရားစီရင်ရေးစနစ်တစ်ခုရှိနေတဲ့ နိုင်ငံတစ်နိုင်ငံမှာ အဲ့ဒီတရားစီရင်ရေးစနစ်အပေါ် ပြင်ပစွက်ဖက် တရားစီရင်မှုက လွှမ်းမိုးမယ်ဆိုရင် ခန္ဓာကိုယ်အတွက် အလွန်အရေးကြီးတဲ့ အစိတ်အပိုင်းတစ်ခုကို ဖြတ်တောက်လိုက်သလို ဖြစ်သွားပါမယ်။ စစ်ဘက်ဆိုင်ရာ တရားစီရင်ရေးဆိုတာဟာ လက်နက်ကိုင်အဖွဲ့အစည်းတွေအနေနဲ့ ဖွဲ့စည်းပုံအခြေခံဥပဒေဘောင်နှင့်အညီ ကိုယ့်ကိုကိုယ် ပြုပြင်ထိန်းသိမ်းနိုင်ရန်နဲ့ တာဝန် ဝတ္တရားများကို ပိုမိုကောင်းမွန်စွာ ထမ်းဆောင်နိုင်စေရန်အတွက် ကူညီပံ့ပိုးပေးနိုင်တဲ့ အင်္ဂါရပ်တစ်ခု ဖြစ်ပါတယ်။

- မိမိတို့အနေနဲ့ မတူကွဲပြားမှုများကြားမှ ညီညွတ်မှုတည်ဆောက်နိုင်ရေး၊ မိမိတို့ပြည်သူများရဲ့ အလားအလာကောင်းများ ဖွံ့ဖြိုးတိုးတက်နိုင်ရေးနဲ့ ငြိမ်းချမ်းရေးနဲ့ ဖွံ့ဖြိုးတိုးတက်ရေး ဖော်ဆောင်ရာမှာ စိန်ခေါ်မှုများကို ကျော်လွှားနိုင်ရေးအတွက် အထောက်အကူပြုစေမဲ့ ဆုံးဖြတ်ချက်မျိုးကို တရားသူကြီးများအနေနဲ့ တရားစီရင်ရေးဆိုင်ရာ ဉာဏ်ပညာ အမြော်အမြင် ပြည့်ဝစွာနဲ့ ချမှတ်ပေးနိုင်လိမ့်မယ်လို့ မျှော်လင့်ပါတယ်။
- ယုံကြည်မှုတည်ဆောက်ရရှိပြီးစ ထိလွယ်ရှလွယ်အနေအထားရှိနေသေးတဲ့ အသိုက်အဝန်းများအကြားမှာ သံသယစိတ် တိုးပွားစေပြီး မယုံကြည်မှုဖြစ်ပေါ်စေကာ၊ မကျေနပ်မှုများဖန်တီးမည့် ဆောင်ရွက်ချက်များဟာ မိမိတို့ရဲ့ အမျိုးသားပြန်လည်သင့်မြတ်ရေးကို အားလျော့ချည့်နဲ့စေမှာ ဖြစ်ပါတယ်။

**နေပြည်တော်ရှိ ပြည်ထဲရေးဝန်ကြီးဌာန စုစည်းခန်းမ၌ မြန်မာနိုင်ငံ ရဲတပ်ဖွဲ့ရဲချုပ်နှင့် ရဲအရာရှိကြီးများအား တွေ့ဆုံပြီး ပြောကြားသည့် လမ်းညွှန်အမှာစကားမှ ကောက်နုတ်ချက် (၁၈-၁၂-၂၀၁၉)**

- မြန်မာနိုင်ငံရဲတပ်ဖွဲ့၏ ယခင်က အခေါ်အဝေါ် Police (ပုလိစ်) (ပုလိပ်) ဆိုသည်မှာ ထိန်းချုပ်သည့်သဘော၊ စောင့်ကြည့်သည့် သဘောဖြစ်ပါကြောင်း၊ ပြည်သူ့ရဲအဖြစ်ပြောင်းခဲ့ သည်က ပြည်သူ့အတွက် ရဲရဲဝံ့ဝံ့သတ္တိရှိရှိလုပ်ဆောင်ပေးစေလိုသည့်သဘောဟုထင်ပါကြောင်း၊ ယခု မြန်မာနိုင်ငံရဲဆိုသည်မှာ မြန်မာနိုင်ငံ၏ မြန်မာနိုင်ငံပြည်သူများနှင့် နိုင်ငံတော်၏ ပြည်တွင်း၊ ပြည်ပ လုံခြုံရေးကို ရဲရဲဝံ့ဝံ့လုပ်ဆောင်ခြင်း သဘောဟုယူဆပါကြောင်း၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့၏ အခန်းကဏ္ဍသည် အလွန်ပင်အရေးကြီးပါကြောင်း၊ ရဲတပ်ဖွဲ့ဝင်တိုင်း

သည် ကိုယ့်အလုပ်ကို ဂုဏ်ယူစေချင်ပါကြောင်း၊ ကိုယ့်အလုပ်ကို တာဝန်ကျေကျေ ဆောင်ရွက်စေချင်ပါကြောင်း။

- တရားဥပဒေစိုးမိုးရေး၊ လုံခြုံရေးနှင့် အေးချမ်းသာယာရေးသည် ခွဲခြား၍ မရပါကြောင်း၊ တရား ဥပဒေစိုးမိုးမှု မရှိဘဲ နိုင်ငံအတွင်းမလုံခြုံနိုင်ပါကြောင်း၊ နိုင်ငံအတွင်းမှီတင်းနေထိုင်သည့် တစ်ဦးချင်း၏ လုံခြုံရေးသည် တရားဥပဒေ စိုးမိုးမှုရှိမှ ဖြစ်နိုင်မည်ဖြစ်ပါကြောင်း၊ တရားဥပဒေ စိုးမိုးမှုရှိမှသာ ရပ်ရွာအေးချမ်း သာယာမှုရှိမည် ဖြစ်ပါကြောင်း၊ ဥပဒေဆိုသည်မှာလူများက စိတ်ခံစားချက် အတိုင်းမလုပ်ဘဲ စည်းမျဉ်းစည်းကမ်းဘောင်အတွင်းက မျှမျှတတလုပ်နိုင်အောင် ရေးဆွဲထားခြင်းဖြစ်ပါကြောင်း၊ တရားရုံးများသည်လည်း လူ့သဘာဝ အခြေ အနေနှင့်ကိုက်ညီအောင် ဥပဒေကို စီမံခန့်ခွဲရခြင်းပင်ဖြစ်ပါကြောင်း။
- မိမိတို့ရဲတပ်ဖွဲ့အတွင်းတွင်ရှိသည့် စိတ်နေစိတ်ထားများသည် မိမိတို့ လူ့အသိုင်း အဝိုင်း၏ စိတ်နေစိတ်ထားများကို ရောင်ပြန်ဟပ်ပါကြောင်း၊ ရဲတပ်ဖွဲ့ဝင်များက ဦးဆောင်ပြီး စိတ်ဓာတ်များကို ပြုပြင်ပေးရမည်ဖြစ်ပါကြောင်း၊ ကိုယ်ကစပြီး ပြုပြင်ရမည်ဖြစ်ပါကြောင်း၊ မေတ္တာ၊ စေတနာ၊ ကရုဏာနှင့် ပြည်သူလူထု၏ လုံခြုံရေးကို ဆောင်ရွက်နေခြင်းကို ပြည်သူကမြင်ပါက ကျေးဇူးတင် တန်ဖိုး ထားကြမည်ဖြစ်ပါကြောင်း၊ ရဲတပ်ဖွဲ့က ဦးဆောင်ပြီး ဆောင်ရွက်ပေးရန် အရေး ကြီးပါကြောင်း။
- ပြည်ပအန္တရာယ်နှင့်ပတ်သက်ပြီး လုံခြုံရေး၏ ပထမဆုံး ခံစစ်စည်းမှာ သံတမန် ရေးရာ ဖြစ်ပါကြောင်း၊ သံတမန်ရေးရာနှင့်ကာကွယ်ခြင်းသည် မည်သူ့ကိုမှ ပျက်စီးထိခိုက်မှု မရှိပါကြောင်း၊ ဒုတိယခံစစ်စည်းမှာ ဖွံ့ဖြိုးတိုးတက်ရေးဖြစ် ပါကြောင်း၊ နောက်ဆုံးတစ်ပိုင်းက စစ်ရေးစစ်ရာ ဖြစ်ပါကြောင်း၊ စစ်ရေးစစ်ရာ အထိ ရောက်လာပါက နစ်ဖက်အထိအခိုက် အပျက်အစီးရှိမည် ဖြစ်ပါကြောင်း။
- ရဲတပ်ဖွဲ့ဝင်များ ရွေးချယ်သည့်နေရာတွင် စိတ်ပိုင်းဆိုင်ရာစိစစ်သည်ဟု သိရပါ ကြောင်း၊ထိုသို့စိတ်ပိုင်းဆိုင်ရာစိစစ်ရာတွင်သြဇာအာဏာရှိသည့်လူတစ်ယောက်၊ ဖြစ်သင့်သည့် စိတ်ဓာတ်ဟုတ်လား၊ သြဇာရှိသည့်အတွက်၊ လုပ်ပိုင်ခွင့်ရှိသည့် အတွက် အလွဲစဉ်းစားလုပ်မည့် လူမျိုးလားဆိုသည်ကို စိစစ်ရန်အဓိကဖြစ်ပါ ကြောင်း၊ စိတ်ဓာတ်ခိုင်မာရန်အတွက် အန္တရာယ်များ ရင်ဆိုင်ရာတွင် ခံနိုင်ရည်ရှိ/ မရှိ စိစစ်ရန်ဖြစ်ပါကြောင်း၊ ခံနိုင်ရည်ဆိုသည်မှာ ဆင်းရဲဒဏ်ခံနိုင်သည့် အရည်အချင်းအပြင် ချမ်းသာဒဏ်ခံနိုင်သည့် အရည်အချင်းရှိရဲ့လား၊ ချမ်းသာ ဒဏ်ဆိုသည်မှာ လာဘ်ပေးလာဘ် ယူတင်မက ၎င်း၏ရာထူး၊ ၎င်း၏လုပ်ပိုင်ခွင့်ကို အလွဲသုံးစား လုပ်ခြင်း၊ ရာထူးအပေါ် မွေ့လျော်သွားခြင်းသည်လည်း ချမ်းသာ

ဒဏ် မခံနိုင်ခြင်းပဲဖြစ်ပါကြောင်း၊ အစိုးရအဖွဲ့ဝင်များ၊ ဝန်ကြီးများဆိုသည်မှာ လက်ရှိရာထူးကို ထမ်းဆောင် နေစဉ်မှာပဲ လုပ်ပိုင်ခွင့်ရှိပါကြောင်း၊ မိမိ ထမ်းဆောင်ရမည့် တာဝန်ကြောင့် ပေးထားသည့် အခွင့်အရေး၊ မိမိ၏ရာထူး ဖြစ်ပါကြောင်း၊ တစ်သက်တာပေးထားခြင်း မဟုတ်ပါကြောင်း၊ ထို့ကြောင့် ရဲတပ်ဖွဲ့ဝင်၊ နိုင်ငံ့ဝန်ထမ်းများ ဆင်းရဲ ချမ်းသာဒဏ်နှစ်ခုကိုခံနိုင်ရန် အထူးအရေး ကြီးပါကြောင်း။

## အပြည်ပြည်ဆိုင်ရာတရားရုံး၌ ကြားနာမှုဆိုင်ရာ အတွေ့အကြုံများနှင့်စပ်လျဉ်း၍ ပြည်သူလူထုသို့ အစီရင်ခံတင်ပြသည့်မိန့်ခွန်းမှ ကောက်နုတ်ချက် (၁၈-၁၂-၂၀၁၉)

- ပြည်သူလူထုရဲ့ ထက်သန်တဲ့ စိတ်ဆန္ဒနဲ့ ပူးပေါင်းဆောင်ရွက်မှုမရှိရင် တိုင်းပြည်ရဲ့ ဘယ်လိုအမျိုးသားရေးလုပ်ငန်းကိုမှ အောင်မြင်အောင် ဆောင်ရွက်နိုင်မှာ မဟုတ်ဘူးလို့လည်း ကျွန်မအနေနဲ့ မကြာခဏဆိုသလို ထုတ်ဖော်ပြောကြားခဲ့ပြီး ဖြစ်ပါတယ်။ အဲဒီလို ပြည်သူလူထုရဲ့ ပူးပေါင်းဆောင်ရွက်မှုတွေ အမှန်တကယ် ထိရောက်အကျိုးရှိစေဖို့ဆိုရင် တွေ့ကြုံ ရင်ဆိုင်နေရတဲ့ ပြဿနာတွေကို ကျေကျေလည်လည် သိရှိနားလည်မှုပေါ်မှာပဲ အခြေခံရမှာ ဖြစ်ပါတယ်။ ကျွန်မတို့အနေနဲ့ ရုံးတော်ကို တင်ပြခဲ့ချိန်မှာ မြန်မာနိုင်ငံတစ်ဝှမ်းလုံးနဲ့သည် ဟိတ်ဂ်မြို့သာမက ကမ္ဘာအနှံ့အပြားမှာရှိနေကြတဲ့ ကျွန်မတို့ပြည်သူတွေရဲ့ ရက်ရက်ရောရော၊ စောဒကမတက်စတမ်း၊ တစ်ခဲနက်အားပေးထောက်ခံမှု တွေဟာ ကျွန်မတို့ မြန်မာကိုယ်စားလှယ်အဖွဲ့အတွက် နိုင်ငံတကာ တရားရုံးတော်မှာလျှောက်လဲစဉ် တကယ်ကိုပဲ ခွန်အားတွေ ဖြစ်စေခဲ့ရပါတယ်။ ဒါပေမဲ့လည်း ရုံးတော်အတွင်းမှာ အမှုဆိုင်ရာ လျှောက်လဲမှုဖြစ်စဉ်တွေ၊ ဥပဒေကြောင်းနဲ့ နိုင်ငံရေးရာ အကျိုးသက်ရောက်မှုတွေနဲ့ ပတ်သက်ပြီးတော့ အသေးစိတ်ကို နားလည်သဘောပေါက် သိရှိလိုသူတွေ အများအပြားရှိနေကြဦးမှာပါ။ ဒီအချက်အလက်တွေကိုလည်း တတ်နိုင်သမျှ ပြည့်ပြည့်စုံစုံ ဝေမျှရှင်းလင်းပြပေးဖို့ ကျွန်မတို့မှာ တာဝန် ရှိပါတယ်။ ဒီဖြစ်စဉ်နဲ့ပတ်သက်ပြီး နှလုံးသားနဲ့သာမက၊ ဦးနှောက်နဲ့ပါ ခိုင်ခိုင်မာမာ ရှင်းရှင်းလင်းလင်း သိမြင်နားလည်မှုကြောင့် ပြည်သူတွေဟာ ကျွန်မတို့နဲ့ တစ်သွေးတည်း တစ်သားတည်း ရှိနေမယ်ဆိုရင် ကျွန်မတို့နိုင်ငံအတွက် တန်ဖိုးကြီးခွန်အားတွေဖြစ်လာမှာပါ။
- ကျွန်မတို့နိုင်ငံမှာ အခုလိုမျိုးအရေးကိစ္စတွေနဲ့ ရင်ဆိုင်ကြုံတွေ့လာရ ချိန်အခါမှာ "အရေးကြီးပြီ- သွေးစည်းကြစို့" ဆိုတဲ့အတိုင်း ကျွန်မတို့ နိုင်ငံအနှံ့အပြားကနေ ထောက်ခံ အားပေး ခဲ့ကြတဲ့ ကျွန်မတို့ပြည်သူတွေရဲ့ ဝန်းရံမှုတွေဟာလည်း

ကျွန်မတို့ အဖွဲ့ဝင်အားလုံးအတွက် အဖိုးမဖြတ်နိုင်တဲ့ စိတ်ခွန်အားတွေ ဖြစ်စေခဲ့ပါတယ်။

**ရခိုင်ပြည်နယ်၊ မာန်အောင်ကျွန်းတွင် (၂၄)နာရီ မီးရရှိရေးအတွက် POSCO Daewoo Corporation မှ ရွှေသဘာဝဓာတ်ငွေ့စီမံကိန်း၊ Corporate Social Responsibility (CSR) အစီအစဉ်ဖြင့် ဆောင်ရွက်သည့် ဆိုလာ၊ ဒီဇယ်နှင့် စွမ်းအင်သိုလှောင်မှုစနစ် (Manaung RE + ESS Phase I) နေရောင်ခြည်စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံဖွင့်ပွဲတွင် ပြောကြားသည့် အဖွင့်အမှာစကားမှ ကောက်နုတ်ချက် (၁၉-၁၂-၂၀၁၉)**

- စီးပွားရေးဖွံ့ဖြိုးတိုးတက်ဖို့အတွက် လိုအပ်တဲ့ လမ်းပန်းဆက်သွယ်ရေးနဲ့ လျှပ်စစ်ဓာတ်အားပိုင်းလို အခြေခံအဆောက်အဦပိုင်းမှာ တိုးတက်မှုတွေ ရှိလာပေမယ့် ဒီလိုတိုးတက်မှုတွေ ကို ထိထိရောက်ရောက် သုံးစွဲနိုင်ဖို့ ငြိမ်းချမ်းရေးဟာ အလွန်အရေးကြီးပါတယ်။ နယ်မြေတည်ငြိမ်အေးချမ်းမှ အခြေခံအဆောက်အဦ ဖွံ့ဖြိုးရေးစီမံကိန်းတွေကို အောင်အောင်မြင်မြင်ဆောင်ရွက်နိုင်မှာပါ။ တည်ငြိမ်အေးချမ်းမှုမရှိရင် အခြေခံအဆောက်အဦ ဖွံ့ဖြိုးရေးလုပ်နိုင်ဖို့ မလွယ်ကူသလို ရင်းနှီးမြှုပ်နှံမှုတွေလည်း ကြီးကြီးမားမားရှိလာမှာ မဟုတ်ပါဘူး။ ရင်းနှီးမြှုပ်နှံတယ်ဆိုတာ မြှုပ်နှံတဲ့ကုမ္ပဏီအနေနဲ့ သူတို့အတွက် အကျိုးအမြတ်ရှိမှ လာမှာပါ။ နယ်မြေမတည်ငြိမ်ဘူးဆိုရင် မလာချင်ကြပါဘူး။ ဒါကြောင့်မို့ နယ်မြေတည်ငြိမ်ရေးဟာ ရင်းနှီးမြှုပ်နှံဖို့အတွက် အင်မတန်မှ အရေးကြီးတယ်ဆိုတာ ကျွန်မတို့ အားလုံးသဘောပေါက်ဖို့ လိုပါတယ်။

**ကရင်အမျိုးသား နှစ်သစ်ကူးနေ့အတွက် ပေးပို့သော သဝဏ်လွှာမှ ကောက်နုတ်ချက် (၂၆-၁၂-၂၀၁၉)**

- ကရင်တိုင်းရင်းသားများသည် ဘိုးဘွားဘီဘင်များ၏ ကောင်းမြတ်သည့် ယဉ်ကျေးမှု၊ အနုပညာ၊ ရိုးရာဓလေ့ထုံးတမ်းနှင့် သမိုင်းအမွေအနှစ်များကို လက်ဆင့်ကမ်းအမွေများအဖြစ် နှစ်ပေါင်းများစွာ ထိန်းသိမ်းစောင့်ရှောက်လာခဲ့ကြကာ ရိုးသားခြင်း၊ ကြိုးစားခြင်း၊ သစ္စာရှိခြင်း၊ သန္နိဋ္ဌာန်ဖြင့် တိကျပြတ်သားစွာ လုပ်ကိုင်တတ်ခြင်းဆိုသည့် ကောင်းခြင်းလက္ခဏာ အရည်အသွေးများနှင့် ပြည့်စုံသည့် တိုင်းရင်းသားများ ဖြစ်ကြပါသည်။
- မြန်မာနိုင်ငံသည် ပြည်တွင်းစစ်၏ ဆိုးကျိုးဒဏ်ရာဒဏ်ချက်များကို ဆယ်စုနှစ်ပေါင်းများစွာ ပြင်းထန်စွာခံစားခဲ့ကြရသည့်အတွက် နိုင်ငံဖွံ့ဖြိုးတိုးတက်ရေးအတွက် ရေရှည်တည်တံ့ ခိုင်မြဲသော ငြိမ်းချမ်းရေးကို မဖြစ်မနေရယူရန်လိုအပ်

ကြောင်း အခြားသော ပြည်သူ၊ ပြည်သားများကဲ့သို့ ကရင်တိုင်းရင်းသားများကလည်း ဘဝဖြတ်သန်းမှုနှင့်ရင်း၍ သိမြင်နားလည်ကြပြီး ဖြစ်ပါသည်။

- အမျိုးသားပြန်လည်သင့်မြတ်ရေးနှင့် ပြည်ထောင်စုငြိမ်းချမ်းရေး ပန်းတိုင်ဖြစ်သော ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုသို့ လျှောက်လှမ်းရာလမ်းတစ်လျှောက်တွင် ပြည်ထောင်စုတည်ထောင်ဖက်များအဖြစ် အေးအတူပူအမျှအတူတကွလျှောက်လှမ်းလျက်ရှိပါသည်။ တွေ့ကြုံ လာရသည့် အခက်အခဲများ၊ စိန်ခေါ်မှုများကိုလည်း ခေါင်းချင်းဆိုင်၊ အမြင်ချင်း ဖလှယ်၍ ၂၀၂၀ ရွေးကောက်ပွဲများအလွန်သို့ မျှော်မှန်းကာ ခိုင်မာသည့်လမ်းကြောင်းတစ်ခု ပေါ်ပေါက်လာရေးအတွက်လည်း တစ်ဆင့်ပြီးတစ်ဆင့် လက်တွေ့ကျကျဖော်ဆောင်နိုင်ရေးအတွက် နိုင်ငံတော် အစိုးရနှင့်အတူ ကြိုးပမ်းဆောင်ရွက်နေသည်မှာလည်းအားတက်ဝမ်းမြောက်ဖွယ်ရာအတိပင် ဖြစ်ပါသည်။

**ရန်ကုန်တိုင်းဒေသကြီး ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ် လေးထောင့်ကန်(တောင်ပိုင်း) ရပ်ကွက်ရှိ စီမံကိန်းဝင်းအတွင်းကျင်းပသည့် SHIN RAI INTERNATIONAL VOCATIONAL INSTITUTE ပန္နက်တင် မင်္ဂလာအခမ်းအနားတွင် ပြောကြားသည့် အမှာစကားမှ ကောက်နုတ်ချက် (၂၈-၁၂-၂၀၁၉)**

- ဒီနေ့ ကျွန်မတို့ဟာ ကျောင်းတစ်ကျောင်း၊ အသက်မွေးဝမ်းကျောင်းပညာကျောင်းတစ် ကျောင်း ပန္နက်ရိုက်တာတင်မကပါဘူး။ ကျွန်မတို့နိုင်ငံရဲ့ ပညာရေးအတွက် ပန္နက်ရိုက်တာဖြစ်တယ်လို့ ပြောလို့ရပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ ကျွန်မတို့နိုင်ငံမှာဆိုရင် အသက်မွေးဝမ်းကျောင်းပညာ၊ နည်းပညာစနစ်တွေ အင်မတန်မှ လိုအပ်နေပါတယ်။ ကျွန်မတို့နိုင်ငံတင်မဟုတ်ပါဘူး။ တစ်ကမ္ဘာလုံးမှာပါ။ တစ်ကမ္ဘာလုံးက အခု ဘယ်လိုမြင်လာကြလည်းဆိုတော့ ပညာသင်တယ်ဆိုတာ တက္ကသိုလ်ဘွဲ့ရရုံအတွက် သက်သက်လုပ်တာမဟုတ်ဘူး။ တက္ကသိုလ်ဘွဲ့တွေရပြီးတော့ အလုပ်မရတဲ့ ကျောင်းသူကျောင်းသားများ၊ လူငယ်များဟာ တစ်ကမ္ဘာလုံးမှာ ရှိနေကြ ပါတယ်။ ဒါကြောင့်မို့ သင်တဲ့ပညာနဲ့ ရှိနေတဲ့အလုပ်နဲ့ တိုက်ဆိုင်အောင် ကျွန်မတို့ဘယ်လိုလုပ်ရမလဲဆိုတာ အများကြီး စဉ်းစားရပါတယ်။ ကျွန်မတို့နိုင်ငံရဲ့ ပညာရေးစနစ်ကို အင်မတန်မှ ခိုင်မာတဲ့ အသက်မွေးဝမ်းကျောင်း ပညာရေးကျောင်းများ၊ ပညာသင်ဌာနများနဲ့ ဆောက်တည်သွားမယ်လို့ ကျွန်မတို့ ဒီလိုပဲ ဆုံးဖြတ်ပါတယ်။
- ကျွန်မတို့နိုင်ငံတစ်နိုင်ငံရဲ့ အနာဂတ်အတွက်ဆောက်တည်တယ်ဆိုရင် ကြိုပြီးတော့ မြင်တတ်မှသာလျှင် ဒီလိုအောင်အောင်မြင်မြင်နဲ့ ဆောက်တည်နိုင်မှာပါ။

ကျွန်မကတော့ တခြားနိုင်ငံတွေရဲ့ အတွေ့အကြုံတွေကို လေ့လာရတယ်။ အဲဒီကနေ သင်ခန်းစာယူရတယ်။ ဒါပေမဲ့ တစ်နိုင်ငံနဲ့တစ်နိုင်ငံ အမြဲထပ်တူထပ်မျှတော့ မရှိပါဘူး။ ကွာခြားချက်လေးတွေတော့ရှိပါတယ်။ ဒါကြောင့်မို့ ကျွန်မတို့နိုင်ငံရဲ့ လိုအပ်ချက်တွေကို ကျွန်မတို့ဟာ ကျွန်မတို့ လေ့လာရမယ်။ စဉ်းစားရမယ်။ ဆုံးဖြတ်ရမယ်။ သတ္တိရှိရှိနဲ့ ဒီလိုအပ်ချက်တွေကို ဖြည့်ဆည်းပေးရမယ်။

## (၇၂)နှစ်မြောက် ကချင်ပြည်နယ်နေ့အခမ်းအနားတွင် ပြောကြားသည့် မိန့်ခွန်းမှ ကောက်နုတ်ချက် (၁၀-၁-၂၀၂၀)

- ကျွန်မတို့ရဲ့ ငြိမ်းချမ်းရေးဖြစ်စဉ်မှာဆိုလို့ရှိရင်လည်း အားလုံးကို ပါဝင်စေချင်တယ်၊ ကျွန်မတို့ ငြိမ်းချမ်းရေးတည်ဆောက်ဖို့အတွက် လိုအပ်တဲ့ အစုအဖွဲ့များ အင်အားစုများအားလုံးဟာ လက်တွဲညီညီနဲ့ ရှေ့ကိုသွားဖို့ဟာ အင်မတန်မှ အရေးကြီးပါတယ်။ လက်တွဲတယ်ဆိုတာဟာ ရိုးရိုးသားသားလေးစဉ်းစားလိုက်ရင် လက်တွဲတယ်လို့ဆိုပါတယ်။ ဒါပေမဲ့ တစ်ယောက်နဲ့တစ်ယောက် လက်တွဲတယ်ဆိုတာ တစ်နည်းအားဖြင့် ကတိကဝတ်ပါ။ လက်တွဲလိုက်ပြီဆိုတဲ့ အဓိပ္ပာယ်ဟာ ဒို့အတူတူဆက်ပြီး သွားမယ်၊ အတူတူရင်ဆိုင်မယ်၊ အတူတူ အကောင်းအဆိုးကို ဘာပဲဖြစ်ဖြစ် မျှဝေမယ်ဆိုတဲ့ အဓိပ္ပာယ်ရှိပါတယ်။ လက်တွဲတယ်ဆိုတာ ပြောရတာသာ လွယ်ပါတယ်။ တကယ်တော့ အစဉ်အမြဲ ဆက်ပြီးတော့ ကြိုးစားသွားရမှာပဲ။
- ပြည်ထောင်စုမြန်မာနိုင်ငံဟာ တကယ့်ပြည်ထောင်စုကြီးဖြစ် ပြီးလားဆိုတာ ကျွန်မတို့ဟာ အားလုံးတစ်ဦးချင်းတစ်ဦးချင်း စဉ်းစားဖို့ လိုပါတယ်။ အဲဒီတော့ ကချင်ပြည်နယ်နေ့မှာပင်လုံအစ ကချင်ကဆိုတဲ့စိတ်ဓာတ်၊လွတ်လပ်ရေးနဲ့အတူ ဖွားမြင်လာတဲ့ ကချင်ပြည်နယ်နေ့ဆိုတဲ့ စိတ်ဓာတ်နဲ့ ကျွန်မတို့ အနေအထား၊ ကိုယ့်ရဲ့မျှော်လင့်ချက်၊ ကိုယ့်ရဲ့လုပ်ဆောင်ချက်တွေကို ပြန်ပြီးတော့ သုံးသပ်ကြပါစို့လို့ ကျွန်မအနေနဲ့ တိုက်တွန်းချင်ပါတယ်။

## (၆၈)နှစ်မြောက် ကယားပြည်နယ်နေ့ အခမ်းအနားတွင် ပြောကြားသည့်နှုတ်ခွန်းဆက်အမှာစကားမှ  (၁၅-၁-၂၀၂၀)

- ဒီမိုကရေစီကို ဘယ်လိုနားလည်ကြလဲဆိုတာ တစ်ဦးချင်းတစ်ဦးချင်းစိတ်ထဲမှာ ဘယ်လိုရှိလဲဆိုတာ ပြောလို့မရပါဘူး။ ဒါပေမယ့် နိုင်ငံရေးအရ တိတိကျကျပဲ

ပြောမယ်ဆိုရင် ဒီမိုကရေစီဆိုတာ ပြည်သူ့အစိုးရပါ။ ပြည်သူတွေက ရွေးချယ်တင်မြှောက်ထားတဲ့ အစိုးရတွေကို ဒီမိုကရေစီအစိုးရလို့ခေါ်ပါတယ်။ ကျွန်မတို့ဘာဖြစ်လို့ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စု၊ ဒီမိုကရေစီနိုင်ငံ ထူထောင်ချင်လဲဆိုတော့ ပြည်သူလူထုတွေရဲ့ အခွင့်အရေးတွေကို ပြည့်ပြည့်ဝဝကာကွယ်ပေးနိုင်ဖို့ပါ။ ကိုယ့်အခွင့်အရေးကို ကိုယ်ကလွဲလို့ ဘယ်သူမှ ပိုပြီးထိထိရောက်ရောက်မကာကွယ်နိုင်ပါဘူး။ လူတိုင်းလူတိုင်းဟာ ကိုယ့်ရဲ့ အခွင့်အရေးကို ကိုယ်ကကာကွယ်ရသလို၊ ဒီမိုကရေစီစနစ်မှာဆိုရင် လူတိုင်းလူတိုင်းဟာ နိုင်ငံ့ရဲ့အခွင့်အရေးတွေကို ကာကွယ်ဖို့ တာဝန်ရှိပါတယ်။

- ကျွန်မတို့နိုင်ငံဟာ တိုင်းရင်းသားပေါင်းစုံနဲ့ ဖွဲ့စည်းထားတဲ့ နိုင်ငံဖြစ်လို့ ဒီနိုင်ငံဟာ တည်တံ့ခိုင်မြဲဖို့၊ အေးချမ်းဖို့၊ သာယာဖို့၊ တိုးတက်ဖို့ဆိုရင် တိုင်းရင်းသားများအချင်းချင်းမှာ ညီညွတ်မှုရှိဖို့ဟာ အင်မတန်မှ အရေးကြီးပါတယ်။ ညီညွတ်ဖို့ဆိုတာဟာလည်း စိတ်ထဲကနေ လုပ်တဲ့ကိစ္စပါပဲ။ ညီညွတ်မှုရှိဖို့ဆိုရင် တန်းတူညီမျှမှုရှိရမယ်။ မိတ်ဆွေနှစ်ဦးဆိုတာ မိတ်ဆွေလို့ခေါ်နိုင်ဖို့အတွက် နှစ်ယောက်စလုံးမှာ ညီညီမျှမျှရှိရမယ်။ တစ်ဖက်ကပဲ အခွင့်အရေးရနေမယ်ဆိုရင် နှစ်ဦးစလုံးဟာ ညီညီမျှမျှမိတ်ဆွေ မဖြစ်နိုင်ပါဘူး။ ဒါကြောင့် ကျွန်မတို့ရဲ့ နိုင်ငံဟာ တကယ်ပဲတိုင်းရင်းသားများအချင်းချင်းကြားမှာ ညီညွတ်ဖို့ ပြေလည်ဖို့ဆိုရင် တန်းတူညီမျှမှုရှိဖို့လိုတယ်။ တန်းတူညီမျှမှုရသင့်သလိုရနေတယ်ဆိုတဲ့ ယုံကြည်ချက်ကလည်း ခိုင်မာလာဖို့ လိုအပ်တယ်။ ဒါကြောင့်မို့လို့ ကျွန်မတို့ဟာ ဖက်ဒရယ်စနစ်ကို ဦးတည်တာဖြစ်ပါတယ်။
- တရားဥပဒေအရ ကျွန်မတို့ဟာ အားလုံးညီညီမျှမျှနဲ့ နေနိုင်အောင်လို့ ထိန်းထားပေးနိုင်တဲ့စနစ်မို့လို့ ကျွန်မတို့ ဖက်ဒရယ်စနစ်ကို ဦးတည်တာဖြစ်ပါတယ်။ ကျွန်မတို့ ဒီမိုကရေစီကို ဦးတည်တယ်၊ ပြည်သူတွေရဲ့ အခွင့်အရေးတွေကို ကာကွယ်ဖို့၊ ပြည်သူလူထုတာဝန်သိစိတ်တွေကို မြှင့်တင်ပေးဖို့ ပြည်သူလူထုသာလျှင်၊ပြည်သူလူထုရဲ့ အကျိုးစီးပွားကိုအကောင်းဆုံးကာကွယ်နိုင်မယ်ဆိုတာ ကျွန်မတို့ ယုံကြည်လို့၊ ကျွန်မတို့ ဖက်ဒရယ်ကို ဦးတည်တယ်။ ဖက်ဒရယ်သာလျှင် ကျွန်မတို့လူမျိုးစု တိုင်းရင်းသားပေါင်းစုံနဲ့ ဖွဲ့စည်းထားတဲ့ နိုင်ငံတစ်ခုရဲ့ ရေရှည်ငြိမ်းချမ်းရေးကို ထိန်းနိုင်မယ်။ ရေရှည်တည်ငြိမ်ရေး၊ ရေရှည်တစ်ဦးနဲ့တစ်ဦးယုံကြည်မှုအပေါ်မှာ အခြေခံတဲ့ တိုးတက်ရေးကို ဖြစ်စေနိုင်မယ်လို့ ယူဆလို့ကျွန်မတို့ ဖက်ဒရယ်ကို ဦးတည်တာ ဖြစ်ပါတယ်။ ဒါပေမယ့် ဒီမိုကရေစီရော၊ ဖက်ဒရယ်ရောကို ဦးတည်တာ ဖြစ်ပါတယ်။ ဒါပေမယ့် ဒီမိုကရေစီရေ၊ ဖက်ဒရယ်ရောကို နှစ်ခုစလုံးအပေါ်မှာ လွှမ်းမိုးထားတာက ပြည်ထောင်စုဆိုတဲ့ကိစ္စပါပဲ။

ကျွန်မတို့ဟာ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုဖြစ်ဖို့ဆိုတာကို ကြိုးစားနေတာ ဖြစ်ပါတယ်။

- ကျွန်မတို့အချင်းချင်းကြားမှာ စိတ်ဝမ်းကွဲမယ်ဆိုရင်တော့ ဒီလိုတိုးတက်မှုတွေကို အများကြီး ထိခိုက်ပါလိမ့်မယ်။ တိုးတက်မှုဆိုတာကတော့ အမြဲပဲ တစိုက်မတ်မတ်သွားနေတာ မဟုတ်ပါဘူး။ ကိုယ့်ရဲ့ လုံ့လ၊ ဝီရိယ၊ ကိုယ့်ရဲ့ လုပ်ရပ်အပေါ်မှာ မူတည်ပါတယ်။ တိုးတက်မှုရှိသလို ဆုတ်ယုတ်မှုဆိုတာလည်း ရှိနိုင်ပါတယ်။ စပြီး တိုးတက်လို့ အမြဲပဲတိုးတက်မယ်ဆိုပြီးတော့ ပစ်ထားလို့ မရပါဘူး။ တစ်ချိန်လုံးပဲ ကျွန်မတို့က ပြုစုပျိုးထောင်နေရပါတယ်။ ကျွန်မတို့ ကျန်းမာရေးလိုပါပဲ။ ကျန်းမာရေးဆိုတာဟာ တစ်နေ့ဂရုစိုက်ရုံနဲ့ မဖြစ်ပါဘူး။ နိစ္စဓူဝဂရုစိုက်သွားမှ ကျန်းမာရေးကောင်းမှာ ဖြစ်ပါတယ်။ ဒါကြောင့် ကျွန်မတို့ရဲ့ ကယားပြည်နယ်သူ ပြည်နယ်သားများဟာ ကိုယ်စွမ်းဆောင်နိုင်တဲ့ ကိစ္စတွေအတွက် ဂုဏ်ယူတဲ့အချိန်မှာ ကိုယ့်ရဲ့ အားနည်းချက်တွေ ဘာရှိတယ်ဆိုတာ သုံးသပ်ပြီးတော့ ဒီအားနည်းချက်တွေကို ကျော်လွှားဖို့ လုံ့လ၊ ဝီရိယ စိုက်ထုတ်စေချင်ပါတယ်။ စိုက်ထုတ်ပြီး ကျော်လွှားနိုင်တဲ့ အရည်အချင်းတွေရှိတယ်လို့လည်း ကျွန်မ ယုံကြည်ပါတယ်။

**မြန်မာ-တရုတ် သံတမန်ဆက်ဆံရေး နှစ်(၇၀)ပြည့်အထိမ်းအမှတ် အခမ်းအနားနှင့် မြန်မာ-တရုတ်နှစ်နိုင်ငံ ယဉ်ကျေးမှုနှင့် ခရီးသွားလာရေးနှစ် စတင်ခြင်း အထိမ်းအမှတ်အခမ်းအနားတွင် ပြောကြားသောမိန့်ခွန်းမှ ကောက်နုတ်ချက် (၁၇-၁-၂၀၂၀)**

- အရှိန်အဟုန်နှင့် ဖွံ့ဖြိုးတိုးတက်မှုများကို ကမ္ဘာ့နိုင်ငံအများအပြားနှင့် မျှဝေခံစားနိုင်ရန်၊ အကျိုးတူ ပူးပေါင်းဆောင်ရွက်မှုများကို ခိုင်မာအောင် တည်ဆောက်နိုင်ရန် သမ္မတကြီး မစ္စတာရှီကျင့်ဖျင်ဦးဆောင်မှုနှင့် အကောင်အထည်ဖော်လျက်ရှိသည့် ရပ်ဝန်းနှင့်ပိုးလမ်းမစီမံကိန်းကြီး၊ နိုင်ငံတော်ပြန်လည်ဆန်းသစ်ရေး (National Rejuvenation)၊ ကမ္ဘာ့နိုင်ငံများနှင့်အတူ လူသားအားလုံးအတွက် အေးအတူပူအမျှ အသိုက်အဝန်း တည်ဆောက်နိုင်ရေး (Building a community with a shared future for mankind) တို့သည် ကမ္ဘာကြီးအတွက် အပြုသဘောဆောင်သည့် ဖွံ့ဖြိုးတိုးတက်မှုသစ်များကို ဆောင်ကြဉ်းပေးနိုင်မည်ဟု မျှော်လင့်ယုံကြည်ပါကြောင်း။
- ထို့ပြင် ယင်းစီမံကိန်းများ အကောင်အထည်ဖော်ရာတွင် နှစ်နိုင်ငံ၏ မဟာဗျူဟာမြောက် အမျိုးသားဖွံ့ဖြိုးတိုးတက်ရေး ဦးစားပေးစီမံကိန်းများနှင့် ကိုက်ညီမှုရှိရန်နှင့် သဘာဝပတ်ဝန်းကျင်မထိခိုက်ရေး၊ ပြည်သူများ၏လူမှုဘဝ ဖွံ့ဖြိုး

တိုးတက်ရေးနှင့် အထောက်အကူပြုရေးတို့အတွက် အထူးအလေးထားရန် လိုအပ်မည် ဖြစ်ပါကြောင်း၊ အဆွေတော်သမ္မတကြီးအနေဖြင့် ယင်းသို့ပင်ခံယူထားမည်ဟု ယုံကြည်ပါကြောင်း။

- တရုတ်နိုင်ငံအနေဖြင့် မြန်မာနိုင်ငံငြိမ်းချမ်းရေးနှင့် အမျိုးသားပြန်လည်သင့်မြတ်ရေး လုပ်ငန်းစဉ်နှင့် ဖွံ့ဖြိုးတိုးတက်ရေးအတွက် အပြုသဘောအကူအညီများ ပေးအပ်လျက်ရှိသည့်အပေါ်များစွာ တန်ဖိုးထားပါကြောင်း၊ ယင်းလုပ်ငန်းစဉ်များအကောင်အထည်ဖော်နေသည့်အသွင်ကူးပြောင်းရေးကာလတွင် မြန်မာနိုင်ငံအပေါ် အိမ်နီးချင်းကောင်းပီပီ နားလည်မှုရှိစွာဖြင့် အပြုသဘောရပ်တည်ပေးလျက်ရှိသည့်အတွက် တရုတ်အစိုးရနှင့် ပြည်သူများကို မြန်မာအစိုးရနှင့်ပြည်သူများကိုယ်စား လှိုက်လှဲစွာကျေးဇူးတင်ရှိသည်ဟု ပြောကြားလိုပါကြောင်း။

**ပညာရေးဖွံ့ဖြိုးတိုးတက်မှုအကောင်အထည်ဖော်ရေး နှီးနှောဖလှယ်ပွဲတွင် ပြောကြားသော အမှာစကားမှ ကောက်နုတ်ချက်(၂၈-၁-၂၀၂၀)**

- ပြုပြင်ပြောင်းလဲဖို့ဆိုရင် အစိုးရတစ်ခုတည်းနဲ့ ဆောင်ရွက်ပြီး အောင်မြင်ဖို့ဆိုတာ မလွယ်ကူလှပါဘူး။ မလွယ်ကူရုံတင်မကပါဘူး၊ ဖြစ်ကိုမဖြစ်နိုင်ဘူးလို့ ကျွန်မတို့ ပြောလို့ရပါတယ်။ ပြည်သူတွေ၊ ပညာရေးနဲ့ ပတ်သက်ဆက်နွယ်သူ အားလုံး ပူးပေါင်းဆောင်ရွက်မှုဟာ အင်မတန်အရေးကြီးပါတယ်။ အခုဆိုရင် ပညာရေးဝန်ကြီးဌာနနဲ့ ပူးပေါင်းပြီး ဖွံ့ဖြိုးမှုမိတ်ဖက်အဖွဲ့အစည်းတွေက ပညာရေးကဏ္ဍအတွက် ရင်းနှီးမြှုပ်နှံ ကူညီဆောင်ရွက်ပေးနေတာဟာ ဝမ်းသာစရာကောင်းပါတယ်။ ကျေးဇူးတင်ကြောင်းကိုလည်း ပြောကြားလိုပါတယ်။ ဆက်ပြီးတော့လည်းကူညီပေးကြမယ်လို့လည်း မျှော်လင့်ပါတယ်။
- ကျောင်းသားလူငယ်များမှာ ငြိမ်းချမ်းတဲ့စိတ်တွေဖြစ်ပေါ်စေဖို့ ပန်းချီ၊ ဂီတစတဲ့ အနုပညာ၊ ရသပညာတွေကို လေ့ကျင့်သင်ကြားပေးဖို့လည်းလိုအပ်ပါတယ်။ ယနေ့ခေတ်လူငယ်များ နှစ်သက်စွဲလမ်းနေကြတဲ့ အလွန်အကျွံဂိမ်းကစားခြင်းဟာ ကောင်းကျိုးမပြုတဲ့အတွက် ဆရာတွေ မိဘတွေနဲ့ ဆွေးနွေးတိုင်ပင်ဖို့၊ ထိန်းသိမ်းလမ်းညွှန်ပေးဖို့လည်း လိုအပ်ပါတယ်။
- သဘာဝဘေးအန္တရာယ်တွေနဲ့ ရင်ဆိုင်ကြုံတွေ့ရတဲ့အခါ မိမိကိုယ်မိမိ အရေးပေါ်ဘယ်လိုကာကွယ်ရမယ်ဆိုတဲ့ နည်းလမ်းတွေကိုလည်း သင်ကြားပေးဖို့ လိုပါတယ်။ ကျောင်းသားလူငယ်များကို ကောင်းမွန်တဲ့ ကိုယ်ကျင့်တရားတွေ ပြန့်ပွား

စေဖို့ "ဖြောင့်မတ်တည်ကြည်မှု မြှင့်တင်ရေးပညာပေးအစီအစဉ်" စာအုပ်တွေကို အခြေခံပညာကျောင်းတွေမှာ အခမဲ့ဖြန့်ဝေပြီး သင်ကြားနေပြီလို့ သိရပါတယ်။ ဒီလိုသင်ကြားပေးမှသာအမှန်တရားကို ရှုမြင်သုံးသပ်နိုင်တဲ့ အရည်အသွေး နဲ့ ပြဿနာကို ဖြေရှင်းနိုင်တဲ့ အရည်အသွေးတွေ မြင့်မားလာပြီး "ငြိမ်းချမ်းမှုပညာရေး"ကို အောင်မြင်စွာ ပူးပေါင်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှာ ဖြစ်ပါတယ်။

**သွေးချင်းတို့ရဲ့ ပွဲတော်ဆီ ၂၀၂၀ ဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသောအမှာစကားမှ ကောက်နုတ်ချက် (၁-၂-၂၀၂၀)**

- တိုင်းရင်းသား ညီအစ်ကိုမောင်နှမများအားလုံးဟာ ပြည်ထောင်စုသားချင်းများ ဖြစ်ပါတယ်။ ပြည်ထောင်စုစိတ်ဓာတ်နဲ့သာ စည်းလုံးညီညွတ်မှုကို ရရှိစေမှာဖြစ်ပါတယ်။ ပြည်ထောင်စုအတွင်းမှာ မတူညီတဲ့ လူမျိုး၊ မတူတဲ့ဘာသာစကား၊ မတူတဲ့ကိုးကွယ်မှုများရှိလင့်ကစား၊ စည်းလုံးညီညွတ်စွာနေရေးကို ဦးတည်ကြရပါမယ်။ ကျွန်မတို့အားလုံးဟာ ပြည်ထောင်စုသားချင်းများဖြစ်တာနဲ့အညီ ဒီပြည်ထောင်စု၊ ဒီမြေ၊ ဒီရေကို ချစ်မြတ်နိုးပြီး ငြိမ်းချမ်းရေး၊ ညီညွတ်ရေး၊ တိုးတက်ဖွံ့ဖြိုးမှုနဲ့ သာယာခိုင်မာတဲ့ ပြည်ထောင်စုတစ်ခု တည်ဆောက်ရေးကို တန်ဖိုးထားကြဖို့က အင်မတန်မှ အရေးကြီးပါတယ်။
- သဘာဝကြီးက လှပစွာဖန်ဆင်းပေးထားတဲ့ သဘာဝပတ်ဝန်းကျင်အလှများ၊ သယံဇာတများ၊ ရိုးရာအထည်များ အပါအဝင် ဒေသထွက်ကုန်များ၊ သစ်ဆန်းတီထွင်ဉာဏ်နဲ့ ခေတ်ပေါ်နည်းပညာများကို အခြေပြုပြီး ခရီးသွားလုပ်ငန်းများဖွံ့ဖြိုးတိုးတက်စေရေး၊ ထွက်ကုန်များအဆင့်မြှင့်တင်နိုင်ရေး၊ ပြည်တွင်းပြည်ပခရီးသွားများအတွက် ရပ်ရွာအခြေပြုခရီးသွားလုပ်ငန်းများ မြှင့်တင်နိုင်ရေးစသည်တို့ကို တစ်ဆင့်ထက်တစ်ဆင့် မြင့်မားတိုးတက်ရေးအတွက် ဆောင်ရွက်သွားနိုင်မယ်လို့ ယုံကြည်ပါတယ်။
- ကျွန်မတို့သွေးချင်းလို့ဆိုတဲ့အခါမှာ တူညီတဲ့သွေး၊ တူညီတဲ့သွေးဆိုတာ တကယ်တော့ ကျွန်မတို့သွေးကြောတွေထဲမှာ စီးဆင်းနေတဲ့ သွေးတွေကိုပြောတာ မဟုတ်ပါဘူး။ ကျွန်မတို့စိတ်ထဲကနေ စီးဆင်းနေတဲ့ သွေးကို ပြောတာပါ။ ဆိုလိုချင်တာက စိတ်ထဲကသဘောချင်းဟာ တူညီမှ၊ ကျွန်မတို့တွေ တစ်စိတ်တည်းတစ်ဝမ်းတည်းဖြစ်မှ တကယ့်သွေးရင်းတွေဖြစ်နိုင်မှာပါ။ အကြောထဲမှာ စီးဆင်းနေတဲ့သွေးက ဘယ်လိုပဲတူတူ တစ်စိတ်တည်းတစ်ဝမ်းတည်း မဟုတ်

ဘူးဆိုရင် ကျွန်မတို့ကိုကျွန်မတို့ သွေးချင်းလို့ခေါ်နိုင်မှာ မဟုတ်ပါဘူး။ ဒီပြည်ထောင်စုကြီးကို ကြည့်လိုက်မယ်ဆိုရင် ကျွန်မတို့ပြည်ထောင်စုကြီး ကျွန်မတို့နိုင်ငံဟာ ဘယ်လောက် လှပသလဲ၊ ဘယ်လောက်ကို တန်ဖိုးထားစရာ ကောင်းသလဲဆိုတာ မြင်ကြမှာပါ။

**ပင်လုံမြို့၌ ကျင်းပသည့် (၇၃) နှစ်မြောက် ပြည်ထောင်စုနေ့အခမ်းအနားတွင်ပြော ကြားသည့် မိန့်ခွန်းမှ ကောက်နုတ်ချက် (၁၂-၂-၂၀၂၀)**

- ပင်လုံစာချုပ်ကို လက်မှတ်ရေးထိုးခဲ့တာ ယခု(၇၃)နှစ်ပြည့်သွားပါပြီ။ "ပင်လုံ" ဆိုတာပြည်ထောင်စုကို ကိုယ်စားပြုတဲ့ အဓိကဝေါဟာရ ဖြစ်တယ်လို့ ဆိုနိုင်ပါတယ်။ ပင်လုံစာချုပ်ဖြစ်ပေါ်နိုင်ခြင်းနဲ့ပတ်သက်တဲ့ အရေးကြီးဆုံးအချက်ကတော့ ပြည်သူလူထုပါဝင်ခဲ့ခြင်းဖြစ်တယ်လို့ ကျွန်မယူဆပါတယ်။ ဒါဟာ နိုင်ငံ့အတွက် အရေးပါတဲ့ကိစ္စရပ်တွေ အောင်မြင်စွာ ပြီးမြောက်ဖို့အတွက် ပြည်သူလူထုမပါမဖြစ်ဆိုတဲ့ ဒီမိုကရေစီတန်ဖိုးကို အသိအမှတ်ပြုလိုက်တာပဲ ဖြစ်ပါတယ်။ ဒုတိယအချက်အနေနဲ့ ပြောရမယ်ဆိုရင် စာချုပ်ထဲမှာပါတဲ့ ဝါကျကလေးတစ်ခုပါပဲ။ ဒီဝါကျလေးကတော့ "ကြားဖြတ်မြန်မာအစိုးရနှင့် ချက်ချင်း ပူးပေါင်းခြင်းအားဖြင့် ရှမ်း၊ ကချင်နှင့်ချင်းတို့သည် လွတ်လပ်ရေးကို ပိုမို၍ လျင်မြန်စွာ ရရှိလိမ့်မည်" လို့ဖြစ်ပါတယ်။
- သမိုင်းကိုပြန်ကြည့်တဲ့အခါ တစ်ဦးကိုတစ်ဦး အပြစ်တင်တဲ့ အပြစ်ရှာတဲ့အမြင်နဲ့ မကြည့်စေချင်ပါဘူး။ တစ်ယောက်ကိုတစ်ယောက် အပြစ်တင်နေလို့ အဖြေမှန် မရနိုင်ပါဘူး။ သူတို့ဘက်က ဘာမှားလဲဆိုတာထက်၊ ကိုယ့်ဘက်ရော ဘာမှားလဲ ဆိုတဲ့ ငါတို့အားလုံး ဘာတွေမှားခဲ့ကြသလဲ၊ ဘာတွေပြင်ဆင်ဖို့ လိုအပ်သလဲဆိုတဲ့ ဝေဖန်ဆန်းစစ်တဲ့ အမြင်နဲ့ ကြည့်စေချင်ပါတယ်။ ကမ္ဘာလုံးဆိုင်ရာ အမြင်သစ်တွေနဲ့အတူ မပဟောင်းနိုင်တဲ့ ပင်လုံစိတ်ဓာတ်နဲ့လည်း ကြည့်စေချင်ပါတယ်။ ကျွန်မတို့အနေနဲ့ နှစ်ပေါင်း (၇၀) ကျော် လက်နက်ကိုင်ပဋိပက္ခကို အဆုံးသတ်နိုင်ဖို့ အတိတ်သမိုင်းက ဘာတွေသင်ခန်းစာရနိုင်မလဲဆိုတာကိုပဲ ကြည့်စေချင်ပါတယ်။ ကိုယ့်နိုင်ငံသမိုင်းနဲ့ဆက်စပ်နေတဲ့ကမ္ဘာကြီးရဲ့ အခြေအနေတွေကလည်း အရေးကြီးတဲ့အတွက် အတိတ်သမိုင်းကို လေ့လာသုံးသပ်တဲ့အခါမှာ အဲဒီတုန်းက ဆက်စပ်အခြေအနေနဲ့ အခုဆက်စပ် အခြေအနေတွေ မတူညီတာကိုလည်း ထည့်သွင်းစဉ်းစားကြဖို့ လိုပါတယ်။ အနာဂတ်မှာ ကျွန်မတို့နိုင်ငံကို ဘယ်လိုပုံစံမျိုးနဲ့ လက်ဆင့်ကမ်းအမွေ ပေးခဲ့မှာလဲဆိုတာ အင်မတန်မှ အရေးကြီးပါတယ်။

- ယခုအချိန်မှာ နိုင်ငံတော်အစိုးရက ငြိမ်းချမ်းရေးနဲ့ အမျိုးသား ပြန်လည်သင့်မြတ်ရေးအတွက် ကြိုးပမ်းဆောင်ရွက်ရာမှာ တိုင်းရင်းသားအပေါင်း ကျေနပ်လက်ခံနိုင်မယ့် ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စု တည်ဆောက်ရေးအတွက် နိုင်ငံရေးဆွေးနွေးမှုဖြစ်တဲ့ ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ (၂၁) ရာစုပင်လုံလို့ နာမည်ပေးထားခြင်းဟာ ၂၀ ရာစုပင်လုံရဲ့ စုစည်းညီညွတ်တဲ့ စိတ်ဓာတ်နဲ့ အဲ့ဒီအချိန်က တကယ်လိုအပ်နေတဲ့ လွတ်လပ်ရေးကို ရအောင်ယူနိုင်ခဲ့ပါတယ်။ ဒါကို ကျွန်မတို့တွေ ပြန်ပြောင်းအမှတ်ရပြီး စည်းလုံးညီညွတ်ကြဖို့ပဲ ဖြစ်ပါတယ်။ ၂၀ ရာစုပင်လုံရဲ့ စည်းလုံးညီညွတ်မှုစိတ်ဓာတ်ကို ယူဆောင်ပြီးတော့ ၂၁ ရာစုပင်လုံကို လက်ရှိကာလရဲ့ ဆက်စပ်အခြေအနေတွေနဲ့ ကိုက်ညီအောင် ဆွေးနွေးညှိနှိုင်းကြပြီး ကျွန်မတို့နိုင်ငံအတွက် အသက်တမျှအရေးတကြီးလိုအပ်နေတဲ့ ရေရှည်တည်တံ့မယ့် ငြိမ်းချမ်းရေးကို စုပေါင်းအင်အားနဲ့ ရယူကြဖို့ပဲ ဖြစ်ပေတယ်။
- ကျွန်မတို့ ဘိုးဘွားတွေထူထောင်ခဲ့တဲ့နိုင်ငံ၊ ကျွန်မတို့ဘိုးဘွားတွေရဲ့ စုစည်းညီညွတ်မှုအားနဲ့ ဥမကွဲသိုက်မပျက် လွတ်လပ်ရေး အရယူနိုင်ခဲ့တဲ့ ပြည်ထောင်စုကြီး အရှည်သဖြင့် တည်တံ့ခိုင်မြဲစေဖို့ဆိုရင် အားလုံးသဘောတူလက်ခံနိုင်တဲ့ ၂၁ ရာစု ဆက်စပ်အခြေအနေတွေနဲ့ ကိုက်ညီတဲ့ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စု ထူထောင်နိုင်ဖို့ အရေးကြီးလှပါတယ်။ ကျွန်မတို့အားလုံးမှာ မတူညီတဲ့အမြင်တွေ၊ ယုံကြည်ချက်တွေ ရှိနေကြပေမယ့်လည်း အားလုံးရဲ့ ရည်မှန်းချက်ပန်းတိုင်ဟာ အမျိုးသားတန်းတူရေးနဲ့ အမျိုးသားညီညွတ်ရေးကို အခြေခံတဲ့ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စု တည်ဆောက်ရေးပဲဆိုတာ သံသယရှိစရာ မလိုပါဘူး။ ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုကို ဘယ်လိုပုံဖော်ကြမလဲဆိုတဲ့ နည်းနာပိုင်းဆိုင်ရာ အမြင်မတူညီတာတွေရှိနေဆဲဖြစ်ပေမယ့်လည်း တူညီတဲ့ရည်မှန်းချက်ပန်းတိုင်ကို ရောက်ဖို့အတွက် ကျွန်မတို့တစ်တွေ အမြော်အမြင်ကြီးကြီး၊ ညီညီညွတ်ညွတ် ကြိုးစားသွားကြမယ်ဆိုရင် မအောင်မြင်နိုင်စရာအကြောင်း မရှိဘူးလို့ ယုံကြည်ပါတယ်။

**ဗိုလ်ချုပ်အောင်ဆန်း၏ (၁၀၅)နှစ်မြောက် မွေးနေ့အထိမ်းအမှတ် အခမ်းအနားတွင် ပြောကြားသော အမှာစကားမှ ကောက်နုတ်ချက် (၁၃-၂-၂၀၂၀)**

- ယနေ့သည် မိမိဖခင်ဗိုလ်ချုပ်အောင်ဆန်း၏(၁၀၅)နှစ်မြောက်မွေးနေ့ဖြစ်သည်ကို အားလုံးသိကြပြီးဖြစ်ပါကြောင်း၊ မိဘမဲ့ကလေးများသည် မိဘ၏ တန်ဖိုးကို ပို၍သိမည်ဟု ယုံကြည်ပါကြောင်း၊ မိမိကိုယ်တိုင်လည်း ငယ်စဉ်ကတည်းက ဖခင်မဲ့ခဲ့ရကြောင်း၊ ဖခင်မဲ့ရသည့် အခြေအနေကို ကိုယ်တိုင်သိရှိရပါကြောင်း၊

ယခုကဲ့သို့ မိမိဖခင်၏ မွေးနေ့တွင် မိဘမဲ့ကလေးများကို အာဟာရကျွေးမွေးရသည့်အတွက် ဝမ်းသာပါကြောင်း၊ ကလေးငယ်များအတွက်လည်း တန်ဖိုးရှိသည့် အခမ်းအနားတစ်ခု ဖြစ်စေလိုကြောင်း၊

- လူတိုင်း လူတိုင်းတွင် အားရှိပြီး လူတိုင်းလူတိုင်းတွင် ကြိုးစားနိုင်သည့် အခွင့်အရေးရှိသည်ကို မှတ်သားစေလိုပါ ကြောင်း၊ ကလေးငယ်များကို စိတ်အားမငယ်ဘဲ စိတ်ဓာတ်ခိုင်မာစေလိုပါကြောင်း၊ မိမိတို့၏ အားနည်းချက်များကို အားသာချက်များအဖြစ် ပြောင်းလဲရန်၊ ဘဝတွင် ပျော်ပျော်ရွှင်ရွှင်နေထိုင်ရန်၊ တစ်ယောက်နှင့်တစ်ယောက် မိတ်ဆွေကောင်းများကဲ့သို့ ချစ်ခင်ကြရန် လိုအပ်ပါကြောင်း၊ အားလုံး ကျန်းကျန်းမာမာ ချမ်းချမ်းသာသာဖြင့် မိမိတို့လိုချင်သည့် အရာများ ဘဝတစ်လျှောက်လုံး ရကြပါစေဟု ဆုတောင်းမေတ္တာ ပို့သပါကြောင်း။

**စတုတ္ထအကြိမ်မြောက် E-GOVERNMENT ညီလာခံနှင့် ကွန်ပျူတာနည်းပညာပြပွဲ ဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့် မိန့်ခွန်းမှ ကောက်နုတ်ချက် (၁၈-၂-၂၀၂၀)**

- e-Government ဟာ တိုင်းပြည် ပိုမိုဖွံ့ဖြိုးတိုးတက်လာစေဖို့ စွမ်းဆောင်ပေးနိုင်တဲ့အရာ (Enabler) တစ်ခု ဖြစ်ပါတယ်။ ကျွန်မတို့ လိုအပ်နေတဲ့ နိုင်ငံရဲ့ ရေရှည်တည်တံ့တဲ့ ဖွံ့ဖြိုးတိုးတက်မှုကိုရရှိဖို့၊ ဆင်းရဲမှုတွေ လျှော့ချနိုင်ဖို့အတွက် e-Government အကောင်အထည်ဖော်မှုများက အလွန်အရေးပါပါတယ်။ e-Government ရဲ့ အကျိုးသက်ရောက်မှုကလည်း အလွန်ပဲများပါတယ်။ ဒါကြောင့် e-Government ကဏ္ဍ တိုးတက်မှုမရှိရင် ပြည့်စုံတဲ့ တိုင်းပြည်ဖွံ့ဖြိုးတိုးတက်မှုလို့ ပြောလို့မရတော့ပါဘူး။
- Smart Phone တွေဟာ စံလို့ ပြောမထားပေမယ့် စံတစ်ခုဖြစ်နေတဲ့ လက်တွေ့အားဖြင့် ပကတိအရှိတရား(de-facto) Digital Platform တစ်ခုဖြစ်လာပြီး Smart Phone တွေကို အသုံးချပြီး အစိုးရဝန်ဆောင်မှုတွေကို ဘယ်လို လွယ်ကူလျင်မြန်စွာ ပေးနိုင်မလဲဆိုတာကို စဉ်းစားပြီး e-Government လုပ်ငန်းတွေ Digital Platform ပေါ်ရောက်အောင် ရွှေ့ပြောင်းကြဖို့ မှာကြားလိုပါတယ်။
- အခုဆို ကမ္ဘာရဲ့အရှေ့က စတုတ္ထမြောက် စက်မှုတော်လှန်ရေး (Industry Revolution 4.0) ကိုသွားနေပြီ။ အချက်အလက်အစုအဝေး (Big Data) ကို သုံးပြီး အချက်အလက်များကို သရုပ်ခွဲခြင်း (Analysis) လုပ်တာတွေ ဆောင်ရွက်နေကြပြီ။ အမျိုးမျိုးသော အာရုံခံကိရိယာ (Sensor) တွေကို အသုံးပြုပြီး အင်တာနက်ကနေတစ်ဆင့် အချက်အလက်တွေ အလိုအလျောက်ကောက်ခံ

တာတွေ လုပ်နေကြပါပြီ။ အားလုံးက (Smart Factory)၊ စမတ်ကား၊ Smart ဖြစ်တဲ့ ကျန်းမာရေးဝန်ဆောင်မှုတွေ (Smart HealthCare)၊ အပူချိန်၊ စိုထိုင်းဆ၊ ရေပေးမှု၊ ပိုးသတ်ဆေးဖျန်းတာ စတဲ့ လုပ်ငန်းများကို sensor များ အသုံးပြုပြီး အလိုအလျောက် ဆောင်ရွက်ပေးမယ့် Smart Farming ဆိုတဲ့ စိုက်ပျိုးရေးနည်းသစ်တွေ၊ မြို့နေပြည်သူတွေ အေးချမ်းသာယာမှုကို ဖန်တီးပေးနိုင်ဖို့ Smart City တွေ တည်ထောင်နေကြတဲ့ခေတ်မှာ နောက်ကသာ အမီမလိုက်နိုင်ခဲ့ရင် လူမှုရေး၊ စီးပွားရေးဆက်လက်ပြီး နောက်ကောက်ကျကျန်ခဲ့မှာ အသေအချာပါပဲ။

## (၇၂)နှစ်မြောက် ချင်းအမျိုးသားနေ့ အခမ်းအနားတွင် ပြောကြားသောမိန့်ခွန်းမှ ကောက်နုတ်ချက် (၂၀-၂-၂၀၂၀)

- “ချင်းအမျိုးသားနေ့”ဟာ ပဒေသရာဇ်အုပ်ချုပ်ရေးစနစ်ကို ဒီမိုကရေစီအုပ်ချုပ်ရေးစနစ်နဲ့ အစားထိုးဖို့ ဆုံးဖြတ်ခဲ့တဲ့နေ့ဖြစ်တဲ့အတွက် ချင်းတိုင်းရင်းသားများ တန်ဖိုးထားရှိကြပြီး နှစ်စဉ်နှစ်တိုင်း နိုင်ငံရေးအနှစ်သာရရှိရှိ ကျင်းပပြုလုပ်ကြသလိုပဲ ချင်းတိုင်းရင်းသား လူငယ်မျိုး ဆက်သစ်တွေကိုလည်း တန်ဖိုးကြီးမားလှတဲ့ နိုင်ငံရေးအမြင်ကျယ်မှုနှင့် ဒီမိုကရေစီ စိတ်ဓာတ်တွေကို လက်ဆင့်ကမ်းအမွေပေးသွားနိုင်ရေးဟာလည်း တောင်ပေါ်၊ မြေပြန့်၊ ပြည်တွင်းနဲ့ ပြည်ပနေ ချင်းတိုင်းရင်းသားများအားလုံးရဲ့ အဓိကတာဝန်တစ်ရပ်ပဲ ဖြစ်ပါတယ်။

## (၇၁) နှစ်မြောက် ပအိုဝ်းအမျိုးသားနေ့ အခမ်းအနားသို့ ပေးပို့သော သဝဏ်လွှာမှ ကောက်နုတ်ချက် (၈-၃-၂၀၂၀)

- မြန်မာနိုင်ငံ၏ လွတ်လပ်ရေးနှင့်အတူ ပူးတွဲပါလာသည့် ပြည်တွင်း လက်နက်ကိုင်ပဋိပက္ခများ ချုပ်ငြိမ်းရေး၊ ရေရှည်တည်တံ့ခိုင်မြဲသော ငြိမ်းချမ်းရေး ရရှိရေးနှင့် ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုတည်ဆောက်ရေး စသည့်တို့တွင် တက်ကြွစွာ ပူးပေါင်းပါဝင်ကြသည့်အတွက် ပအိုဝ်းတိုင်းရင်းသားများအားလုံးကို ကျေးဇူးတင်စွာ ဂုဏ်ပြုပါသည်။
- ပအိုဝ်းတိုင်းရင်းသားများသည် မိမိတို့၏ ရိုးရာယဉ်ကျေးမှု၊ ဓလေ့ထုံးတမ်းများ၊ စာပေနှင့်အနုပညာများ ဖွံ့ဖြိုးတိုးတက်ရေးတို့အပြင် ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုကို အခြေခံသော စည်းလုံးညီညွတ်ရေး၊ အခြားသော တိုင်းရင်းသားညီအစ်ကိုမောင်နှမများနှင့်အတူ ချစ်ခင်လေးစားစွာ အေးအတူပူအမျှ အတူတကွ

ယှဉ်တွဲနေထိုင်ရေး စသည်တို့ကို ပအိုဝ်းအမျိုးသားရေးတာဝန်များအဖြစ် ချမှတ်ဆောင်ရွက်လျက် ရှိကြသည့်အတွက် များစွာဝမ်းမြောက်မိပါသည်။

- ပအိုဝ်းတိုင်းရင်းသားများသည် ငြိမ်းချမ်းစွာနေထိုင်စွာနေထိုင်ရေးကို လိုလားကြသည့်နည်းတူ ပညာရေး၊ ကျန်းမာရေး၊ လမ်းပန်းဆက်သွယ်ရေးနှင့် လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်မှုစသည့် ငြိမ်းချမ်းရေးအသီးအပွင့်များ ရရှိခံစားနေကြသည်မှာကြည်နူးဝမ်းမြောက်ဖွယ်ဖြစ်ပါသည်။ပအိုဝ်းအမျိုးသားလွတ်မြောက်ရေးအဖွဲ့ (PNLO) သည် တစ်နိုင်ငံလုံးပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေး သဘောတူစာချုပ် (NCA) တွင် လက်မှတ်ရေးထိုးခဲ့ပြီး ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စု တည်ဆောက်နိုင်ရေးအတွက် ကြိုးပမ်းဆောင်ရွက်နေသည့် ပြည်ထောင်စုငြိမ်းချမ်းရေးညီလာခံ-၂၁ ရာစုပင်လုံ လုပ်ငန်းစဉ်များ၊ ဒေသဖွံ့ဖြိုးရေး လုပ်ငန်းစဉ်များတွင် တက်ကြွစွာပူးပေါင်းဆောင်ရွက်နေသည့်အတွက်လည်း ဂုဏ်ယူဝမ်းမြောက်မိပါသည်။

**COVID-19 ကြောင့် ဖြစ်ပွားသော အဆုတ်ရောင်ရောဂါ ကာကွယ်၊ ထိန်းချုပ်၊ ကုသရေးဆိုင်ရာ အရေးပေါ်အစည်းအဝေးတွင် ပြောကြားသော အမှာစကားမှ ကောက်နုတ်ချက် (၁၃-၃-၂၀၂၀)**

- COVID19 ရောဂါကူးစက်ပြန့်ပွားနေမှုကြောင့် ရေရှည်တွင် ပြည်သူပြည်သားများအပေါ် ရိုက်ခတ်လာနိုင်သည့် အကျိုးဆက်များ လျော့နည်းစေရန်အတွက် အကောင်အထည်ဖော် ဆောင်ရွက်ရမည့် လုပ်ငန်းစဉ်များ၊ အစီအမံများ ချမှတ်ဆောင်ရွက်နိုင်ရန် ရည်ရွယ်၍ ယနေ့အစည်းအဝေး ခေါ်ယူကျင်းပခြင်းဖြစ်ကြောင်း၊ Novel Coronavirus(COVID-19)ကြောင့် ဖြစ်ပွားသော အဆုတ်ရောင်ရောဂါ ကာကွယ်၊ ထိန်းချုပ်၊ ကုသရေးဆိုင်ရာ ဗဟိုကော်မတီကို ဇန်နဝါရီ ၃၀ ရက်တွင် ဖွဲ့စည်းပေးခဲ့ပြီးနောက် ဗဟိုကော်မတီ၏ ပထမအကြိမ်အစည်းအဝေးကို ဖေဖော်ဝါရီ၃ ရက်တွင် လည်းကောင်း၊ ဒုတိယအကြိမ် အစည်းအဝေးကို မတ် ၃ ရက်တွင်လည်းကောင်း ကျင်းပပြုလုပ်ခဲ့ပြီးနောက် အစည်းအဝေး ဆုံးဖြတ်ချက်များအတိုင်း သက်ဆိုင်ရာဝန်ကြီးဌာနများ၊ အဖွဲ့အစည်းများမှ အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါကြောင်း၊
- COVID19 ရောဂါကူးစက်ပြန့်ပွားမှုသည် ယခုအခါ တစ်ကမ္ဘာလုံး အတိုင်းအတာဖြင့် ကူးစက်ပျံ့နှံ့သောကပ်ရောဂါ(Pandemic)အဖြစ် ကမ္ဘာ့ကျန်းမာရေးအဖွဲ့ (WHO)က မတ် ၁၁ ရက်က ထုတ်ပြန်ကြေညာခဲ့ရာ မြန်မာနိုင်ငံအနေဖြင့်လည်း

အထူးအလေးထားပြီး ရောဂါကာကွယ်၊ ထိန်းချုပ်၊ ကုသရေးနှင့်စပ်လျဉ်း၍ အစီအမံများ ချမှတ်ခြင်းနှင့် ရေရှည်ထိခိုက်လာနိုင်သည့် အကျိုးဆက်များ၊ ဆိုးကျိုးများကို ဖြေရှင်းရေးဆိုင်ရာ နည်းလမ်းများ အဖြေရှာခြင်းတို့ကို ပိုမို ထိရောက်စွာ ကြပ်မတ်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ရောဂါကူးစက် ပြန့်ပွားမှုနှင့်စပ်လျဉ်း၍ ကျန်းမာရေးဆိုင်ရာအစီအမံများ ပိုမိုထိရောက်စွာ ဆောင်ရွက်နိုင်ရေး၊ ယင်းရောဂါ၏ အကျိုးဆက်ကြောင့် ပြည်တွင်းစီးပွားရေး ကဏ္ဍအပါအဝင် ကဏ္ဍပေါင်းစုံတွင် ရိုက်ခတ်လာမည့် အကျိုးဆက်များနှင့် ထပ်မံဖြစ်ပေါ်လာနိုင်သည့် အခြားထိခိုက်နစ်နာမှုများအား လျှော့ချနိုင်ရေး အတွက် တုန့်ပြန်ဆောင်ရွက်ကြရန်၊ ကျန်းမာရေးအသိပေး လမ်းညွှန်ချက်များနှင့် ဆောင်ရန်/ရှောင်ရန် သတင်းအချက်အလက်များအား ပြည်သူလူထုထံ ကျယ်ကျယ်ပြန့်ပြန့် အသိပညာ ဖြန့်ဝေပေးကြရန်နှင့် ရောဂါကာကွယ်၊ ထိန်းချုပ်၊ ကုသရေးအစီအမံများတွင် ပြည်သူလူထုမှ ကျန်းမာရေးအသိရှိစွာဖြင့် ပါဝင်လိုက်နာ ဆောင်ရွက်သွားစေရေးအတွက် ကြိုးပမ်းဆောင်ရွက် သွားကြရန် လိုအပ်ကြောင်း။

**မြန်မာ-ထိုင်းနှစ်နိုင်ငံအကြား HIVရောဂါ ကာကွယ်တိုက်ဖျက်ရေး လုပ်ငန်းစဉ်များ တိုးမြှင့်ရေးဆိုင်ရာ အခမ်းအနားတွင်ပြောကြားသော အမှာစကားမှ ကောက်နုတ်ချက် (၁၃-၃-၂၀၂၀)**

- နိုင်ငံတော်၏ ဦးဆောင်ပံ့ပိုးမှုဖြင့် HIV ကာကွယ်ရေးလုပ်ငန်းများ ဆောင်ရွက် ပေးနိုင်မှုကြောင့် ရောဂါအသစ်ကူးစက်မှုကို ၅၀ ရာခိုင်နှုန်းလျှော့ချနိုင်ခဲ့ပြီး သေဆုံးမှုကို ၃၅ ရာခိုင်နှုန်း လျှော့ချနိုင်ခဲ့ပါကြောင်း။ HIV ကူးစက်ဖြစ်ပွားမှုနှင့် ပတ်သက်၍ အာရှနှင့်ပစိဖိတ်ဒေသနိုင်ငံများတွင် အောင်မြင်မှုများကို စောစီးစွာ ရရှိခဲ့ကြောင်း၊ ယင်းကို ထိုင်းနိုင်ငံနှင့်မြန်မာနိုင်ငံတို့တွင် သက်သေပြနိုင်ခဲ့ ပါကြောင်း။
- အိပ်ချ်အိုင်ဗွီ ကာကွယ်တားဆီးရေးနှင့်ကုသရေးလုပ်ငန်းများကို အရှိန်အဟုန်မြှင့် ဆောင်ရွက်ရမည့် FastTrack နိုင်ငံတစ်ခုဖြစ်သည့်အလျောက် ၂၀၃၀ ခုနှစ်တွင် အိပ်ချ်အိုင်ဗွီ/ အေအိုင်ဒီအက်စ်ကို ပြည်သူ့ကျန်းမာရေးပြဿနာတစ်ခုအဖြစ် မှ ကင်းစင်ပပျောက်အောင် ဆောင်ရွက်သွားရန်လည်း ရည်မှန်းထားပါကြောင်း။
- မြန်မာနိုင်ငံအနေဖြင့် သိသာထင်ရှားသော အိပ်ချ်အိုင်ဗွီကာကွယ်တားဆီးရေး လုပ်ငန်းအောင်မြင်မှုများအပေါ် အလွန်ပင် ကျေနပ်အားရမိပါကြောင်း၊

အေအာရ်တီဆေးကုသမှုကို တိုးချဲ့ဆောင်ရွက်နိုင်သည့်အတွက် သေဆုံးမှုမှာ ၂၀၁၀ ပြည့်နှစ်နှင့် နှိုင်းယှဉ်ပါက သုံးပုံတစ်ပုံခန့် လျော့နည်းကျဆင်းလာကြောင်း၊ ထို့ပြင် ပြည်သူလူထုအတွင်း အိပ်ချ်အိုင်ဗွီ ဖြစ်ပွားမှုနှုန်းကို ၂၀၀၀ ပြည့်နှစ်တွင် ဝ ဒသမ ၉၄ ရာခိုင်နှုန်းမှ ၂၀၁၇ ခုနှစ် တွင် ဝ ဒသမ ၆ ရာခိုင်နှုန်း အောက်လျှော့ချနိုင်ခဲ့ပါကြောင်း၊ လက်ရှိအောင်မြင်မှုများနှင့် တင်းတိမ်မနေဘဲ ဆက်လက်ကြိုးစား ဆောင်ရွက်ရန် လိုအပ်ပါကြောင်း။

## ကိုဗစ်-၁၉ ကာကွယ် ထိန်းချုပ် ကုသရေးဆိုင်ရာ ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ပြည်သူလူထုသို့ အစီရင်ခံတင်ပြသည့် မိန့်ခွန်းမှ ကောက်နုတ်ချက် (၁၆-၃-၂၀၂၀)

- မတ်လ ၁၁ ရက်နေ့က ကမ္ဘာ့ကျန်းမာရေးအဖွဲ့ (World Health Organization-WHO) က တစ်ကမ္ဘာလုံးဆိုင်ရာ ကပ်ရောဂါ (Pandemic) အဖြစ် ထုတ်ပြန်ကြေညာလိုက်ပါတယ်။ ဒီကပ်ရောဂါဟာ စနစ်တကျစီမံဆောင်ရွက်ရင် ထိန်းချုပ်လို့ရတဲ့ ကပ်ရောဂါဖြစ်တယ်လို့လည်း ပြောပါတယ်။ ဒီမတိုင်မီ တစ်လကျော်၊ ဇန်နဝါရီလ ၃၀ ရက်နေ့ကတည်းကပင် ကိုဗစ်-၁၉ ရောဂါကြောင့် ကျွန်မတို့နိုင်ငံ ရင်ဆိုင်နိုင်ဖွယ်ရှိတဲ့ ကျန်းမာရေး၊ လူမှုရေး၊ စီးပွားရေး စိန်ခေါ်မှုတွေကို ဘယ်လိုကာကွယ်ကိုင်တွယ်ကျော်လွှားရမယ်ဆိုတာကို ညှိနှိုင်းစီစဉ်ဖို့ ဗဟိုကော်မတီကို ဖွဲ့စည်းခဲ့ပါတယ်။ ထိုအချိန်ကစပြီး ကျွန်မတို့ နိုင်ငံအပေါ်ကျရောက်နိုင်တဲ့ ကျန်းမာရေး၊ လူမှုရေး၊ စီးပွားရေးအခက်အခဲများ ကာကွယ်ဖြေရှင်းရေးကို မျက်ခြည်မပြတ် လေ့လာဆောင်ရွက်ခဲ့ပါတယ်။ နိုင်ငံအတွင်း ရောဂါမပြန့်ပွားအောင် ကာကွယ်စောင့်ရှောက်မှုများနဲ့ ပြည်သူများ ကိုဗစ်-၁၉ နဲ့ပတ်သက်တဲ့ အသိပညာရရှိရေးအတွက် ကျန်းမာရေးနဲ့ အားကစားဝန်ကြီးဌာနက ဦးစီးဆောင်ရွက်ခဲ့ပါတယ်။ ပြည်သူတွေအကျိုးအတွက် ရောဂါဖြစ်ပွားမှုများနေတဲ့နိုင်ငံများမှ ဝင်ရောက်လာမယ့် ခရီးသွားများကိုလည်း လိုအပ်တဲ့ ကန့်သတ်မှုများကို အချိန်နဲ့တစ်ပြေးညီဆောင်ရွက်နေပါတယ်။
- ကမ္ဘာ့ကျန်းမာရေးအဖွဲ့ရဲ့ ကြေညာချက်ကို အကြောင်းပြုပြီး ကိုဗစ်-၁၉ ရောဂါကြောင့် ကျွန်မတို့နိုင်ငံတွင်းသာမက ကမ္ဘာတစ်ဝန်း၌ ဖြစ်နိုင်ခြေရှိတဲ့ ကိစ္စ အရပ်ရပ်ကို ပိုမိုထိရောက် ကျယ်ပြန့်စွာ သုံးသပ်၊ ကိုင်တွယ်နိုင်ဖို့အတွက် မတ်လ ၁၃ ရက်နေ့မှာ၊ ဇန်နဝါရီလ (၃၀) ရက်နေ့က ဖွဲ့ခဲ့တဲ့ ဗဟိုကော်မတီကို အမျိုးသားအဆင့်တိုးမြှင့်ဖွဲ့စည်းလိုက်ပြီး ကော်မတီဥက္ကဋ္ဌအဖြစ် ကျွန်မတာဝန်ယူဆောင်ရွက်နေပါတယ်။ မတ်လ ၁၃ ရက်နေ့မှာပဲ နိုင်ငံတော်သမ္မတရုံးက ပြည်သူသို့ပန်ကြားချက် ထုတ်ပြန်ခဲ့ပါတယ်။ ကိုဗစ်-၁၉ ရောဂါတားဆီးဖို့အတွက်

အဓိကကျလှတဲ့ လူစုလူဝေးမဖြစ်စေရေးရည်ရွယ်ပြီး လူစုလူဝေးဖြင့် ကျင်းပတဲ့ အခမ်းအနားများ၊ ပွဲလမ်းသဘင်များ (မြန်မာ့ရိုးရာသင်္ကြန်ပွဲတော်အတွက် မဏ္ဍပ်ဆောက်လုပ်ပြီး ကျင်းပခြင်းအပါအဝင်) မပြုလုပ်ဖို့ညွှန်ကြားချက် ထုတ်ပြန်ခဲ့ပါတယ်။ ထို့အပြင် ကျန်းမာရေးနဲ့အားကစား၊ သာသနာရေးနဲ့ ယဉ်ကျေးမှု၊ ပညာရေးစသော ဌာနအသီးသီးက မိမိတို့နဲ့ သက်ဆိုင်တဲ့ ကိစ္စရပ်များနဲ့ပတ်သက်လို့ ညွှန်ကြားချက်တွေကို အခါအားလျော်စွာ ထုတ်ပြန်လျက်ရှိပါတယ်။

- စီးပွားရေးနဲ့ပတ်သက်လို့လည်း ပြည်သူပြည်သားများမနစ်နာစေဖို့ တတ်နိုင်သမျှ ကျွန်မတို့ အလုပ်သမားများ အလုပ်လက်မဲ့မဖြစ်စေဖို့၊ အလုပ်ရုံများ ဆက်လက်လည်ပတ်နိုင်ဖို့၊ နိုင်ငံစီးပွားရေးလည်ပတ်မှုကို ထိခိုက်မှုအနည်းဆုံး ဖြစ်စေဖို့ ရည်ရွယ်ပြီး အခွန်အကောက် ဖြေလျှော့ခြင်း၊ အတိုးနှုန်းလျှော့ချခြင်း စသည်တို့ကို ဆောင်ရွက်မှာဖြစ်ပါတယ်။ ကိုဗစ်-၁၉ကြောင့် စီးပွားရေးထိခိုက်မှု အများဆုံး ကြုံတွေ့ရနိုင်တဲ့လုပ်ငန်းများ (CMP)လို့ အများကသိကြတဲ့ ကုန်ကြမ်းပေး ကုန်ချောယူ လက်ခစားစနစ်၊ ဟိုတယ်နဲ့ခရီးသွားလာရေး လုပ်ငန်းများ၊ အသေးစားနဲ့ အလတ်စားစီးပွားရေးလုပ်ငန်းများ)အတွက် အထူး သက်သာသော အတိုးနှုန်းဖြင့် ချေးငွေများနဲ့ အခွန်ကင်းလွတ်ခွင့်ရရှိရေး စီမံပေးသွားပါမယ်။ ဒ့ါအပြင် ပို့ကုန်လုပ်ငန်းများမှ ကြိုတင်ကောက်ခံတဲ့ ဝင်ငွေခွန် နှစ်ရာခိုင်နှုန်းကိုလည်း ယခုဘဏ္ဍာနှစ်ကုန်အထိ ကင်းလွတ်ခွင့်ပေးသွားမှာ ဖြစ်ပါတယ်။
- ကျွန်မတို့ ပြည်သူပြည်သားတွေအနေနဲ့လည်း တတ်နိုင်သမျှ ပူးပေါင်းပါဝင် ထည့်ဝင်နိုင်စေမည့် ကိုဗစ်-၁၉ ကာကွယ်၊ကုသ၊ ထိန်းချုပ်ရေးဆိုင်ရာ ရန်ပုံငွေ တစ်ရပ်ကို ထူထောင်သွားမှာဖြစ်တဲ့အတွက် စေတနာရှင်ပြည်သူများအနေနဲ့ မိမိတို့တက်နိုင်သမျှ ထည့်ဝင်လှူဒါန်းနိုင်ဖို့လည်း တိုက်တွန်းနှိုးဆော်အပ်ပါတယ်။ ယခုအချိန်မှာ အစိုးရခြေလှမ်းတွေဟာ လောလောဆယ် လိုအပ်ချက်များကို တွက်ဆပြီး လှမ်းရတာဖြစ်ပေမယ့် နိုင်ငံရဲ့ ရေရှည်အကျိုးကို မျက်ခြည်မပြတ် အမြဲလုပ်ဆောင်နေပါကြောင်းကို ကျွန်မတို့ ပြည်သူတွေကို အသိပေး လိုပါတယ်။
- ကျန်းမာရေးလိုအပ်ချက်အရ မလိုအပ်ဘဲ လူစုလူဝေးမဖြစ်အောင် လိုက်နာ ဆောင်ရွက်ဖို့မှာ ပြည်သူတွေက အဓိကပါ။ ကျန်းမာရေးဝန်ကြီးဌာနရဲ့ ညွှန်ကြားချက်တွေကို တိတိကျကျလိုက်နာရေးမှာ ပြည်သူတွေက အဓိကပါ။

ယခုလို အချိန်အခါမျိုးမှာ မတိကျ မမှန်ကန်တဲ့သတင်းတွေ မပြန့်ပွားရေး ဆောင်ရွက်ရာမှာလည်း ပြည်သူတွေက အဓိကပါ။ အစိုးရိမ်လွန်ပြီး ရိက္ခာစုဆောင်းရေးကဲ့သို့သော မတည်မငြိမ်ဖြစ်စေမည့်လုပ်ရပ်များ မဖြစ်ပေါ်ရေးမှာလည်း ပြည်သူတွေက အဓိကပါ။ ယခုအထိ ကျွန်မတို့နိုင်ငံမှာ ကိုဗစ်–၁၉ ရောဂါရှိနေသူ တစ်ဦးတစ်ယောက်မျှ မတွေ့ရသေးပါ။ (ဒီကိစ္စနဲ့ပတ်သက်လို့ ကျန်းမာရေးဝန်ကြီးဌာနက အချိန်နှင့်တစ်ပြေးညီ သတင်းထုတ်ပြန်ပေးနေပါတယ်။)

- ပြည်သူတွေအပြည့်အဝပူးပေါင်းဆောင်ရွက်မယ်ဆိုရင် ကျွန်မတို့ရဲ့ ကာကွယ်ထိန်းချုပ်ရေးအစီအစဉ်များကို အောင်အောင်မြင်မြင် အကောင်အထည်ဖော်နိုင်မှာပါ။ နိုင်ငံတစ်နိုင်ငံရဲ့ အဓိကအင်အားဟာ ပြည်သူတွေ ဖြစ်ပါတယ်။ ကျွန်မတို့နိုင်ငံဟာ အင်အားကြီးနိုင်ငံ မဟုတ်ပါဘူး။ ငြိမ်းချမ်းရေး၊ ဖွံ့ဖြိုးရေး၊ ဒီမိုကရေစီအရေးစသဖြင့် လုပ်ငန်းစဉ် အမျိုးမျိုးကိုလည်း တစ်ပြိုင်နက်ကိုင်တွယ်ဖြေရှင်းနေရပါတယ်။ ဒီအခက်အခဲတွေကြားက အရင်းအမြစ် ကြွယ်ဝလှတဲ့ နိုင်ငံကြီးများနဲ့ ယှဉ်ပြိုင်စေနိုင်တဲ့ "ပြည်သူသာလျှင်အဓိက"ဆိုတဲ့ အင်အားနဲ့ ပြည့်ဝနေတယ်ဆိုတာကို ယခုကမ္ဘာ့ကပ်ရောဂါကြီးကို ရင်ဆိုင်ရာမှာ ကျွန်မတို့ သက်သေပြနိုင်မှာ ဖြစ်ပါတယ်။
- ယခုလို ကိုဗစ်–၁၉ ရင်ဆိုင်နေရချိန်မှာ နိုင်ငံတော်အကျိုးအတွက် ကျွန်မတို့ အစိုးရနဲ့အတူ ရပ်တည်ပေးကြတဲ့၊ ပူးပေါင်းဆောင်ရွက်နေကြတဲ့ ပြည်သူပြည်သားတွေ၊ အဖွဲ့အစည်းတွေ၊ နိုင်ငံ့ဝန်ထမ်းတွေ၊ အလုပ်သမားတွေ၊ စီးပွားရေးလုပ်ငန်းရှင်တွေ၊ အလွှာအသီးသီးက အသိပညာရှင်၊ အတတ်ပညာရှင်တွေ အားလုံးက ကျေးဇူးတင်ကြောင်း ပြောကြားလိုပါတယ်။ ကျွန်မတို့ အစိုးရရဲ့ လုပ်ဆောင်ချက်များ၊ ပန်ကြားချက်များကို ပြည်သူတွေသိရှိနေဖို့အတွက် စဉ်ဆက်မပြတ် သတင်းဖြန့်ချိပေးနေမှာပါ။ ယခု ကျွန်မတို့ရဲ့ အမျိုးသားရေး လုပ်ငန်းကြီး အောင်မြင်ရေးအတွက် ပြည်သူသာလျှင် အဓိကပါ။

## ကိုဗစ်–၁၉ နောက်ဆုံးအခြေအနေနှင့် စပ်လျဉ်း၍ ပြည်သူလူထုသို့ အစီရင်ခံတင်ပြသည့် မိန့်ခွန်းမှ ကောက်နုတ်ချက် (၂၄–၃–၂၀၂၀)

- ကိုဗစ်–၁၉ ရောဂါဟာ ထိန်းချုပ်လိုရကြောင်း ကမ္ဘာ့ကျန်းမာရေးအဖွဲ့ကြီးက ပြောထားပြီး ဖြစ်ပါတယ်။ ရောဂါရသူတွေထဲမှ ကွယ်လွန်အနိစ္စရောက်တဲ့ ရာခိုင်နှုန်းဟာ ၄ ဒသမ ၄ ဖြစ်ပါတယ်။ ဒါ့ကြောင့် ကုသလို့ရတဲ့ရောဂါဆိုတာလည်း

ထင်ရှားပါတယ်။ ကွယ်လွန်သူများဟာ ရောဂါအခံရှိသူများ၊ ကိုယ်ခံအားနည်းသူများနှင့် ကုသမှုခံယူခြင်း နောက်ကျသူများ ဖြစ်ပါတယ်။ ဒါ့ကြောင့် ရောဂါဖြစ်နိုင်ချေများသူများအနေနဲ့ အထူးဂရုတစိုက်နေကြဖို့ တိုက်တွန်းချင်ပါတယ်။ ပိုပြီး အရေးကြီးတဲ့အချက်ကတော့ စောစီးစွာ ဆေးကုသမှုခံယူနိုင်ရေး ဖြစ်ပါတယ်။ ရောဂါလက္ခဏာပေါ်လာပြီလို့ ထင်စရာဖြစ်လာတာနဲ့ ချက်ချင်း၊ နေ့မရွေး၊ ညမရွေး၊ အနီးဆုံးကျန်းမာရေးဌာနခွဲသို့ သွားစေချင်ပါတယ်။

- ကိုဗစ်-၁၉ ကူးစက်ခံရသူနှစ်ဦးတွေ့တယ်လို့ သတင်းထွက်လာတာနဲ့ တစ်ပြိုင်တည်း ရိက္ခာတွေ၊ ဆေးတွေ အလုအယက် ထွက်ဝယ်သူတွေလည်း ရှိပါတယ်။ ရိက္ခာပြတ်နိုင်တဲ့ အလားအလာမရှိပါဘူး။ လူအုပ်ထဲသွားတိုးဝယ်လို့ ရောဂါကူးမယ့် အလားအလာက ပိုများပါတယ်။ မပြန့်ပွားဖို့အတွက် ပြည်သူတွေသာ အဓိကပါ။ ပြည်သူတွေရဲ့ စိတ်တည်ငြိမ်မှု အင်အားကသာ အဓိကဖြစ်ပါတယ်။
- အစိုးရအနေနဲ့ အများပြည်သူများအတွက် မရှိမဖြစ်လိုအပ်တဲ့ ဝန်ဆောင်မှုလုပ်ငန်းတွေ၊ ဈေးတွေနဲ့ အရောင်းအဝယ်စင်တာတွေကို ပိတ်သိမ်းဖို့ အစီအစဉ်မရှိတာကို အသိပေး ပြောလိုပါတယ်။ ဈေးဝယ်တဲ့အခါ မိသားစုလိုက်၊ အစုဖွဲ့လိုက်မသွားဘဲ တစ်ဦးတည်းတစ်ယောက်တည်း တာဝန်ယူပြီး မိသားစုအတွက် အမှန်တကယ်လိုအပ်တဲ့ ပမာဏကိုပဲ သွားရောက်ဝယ်ယူကြစေလိုပါတယ်။
- လုပ်ငန်းတွေ၊ စက်ရုံတွေ၊ အလုပ်ရုံတွေကို ပိတ်မယ်၊ မြို့ရွာအဝင်၊ အထွက်တွေကို ပိတ်မယ်ဆိုတဲ့ မဟုတ်မမှန်သတင်းတွေ ပျံ့နှံ့နေပါတယ်။ ဒီလိုကောလဟာလတွေကြောင့် ပြည်သူတွေ အထိတ်တလန့်မဖြစ်ကြပါနဲ့။ အဂတိတရားလေးပါးကို သိကြပါတယ်နော်။ အဂတိဆိုတာ မမှန်ကန်တဲ့လမ်းပါ။ မမှန်ကန်တဲ့လမ်းပေါ်ကို တွန်းပို့တာကတော့ ဆန္ဒ၊ ဒေါသ၊ ဘယ၊ မောဟတို့ပဲ ဖြစ်ပါတယ်။ ယခု ကျွန်မတို့အားလုံး အခြားနိုင်ငံများနည်းတူ ရင်ဆိုင်နေရတဲ့ ကိုဗစ်-၁၉ နဲ့ ပတ်သက်လို့ လမ်းလွဲပေါ် မရောက်သွားဖို့ အရေးကြီးပါတယ်။
- ဆန္ဒက တွန်းပို့လို့ မလုပ်သင့်၊ မလုပ်ထိုက်တာတွေ လူစုလူဝေးဖြစ်စေခြင်း၊ ရိက္ခာတွေ၊ ဆေးဝါးတွေစုဆောင်းခြင်း၊ ကျန်းမာရေးညွှန်ကြားချက်တွေကို မလိုက်နာခြင်းဆိုတာကို ရှောင်ပါ။ ဒေါသက တွန်းပို့လို့ မလိုတမာစိတ်နဲ့ မမှန်သတင်းတွေ လူအများ ထိတ်လန့်ပြီး ရပ်ရွာတည်ငြိမ်မှု ထိခိုက်စေမယ့်စကားတွေ ပြန့်ပွားစေခြင်းကို ရှောင်ပါ။ ဘယ၊ အကြောက်တရားလွန်ပြီး ရိက္ခာစုဆောင်းခြင်း၊ ရောဂါလက္ခဏာ ဖုံးကွယ်ထားခြင်းများကို ရှောင်ပါ။ မောဟ၊ နိုင်ငံတော်အစိုးရဌာနအသီးသီးက ထုတ်ပြန်ချက်တွေကို မလေ့လာဘဲ အထင်အမြင်မှားပြီး

မလုပ်သင့်တာတွေလုပ်၊ လုပ်သင့်တာတွေမလုပ်ခြင်း၊ ဒီအဂတိတရား (၄)ပါးကို ရှောင်ကြပါလို့ ကျွန်မအနေနဲ့ မေတ္တာရပ်ခံချင်ပါတယ်။ ဆန္ဒမျှားခေါ်ရာ မလိုက်ပါနဲ့၊ ညီညီညွတ်ညွတ်နဲ့ ကိုယ်ချင်းစာနေရပေမယ့် နှလုံးသားနီးကပ်မှုနဲ့ စိန်ခေါ်မှုတွေကို အတူ ပူးပေါင်းရင်ဆိုင်ကြမယ်။ဒေါသတွန်းပို့ရာ မရွေ့ပါနဲ့။ အချင်းချင်းကြား မေတ္တာပွားပြီး စိန်ခေါ်မှုတွေကို အားလုံးအတူတူကျော်လွှားကြမယ်။ဘယာဖိချရာ မကျပါနဲ့၊ နိုင်ငံ့အင်အား၊ ပြည်သူ့အင်အားတွေ စုစည်းပြီး စိန်ခေါ်မှုတွေကို မားမားမတ်မတ် ရင်ဆိုင်ကြမယ်။ မောဟ ဆွဲနှစ်ရာ မနစ်ပါနဲ့ ကိုဗစ်–၁၉ နဲ့ပတ်သက်လို့ အစိုးရဌာနအသီးသီးက ထုတ်ပြန်ချက်တွေကို လေ့လာပါ။ ကောလဟာလတွေနားဝင်ပြီး လမ်းမှားပေါ်မရောက်ပါစေနဲ့၊ အားလုံးအတူ သတိ၊ ဝီရိယ၊ ပညာကိုအားထားပြီး ကိုဗစ်–၁၉ စိန်ခေါ်မှုကြီးကို အတူအနိုင်ယူကြပါမယ်။

## ကိုဗစ်–၁၉ နောက်ဆုံးဖြစ်ပွားမှုအခြေအနေနှင့်ပတ်သက်ပြီး ပြည်သူလူထုသို့ အစီရင်ခံတင်ပြသည့် မိန့်ခွန်းမှကောက်နုတ်ချက် (၃၁–၃–၂၀၂၀)

- ကိုဗစ်–၁၉ ရဲ့ သဘောသဘာဝအရ ရောဂါအခံကြောင့်၊ အသက်အရွယ်ကြီးခြင်းကြောင့် ကိုယ်ခံအားနည်းသူများအတွက် အထူးစိုးရိမ်ရပါတယ်။ ဆေးကုသမှုနောက်ကျခြင်းကလည်း အန္တရာယ်ကို ပိုစေပါတယ်။ ဒါ့ကြောင့် သံသယဖြစ်စရာလက္ခဏာတွေ ကိုယ်ပူ၊ ချောင်းဆိုး၊ အသက်ရှူကျပ်ခြင်းတွေဖြစ်နေပါက အမြန်ဆုံးကျန်းမာရေးဌာနကို ဆက်သွယ်ဖို့ လိုပါတယ်။
- ကိုဗစ်–၁၉ ရဲ့အဆိုးရွားဆုံးအချက်ကတော့ ကူးစက်ပျံ့နှံ့မှု အလွန်မြန်ခြင်းပဲဖြစ်ပါတယ်။ ဒါ့ကြောင့် ရောဂါပိုးကပ်နေနိုင်ခြေရှိတဲ့သူတွေကို Quarantine ထားရတာပါ။ အခြားသူတွေနဲ့ မထိတွေ့ရအောင် အခြားသူများကို မကူးစက်သွားရအောင်ပါ။ ကိုဗစ်–၁၉ က ပြည်ပက စဝင်လာတယ်ဆိုပေမယ့် ပြည်တွင်းရောက်တော့ အချင်းချင်းထိတွေ့မှုကနေ အများကြီး အမြန်ကြီး ပြန့်သွားနိုင်ပါတယ်။ အထိရောက်ဆုံးကာကွယ်၊ အထိန်းအချုပ်ကတော့ ထိတွေ့မှုတွေ ရှောင်ဖို့ပါပဲ။ ဒါ့ကြောင့် အများနဲ့အနီးကပ်ဖြစ်ရမယ့်နေရာတွေကို မသွားပါနဲ့။ အိမ်ပြင်မှာပဲဖြစ်ဖြစ်၊ အိမ်တွင်းမှာပဲဖြစ်ဖြစ် လူစုလူဝေးရှောင်ပါ။ ဆွေမျိုးမိတ်ဆွေတွေ စုပြီးအိမ်ထဲမှာ ဆုံကြ၊ နီးနီးကပ်ကပ်နေကြတာဟာ အပြင်ထွက်ပြီး လူအုပ်ထဲတိုးတာလိုပဲ အန္တရာယ်ရှိပါတယ်။ ဒီအချိန်မှာ "ဝေးလေကောင်းလေ" ဆိုတဲ့ အသိနဲ့ ကိုယ်ကျန်းမာရေးနဲ့ အများကျန်းမာရေးကို ဂရုစိုက်ကာကွယ်ပေးကြပါ။ တတ်နိုင်သမျှ ကိုယ့်အိမ်မှာပဲနေကြပါ။ အိမ်နေရာထိုင်ခင်းမကျယ်တဲ့ မိသားစု

တွေအတွက် အခက်အခဲရှိမယ်ဆိုတာ နားလည်ပါတယ်။ ဒါပေမယ့် အချိန်ကာလအတိုင်းအတာတစ်ခုထိကို ကျွန်မတို့ပြည်သူတွေအားလုံး စိတ်ကိုတင်းထားပြီး အခက်အခဲတွေကို သည်းခံကြ၊ တစ်ဦးချင်းတစ်ဦးချင်း တာဝန်သိစိတ်အပြည့်နဲ့ ကိုဗစ်-၁၉ မပြန့်ပွားရေးအတွက် ဆောင်ရွက်ပေးကြရမယ်ဆိုရင် ဒီစိန်ခေါ်မှုကြီးကို ကျော်လွှားနိုင်မှာ ဖြစ်ပါတယ်။

- ကျန်းမာရေးနဲ့အားကစားဝန်ကြီးဌာနရဲ့ ကပ်ရောဂါကြီး (Big Outbreak) ဖြစ်နိုင်တဲ့ ကြေညာချက်ထုတ်ပြန်ပြီးတဲ့နောက်ပိုင်း ပြည်သူများအကြားမှာ Lock Down လုံးဝပိတ်လှောင်မှု မလုပ်သေးဘူးလား တိုက်တွန်းနေကြသူများလည်း ရှိကြပါတယ်။ ဒီလိုတိုက်တွန်းမှုတွေကြောင့် ဘယ်တော့ Lock Down လုပ်မလဲဆိုပြီးတော့ စိုးရိမ်နေတာတွေလည်း ရှိကြပါတယ်။ ဒါ့ကြောင့် တစ်နိုင်ငံလုံးအကျိုးအတွက် လိုအပ်လျှင် အချို့သောနေရာတွေမှာ အသွားအလာကန့်သတ်ခြင်းအစီအစဉ် Community Quarantine ဆောင်ရွက်ရန်ရှိရင်လည်း စောနိုင်သမျှ စောစောကြိုတင်ပြီးတော့ အသိပေးပါမယ်။ ပြည်သူများက နားလည်မှုရှိရှိ ပူးပေါင်းပါဝင်ဆောင်ရွက်ကြဖို့ တိုက်တွန်းလိုပါတယ်။
- ကိုဗစ်-၁၉ နဲ့ပတ်သက်တဲ့ စီးပွားရေးအကျိုးဆက်တွေကို တွက်ချက်ပြီး၊ ပြည်သူများ ထိခိုက်နစ်နာမှုအနည်းဆုံးဖြစ်စေဖို့ နိုင်ငံတော်အစိုးရက အစီအစဉ်တွေ ချမှတ်ထားပါတယ်။ အလိုအပ်ဆုံးလုပ်ငန်းတွေအတွက် ချေးငွေပေးခြင်းတွေ စနေပါပြီ။ အလုပ်သမားတွေကို လုပ်ခပေးနိုင်ဖို့၊ လုပ်ငန်းဆက်လက်လည်ပတ်နိုင်ဖို့ ဖြစ်ပါတယ်။ ကိုဗစ်-၁၉ ကြောင့်ဖြစ်ပေါ်လာတဲ့ စီးပွားရေးသက်ရောက်မှုအပေါ် ကုစားရေးလုပ်ငန်းကော်မတီက အချိန်ပြည့်အခြေအနေတွေကို လေ့လာပြီး သင့်တော်တဲ့ အစီအစဉ်တွေ ချမှတ်အကောင်အထည်ဖော်နေပါတယ်။ ကျန်းမာရေးဝန်ကြီးဌာနရဲ့ ထုတ်ပြန်ချက်တွေကို အစဉ်တစိုက် နားထောင်လိုက်နာကြဖို့လိုပါတယ်။ ကျွန်မတို့အားလုံး တစ်ယောက်ချင်း၊ တစ်ယောက်ချင်း၊ ကိုယ့်ကျန်းမာရေး၊ အခြားသူများ ကျန်းမာရေးနှစ်မျိုးလုံးအတွက် တာဝန်သိစိတ်အပြည့်အဝနဲ့ တညီတညွတ်တည်း ကြိုးစားကြပါ။ ညီညွတ်ခြင်းဟာ အင်အား၊ ပြည်သူတွေဟာအဓိက၊ ပြည်သူတွေညီညီညွတ်ညွတ်နဲ့ လုပ်သင့်လုပ်ထိုက်တာအားလုံးကို လုပ်မယ်ဆိုရင် ကျွန်မတို့အတွက် အောင်မြင်ခြင်းတရားပါပဲ။
- လက်ရှိအချိန် ကမ္ဘာ့နိုင်ငံအသီးသီးမှာ ကိုဗစ်-၁၉ ကူးစက်ပြန့်ပွားမှုကို အပြင်းအထန် ရင်ဆိုင်နေရတဲ့ အချိန်ဖြစ်တဲ့ အားလျော်စွာ မြန်မာနိုင်ငံဟာလည်း အစွမ်းကုန်ကြိုးပမ်းဆောင်ရွက်နေပါတယ်။ ဒီလိုကြိုးပမ်းရာမှာ ပြည်သူများ

မိမိတို့အသိစိတ်ဓာတ်နဲ့ ကျရာကဏ္ဍ၊ ဆိုင်ရာနယ်ပယ်၊ နိုင်ရာတာဝန်အသီးသီးက ပံ့ပိုးကူညီဆောင်ရွက်နေမှုများကို အားရကျေနပ်ဖွယ်ရာ တွေ့မြင်ရပါတယ်။ ကျွန်မတို့ရဲ့ စုပေါင်းအင်အားနဲ့အတူတကွ ရင်ဆိုင်ကြမယ်ဆိုရင် ကပ်ရောဂါဘေးကို တည်ငြိမ်စွာ ရင်ဆိုင်ကျော်ဖြတ်နိုင်မယ်လို့လည်း အပြည့်အဝယုံကြည်ပါတယ်။

**ယခုနှစ် သင်္ကြန်ကိုဖြတ်ကျော်ရန်နှင့် ပတ်သက်၍ ပြည်သူများထံပါးသော သတင်းစကားမှ ကောက်နုတ်ချက် (၄-၄-၂၀၂၀)**

- ဒီနေ့ဟာ ကိုဗစ်-၁၉ ရောဂါရှိနေသူတွေတစ်ဦးကို မြန်မာပြည်တွင်းမှာ ပထမဆုံးတွေ့ရှိပြီး (၁၄) ရက်မြောက်နေ့ ဖြစ်ပါတယ်။ နောက် (၂) ပတ်၊ (၃) ပတ်အတွင်းမှာ ရောဂါပျံ့ပွားနှုန်း ဘယ်လောက်မြန်နိုင်မယ်ဆိုတာ ပေါ်လွင်လာပါလိမ့်မယ်။ ဒီအချိန်မှာ ပြည်သူတွေအားလုံး အထူးသတိဝီရိယနှင့် ရောဂါမပျံ့ပွားရေးအတွက် စည်းကမ်းညွှန်ကြားချက်တွေကို လိုက်နာဖို့ အရေးကြီးပါတယ်။ ကျွန်မတို့တွေ မတွေ့ရ မကြုံရဖူးတဲ့ သင်္ကြန်မျိုးကို ဖြတ်ကျော်ရပါမယ်။ လူစုလူဝေး လုံးဝရှောင်ရမယ့် သင်္ကြန်ပါ။ လူစုလူဝေးဆိုတာ ဘယ်နှစ်ယောက်လဲလို့ စဉ်းစားတာတွေရှိမှာပါ။ လူနည်းလေကောင်းလေ၊ အလှမ်းဝေးလေ ကောင်းလေပါ။
- ထိတွေ့မှုရှိသူတစ်ဦးပိုလာတာနဲ့ အန္တရာယ်တစ်ခုပိုလာပြီလို့မှတ်ပါ။ သတိဆိုတာ လွန်ကဲတယ်လို့ မရှိပါဘူး။ ရေထွက်မကစားရတဲ့ သင်္ကြန်၊ ခြိမ့်ခြိမ့်သဲ အလှူတွေနဲ့ ရပ်ကွက်မပျော်ကြရတဲ့သင်္ကြန်ဆိုပြီး စိတ်မပျက်ကြပါနဲ့။ ကိုယ့် အတွက်သာမက အများအတွက် အကောင်းဆုံးလာဘ်လာဘကို ပေးကမ်းတဲ့ စေတနာအလှူကြီး ကျွန်မတို့ အားလုံးလုပ်နိုင်ပါတယ်။ ကိုယ်ကိုကိုယ်ထိန်းခြင်းနဲ့ သမာဓိအားပွားနိုင်ပါတယ်။ ထူးကဲတဲ့သင်္ကြန်မှာ ထူးထူးကဲကဲ ကုသိုလ်တွေ ပြုနိုင်ပါတယ်။ အိမ်မှာ ငြိမ်ငြိမ်လေးနေပြီး ပြုနိုင်ပါတယ်။

**ပြည်သူများ တင်ပြလာသည့် အချက်များနှင့်ပတ်သက်၍ ဆောင်ရွက်ပေးမည့် အစီအမံများအား ဖေ့စ်ဘွတ်စာမျက်နှာတွင် ရှင်းလင်းပြောကြားသော စကားမှ ကောက်နုတ်ချက် (၅-၄-၂၀၂၀)**

- Facebook မှာ တက်လာချက်များအရ ပြည်သူတွေ သိချင်တဲ့ကိစ္စများထဲမှာ ထိပ်ဆုံးအချက်တွေကတော့

  (၁) ပိတ်ရက်အတွင်း လက်လုပ်လက်စားများရဲ့ စားဝတ်နေရေး၊

(၂) Mask ကိစ္စ၊

(၃) မီတာခ လျှော့ပေးရေးနဲ့

(၄) အင်တာနက်သုံးစွဲမှု နှုန်းထားကောက်ခံမှု လျှော့ပေးရေးတို့ ဖြစ်ပါတယ်။

(၁) နဲ့ပတ်သက်လို့ကတော့ နိုင်ငံ့ဘဏ္ဍာ၊ COVID ဗဟိုကော်မတီရန်ပုံငွေတို့နဲ့ အကောင်းဆုံး စီမံကိန်းတစ်ခု အကောင်အထည်ဖော်ဖို့ စီစဉ်နေပါတယ်။ တစ်နေရာ၊ တစ်ဒေသအတွက်သာမဟုတ်၊ တစ်နိုင်ငံလုံးအတွက် စဉ်းစားရပါမယ်။ ဗဟိုကော်မတီရန်ပုံငွေအတွက် တတ်နိုင်သမျှလှူကြဖို့ မေတ္တာရပ်ခံပါတယ်။ လိုအပ်တာတွေ အင်မတန်များပါတယ်။

(၂) ဒီလအတွင်းမှာ ကျန်းမာရေးဝန်ကြီးဌာနက ပြည်သူတွေကို ဖြန့်ဖြူး ပေးနိုင်ဖို့အတွက် MASK ၆.၃ သန်း ရှိပါတယ်။ ထပ်မံလည်း မှာယူထား ပါတယ်။

(၃) မီတာခတွေ လျှော့ပေးရေး အကောင်းဆုံးနည်းလမ်း ညှိနှိုင်းနေပါတယ်။

(၄) အင်တာနက် သုံးစွဲမှုနှုန်းထားတွေကို တယ်လီဖုန်းအော်ပရေတာများက လျှော့ချထားပေးပြီးပါပြီ။

- သတိကြီးစွာနဲ့ ခွာခွာနေရတဲ့အချိန်မှာ မေတ္တာကရုဏာကိုလည်း မမေ့ပါနဲ့။ ကျွန်မတို့အားလုံး ပြည်ထောင်စု သွေးရင်းတွေပါ။

**Quarantine မှ ထွက်လာသူများနှင့် ပတ်သက်၍ ဖေ့စ်ဘွတ်စာမျက်နှာတွင် ရေးသား သော သတင်းစကားမှ ကောက်နုတ်ချက် (၇-၄-၂၀၂၀)**

- Quarantine က ထွက်လာသူတွေ၊ ရောဂါကာကွယ်ရေးအတွက် ထုတ်ပြန်ထားတဲ့ စည်းမျဉ်း၊ စည်းကမ်းနဲ့ ညွှန်ကြားချက်တွေကို မလိုက်နာရင် ရောဂါဖြစ်ဖို့ အန္တရာယ်ကြီးတယ်ဆိုတာ မမေ့ကြပါနဲ့။ COVID-19 စိန်ခေါ်မှုကို တာဝေး အပြေးသမားစိတ်ဓာတ်နဲ့ ရင်ဆိုင်ရမှာပါ။ ရေရှည်ရပ်တည်နိုင်ဖို့ အားတွေမွေးရ ပါမယ်။ တစ်ရက်ချင်း၊ တစ်ရက်ချင်းကို မှန်ကန်တည်ငြိမ်စွာ၊ အင်အား မပြုန်းတီးအောင် သတိနဲ့ ဖြတ်သန်းသွားကြဖို့လိုပါမယ်။
- အစိုးရိမ်လွန်ခြင်းဟာ သတိရှိခြင်း မဟုတ်ပါဘူး။ သတိအားနည်းလို့ အစွန်း ဘက်ကို ချော်သွားတာပါ။ တာဝန်အရ ဆောင်ရွက်တာတွေကို မကျေနပ်လို့ ကြမ်းကြမ်းတမ်းတမ်းပြုမူ မှုတွေကြောင့် ဥပဒေအရ အရေးယူရတာတွေတောင် ရှိပါတယ်။ Masks တွေ လုံလုံလောက်လောက်ရနိုင်ဖို့ ကျန်းမာရေးဝန်ကြီးဌာနက

စီစဉ်နေပါတယ်။ အိမ်မှာချုပ်ကြတာကော အဆင်ပြေနိုင်မလား၊ ဒါတွေလည်း စဉ်းစားရပါတယ်။ ကျွန်မ တစ်ခုစမ်းချုပ်နေပါတယ်။ အခက်ခဲဆုံးကာလတွေဟာ ဖြူစင်တဲ့ မေတ္တာ၊ စေတနာရဲ့ အရောင်အတောက်ပဆုံးအချိန် ဖြစ်ပါတယ်။

## ကိုယ်ခံအားအကြောင်းနှင့် စားနပ်ရိက္ခာ ကူညီဖြန့်ဖြူးမှု အစီအစဉ်နှင့်စပ်လျဉ်း၍ ပြောကြားသည့် သတင်းစကားမှ ကောက်နုတ်ချက် (၉-၄-၂၀၂၀)

- "ကိုယ်ခံအား" ဆိုတဲ့ စာသားလေး ခုတလော ခဏခဏ ခေါင်းထဲရောက်လာပါတယ်။ COVID-19 ကြောင့် ကျွန်မတို့ ပြည်သူ (၃)ဦး ဆုံးပါးသွားရရှာပါပြီ။ ကွယ်လွန်သွားသူ (၃)ဦးလုံး ရောဂါအခံတွေ ရှိကြပါတယ်။ ဒါ့ကြောင့် COVID ကို တွန်းလှန်ဖို့ အားနည်းသွားပါတယ်။ ကိုယ်ခံအားနည်း တယ်ဆိုတဲ့ သဘောပါ။ ရောဂါအခံရှိသူတွေ၊ သက်ကြီး ရွယ်အိုတွေ ကိုယ်ခံအားနည်းတယ်လို့ သိနေကြမယ်လို့ ထင်ပါတယ်။
- အနေအထိုင်၊ အစားအသောက် မဆင်ခြင်ရင်လည်း ကိုယ်ခံအား ကျနိုင်တယ်ဆိုတာ မမေ့ကြပါနဲ့။ ကိုယ့်ကိုကိုယ် ဂရုစိုက်ပါ။ ပြည်သူတစ်ဦးချင်းဟာ နိုင်ငံအတွက် တန်ဖိုးရှိပါတယ်။ ပြည်သူတွေရဲ့ စုပေါင်းအင်အားက နိုင်ငံရဲ့ ကိုယ်ခံစွမ်းအားပါဘဲ။ မနက်ဖြန် ကျွန်မတို့နိုင်ငံတဝန်း ပုံမှန်ဝင်ငွေမရှိတဲ့ အခြေခံလူတန်းစားပြည်သူတွေအတွက် စားနပ်ရိက္ခာ ကူညီဖြန့်ဖြူးတဲ့ အစီစဉ်စပါမယ်။ တစ်ခါမှ မလုပ်ဖူးတဲ့ စီမံကိန်းကြီးမျိုးပါ။ သံမဏိချိန်းကြိုးတစ်ကြိုးရဲ့ အင်အားဟာ ကြိုးရဲ့ အပျော့ဆုံးကွင်းရဲ့ အားလောက်သာရှိတယ်လို့ ဆိုပါတယ်။ နိုင်ငံတစ်နိုင်ငံရဲ့ ကိုယ်ခံစွမ်းအားရဲ့ အတိုင်းအတာကို၊ အားအနည်းဆုံး ပြည်သူတွေကို စောင့်ရှောက်နိုင်တဲ့ အတိုင်းအတာက ပြပါတယ်။
- ရိက္ခာဖြန့်ဖြူးရေး အစီအစဉ် အောင်မြင်ဖို့ ဝိုင်းဝန်းကူညီပေးကြပါ။ စေတနာဟာ ဝေဒနာ မဖြစ်ရအောင်၊ စည်းစနစ်နဲ့ လောဘ ဒေါသတွေကို ဟန့်တားပေးကြပါ။ လိုအပ်နေသူ မည်သူကိုမျှ မချန်ထားပါဘူး။ စောင့်ရတာလေးတွေရှိရင် သည်းခံစိတ်ရှည်ပေးကြပါ။ ကျွန်မတို့ ရင်ဆိုင်ရမဲ့ စိန်ခေါ်မှုတွေကို အားလုံးအတူ နိုင်ငံရဲ့ကိုယ်ခံအားမွေးပြီး ကျော်လွှားကြရအောင်။

**အားလုံးကို တတ်နိုင်သလောက် ထည့်သွင်းစဉ်းစားပြီး နိုင်ငံတော်အနေနဲ့ လိုအပ်သလို ညွှန်ကြား၊ ညှိနှိုင်းသွားမည်ဖြစ်ကြောင်း ရေးသားထားသောသတင်းစကားမှ ကောက်နုတ်ချက် (၁၈-၄-၂၀၂၀)**

- ရန်ကုန်မြို့နယ်အချို့အတွက် နေအိမ်တွင်သာနေထိုင်ရန် အမိန့်ထုတ်ပြန်ခြင်း အပေါ် ပြည်သူတွေရဲ့ ထင်မြင်ချက်များတက်လာပါတယ်။ ကျန်းမာရေးရှုထောင့်၊ သွားလာရေးရှုထောင့်၊ ဝမ်းစာရေးရှုထောင့် အမြင်အမျိုးမျိုးပါ။ အားလုံးကို တတ်နိုင်သလောက် ထည့်သွင်းစဉ်းစားပြီး မရှိမဖြစ်လုပ်ငန်းများ ဆက်လည်ပတ်နိုင်အောင် အလုပ်သမားလျှော့ချတာ၊ လခလျှော့ချတာတွေလည်း မဖြစ်ရအောင် နိုင်ငံတော်အနေနဲ့လိုအပ်သလို ညွှန်ကြားညှိနှိုင်းပါ့မယ်။ အလုပ်ဆင်းသူတွေ ကျန်းမာရေးညွှန်ကြားချက်တွေနဲ့ ကိုက်ညီစွာသွားလာလုပ်ကိုင်နိုင်အောင် သက်ဆိုင်ရာဌာနများ၊ လုပ်ငန်းများ ၊ ညှိပြီးလုပ်သွားပါ့မယ်။ ထပ်ပြီးပြောပါ့ရစေ၊ ပြည်သူတွေကပူးပေါင်းဆောင်ရွက်ခြင်းက အဓိကပါ။ ဒီအခြေအနေဟာ ဘယ်သူအတွက်မှ မလွယ်ပါဘူး။
- မနေ့က မြန်မာ့သက္ကရာဇ် ၁၃၈၂ ခုနှစ်ရဲ့ နှစ်ဆန်း(၁) ရက်နေ့ ဝေဘာဂီကူးစက်ဆေးရုံမှာ ကိုဗစ်-၁၉ စစ်ပွဲကြီးကို ရှေ့တန်းကတိုက်ပေးနေတဲ့ ကျန်းမာရေးဝန်ထမ်းနှစ်ဦး၊ စေတနာ့ဝန်ထမ်းတစ်ဦးတို့နဲ့ video တွေ့ဆုံဆွေးနွေးပွဲ လုပ်ခဲ့ပါတယ်။

**ပြည်သူများကို အထူးကျေးဇူးတင်ကြောင်း ဖေ့စ်ဘွတ်စာမျက်နှာတွင် ရေးသားထားသော သတင်းစကားမှ ကောက်နုတ်ချက် (၁၉-၄-၂၀၂၀)**

- ကရုဏာနဲ့ တာဝန်ထမ်းဆောင်နေကြတဲ့ ကျန်းမာရေးဝန်ထမ်းများ၊ စေတနာ့ဝန်ထမ်းများကို ကျေးဇူးတင်ပါတယ်။ နိုင်ငံ့စက်ယန္တရားကြီး လည်ပတ်နိုင်ဖို့ နေ့စဉ် တာဝန်ကိုယ်စီ ထမ်းရွက်နေကြတဲ့ နိုင်ငံ့ဝန်ထမ်းများကို ကျေးဇူးတင်ပါတယ်။ မေတ္တာ စေတနာအပြည့်နဲ့ လိုအပ်တဲ့နေရာမှာ ပံ့ပိုးပေးနေတဲ့ အလှူရှင်တွေကို ကျေးဇူးတင်ပါတယ်။ လူမှုရေးပြဿနာတွေ၊ ပဋိပက္ခတွေကို ဆင်ခြင်တုံတရားနဲ့ စိတ်ရှည်လက်ရှည် ဖြေရှင်းပေးကြတဲ့ ဖြူစင်တဲ့နှလုံးသားပိုင်ရှင်တွေကို ကျေးဇူးတင်ပါတယ်။
- နိုင်ငံရဲ့ အခက်အခဲတွေကို နားလည်စွာနဲ့ အများအကျိုး ကိုယ့်အကျိုး၊ အကျိုးနှစ်သွယ်ကို ထောက်ထားပြီး တည်ငြိမ်စွာ စည်းကမ်းလိုက်နာခြင်းဖြင့် COVID-19 ကာကွယ်၊ ထိန်းချုပ်၊ ကုသရေးလုပ်ငန်းများကို ပံ့ပိုးပေးနေကြတဲ့ ကျွန်မတို့ ပြည်သူတွေကို အထူးကျေးဇူးတင်ပါတယ်။

**ပြည်သူများ တစ်ဦးချင်းတစ်ဦးချင်း တာဝန်ကျေစေချင်ကြောင်း ပြောကြားသော အမှာစကားမှ ကောက်နုတ်ချက် (၂၁-၄-၂၀၂၀)**

- ကျွန်မတို့နိုင်ငံ အနယ်နယ်အရပ်ရပ်က ပြည်သူများနဲ့ video တွေ့ဆုံဆွေးနွေးပွဲတွေလုပ်ခြင်းရဲ့ အကြီးမားဆုံးရလဒ်ကတော့ ကိုဗစ်-၁၉ စိန်ခေါ်မှုတွေကို ကျော်လွှားဖို့ ကြိုးပမ်းနေကြသူတွေရဲ့ အရေးကြီးလိုအပ်ချက်တွေကို သိနိုင်ခြင်းပဲဖြစ်ပါတယ်။ ကျန်းမာရေးဝန်ကြီးဌာနနဲ့ အခြားသက်ဆိုင်ရာဌာနတွေက ဆွေးနွေးပွဲပြီးတာနဲ့ ဘယ်နေရာမှာ ဘာတွေ ဖြည့်ဆည်းပေးနိုင်ဖို့ လိုတယ်ဆိုတာကို သုံးသပ်ပြီး လုပ်နိုင်တာတွေကို ချက်ချင်းလုပ်ပါတယ်။
- သူနာပြုဆရာမလေးပြောခဲ့တာတွေမှာ အထူးသတိရနေတာ တစ်ခုရှိပါတယ်။ အချို့ပြည်သူတွေက ကျန်းမာရေးဝန်ထမ်းတွေကို ကျေးဇူးမတင်ကြဘူး။ လခရလို့လုပ်တာ။ ဘာလို့ ကျေးဇူးတင်ရမှာလဲတဲ့။ ရပိုင်ခွင့်ကိုရှေ့တန်းတင်တဲ့ခေတ်ကြီးမှာ ဒီလိုမြင်တာ မထူးဆန်းပါဘူး။ ဒါပေမဲ့ တာဝန်ရဲ့တန်ဖိုး၊ ကျေးဇူးရဲ့ မင်္ဂလာကို အလေးမထားတာက ဝမ်းနည်းစရာပါ။

**သွေးစည်းကြဖို့၊ စည်းလုံးကြဖို့နှင့် စပ်လျဉ်း၍ ဖေ့စ်ဘွတ်စာမျက်နှာတွင် ရေးသားထားသည့် သတင်းစကားမှ ကောက်နုတ်ချက် (၂၇-၄-၂၀၂၀)**

- ဆရာကြီး သခင်ကိုယ်တော်မှိုင်းက အရေးကြီးရင် သွေးစည်းရမယ်လို့ ဆော်ဩခဲ့ပါတယ်။ ICJ ကိစ္စနဲ့ The Hague ကိုသွားခဲ့တုန်းက ကမ္ဘာအရပ်ရပ်၊ နိုင်ငံပေါင်းစုံက ကျွန်မတို့ ပြည်သူ ၄၀၀ ကျော်လောက် ကျွန်မတို့ကို အားပေးထောက်ခံဖို့ ရောက်လာကြပါတယ်။ အဲ့ဒီအချိန်မှာ သွေးစည်းခြင်းရဲ့ အဓိပ္ပာယ်နဲ့ တန်ဖိုးကို ကောင်းကောင်းကြီး ခံစားခဲ့ရပါတယ်။ အေးလှတဲ့ရာသီမှာ နွေးထွေးမှုရခဲ့ပါတယ်။ ကြီးမားတဲ့ဝန်ဟာ ပေါ့သွားသလိုပါပဲ။ ကူထမ်းပေးမဲ့သူတွေရောက်လာတာကိုး။
- ကမ္ဘာကျော် စာရေးဆရာကြီးတစ်ဦးက ပြောဖူးပါတယ်၊ တိုက်ပွဲကြီးများရဲ့ ဦးတည်ချက်က ရန်ပြုဖို့ မဟုတ်ဘူး၊ စည်းလုံးဖို့သာ ဖြစ်တယ်တဲ့။ ဒီအတွေးကို ကျွန်မသိပ်သဘောကျတယ်။ စိန်ခေါ်မှုကြီးကြီးမားမားတွေကို ရင်ဆိုင်ကြတဲ့အခါ သွေးစည်းကြဖို့၊ စည်းလုံးကြဖို့က အဓိကပါပဲ။ အောင်မြင်ခြင်းရဲ့ အခြေခံပါပဲ။ The Hague ကို ကိုယ့်စရိတ်နဲ့ကိုယ်၊ အလုပ်အကိုင်ပစ်ပြီး လာတဲ့သူတွေထဲမှာ မြန်မာနိုင်ငံသား မဟုတ်တော့တဲ့သူတွေလည်း ပါပါတယ်။ အရေးကြီးတော့ သွေးစည်းကြတယ်လေ၊ သူစိမ်းတွေ (၃)ရက်အတွင်း မိသားစုရင်းချာသဖွယ်၊

တူညီတဲ့ ယုံကြည်ချက်၊ တူညီတဲ့စေတနာတွေနဲ့ ညီညွတ်နေကြတာ အလွန်ကြည်နူးစရာပါ။

- ထိုင်းနိုင်ငံက ကျွန်မတို့ ပြည်သူတွေ COVID ရောဂါ ပြဿနာကြောင့် ဒီအပတ်အတွင်းမှာ သောင်းဂဏန်းနဲ့ ချီပြီးပြန်လာကြပါတော့မယ်။ အခက်အခဲကြုံနေလို့ အမိမြေကို အားကိုးတကြီး ပြန်လာကြတာကို ကျွန်မတို့ ဂုဏ်ယူရမှာပါ။ အတတ်နိုင်ဆုံး ကျန်းမာရေးအစီစဉ်တွေနဲ့ ကြိုဆိုရမှာပါ။ ငါတို့အမိမြေ ပြန်ရောက်ပြီ၊ ငါတို့လုံခြုံပြီလို့ ခံစားစေချင်တယ်။ အရေးကြီးလို့ သွေးစည်းကြရအောင်။

**ပြည်သူများ အမြင်ကျယ်စေချင်ကြောင်း၊ စိတ်ခိုင်မာစေချင်ကြောင်း၊ ဝီရိယကောင်းစေချင်ကြောင်း၊ သွေးစည်းစေချင်ကြောင်း ဖေ့စ်ဘွတ်စာမျက်နှာတွင် ရေးသားသည့် သတင်းစကားမှ ကောက်နုတ်ချက် (၂၉-၄-၂၀၂၀)**

- COVID ရောဂါသာမက၊ ဘယ်ရောဂါကိုမဆို၊ ကာကွယ်ဖို့ရာ ကျန်းမာရေး အခြေခံကောင်းခြင်း က အရေးပါပါတယ်။ ဒါကြောင့် ပြည်သူတွေ အတွက် အမိဝမ်းထဲရှိစဉ်ကစ၍ အသက်ထက်ဆုံး၊ ကျန်းမာရေး စောင့်ရှောက်မှု ကောင်းမွန်ဖို့ကြိုးစားနေရတာပါ။ ကြုံတုန်း ပြောပါရစေ။ မနေ့က video တွေ့ဆုံပွဲအပြီးမှာ မန္တလေး ကန်တော်နဒီဆေးရုံကြီး ပြုပြင်ရေးအတွက် အလှူရှင်ရှိနေပြီဆိုတာ သိရပါတယ်။ ပြည်သူ့ကျန်းမာရေးအတွက် အထောက်အကူပါ။ ကျေးဇူးတင်ပါတယ်။ COVID နဲ့နွှယ်တဲ့ ပြဿနာတွေကို စဉ်းစားတဲ့အခါမှာ ကျွန်မတို့ နိုင်ငံရဲ့မြောက်မြားလှစွာသော အခြားစိန်ခေါ်မှုတွေကိုလည်း မြင်လာကြလိမ့်မယ်လို့ ထင်ပါတယ်။
- ဖွံ့ဖြိုးဆဲနိုင်ငံတစ်နိုင်ငံရဲ့ ထွန်းသစ်စ ကျန်းမာရေး၊ စီးပွားရေး၊ ပညာရေး တိုးတက်မှုတွေ မယိမ်းယိုင်သွားအောင် ထိန်းသိမ်းထားရေး၊ များပြားလှစွာသော ကျွန်မတို့ ပြည်တော်ပြန် အလုပ်သမားများအရေး၊ ပြည်တွင်းစစ်နဲ့နွှယ်နေတဲ့ တိုင်းရင်းသား လက်နက်ကိုင်အဖွဲ့ နယ်မြေ များအတွင်း၊ အနယ်နယ် အရပ်ရပ်ရှိ IDPစခန်းများအတွင်း COVID ရောဂါ ကာကွယ်ရေး၊ မတည်ငြိမ်သေးတဲ့ မြောက်ပိုင်းရခိုင်အရေး၊ COVID ရောဂါပေါ်လာလို့ အခြားစိန်ခေါ်မှုတွေက မပျောက်သွားပါဘူး။ COVID အလွန်အတွက်လည်း အခုကတည်းက ပြင်ဆင်ထားရပါတယ်။ ဒါ့ကြောင့် ကျွန်မတို့ ပြည်သူတွေကို အမြင်ကျယ်စေချင်တယ်၊ စိတ်ခိုင်မာစေချင်တယ်၊ ဝီရိယကောင်းစေချင်တယ်၊ သွေးစည်းစေချင်တယ်။ ပြည်သူတွေဟာ အဓိက မဟုတ်ပါလား။

**မိမိတို့ တစ်ယောက်ချင်း လုပ်သင့်လုပ်ထိုက်တာကို မှန်မှန်ကန်ကန်လုပ်သွားရန် လိုအပ်ကြောင်း ဖေ့စ်ဘွတ်စာမျက်နှာမှ သတင်းစကားပါး ပြောကြားချက်မှ ကောက်နုတ်ချက် (၁–၅–၂၀၂၀)**

- မေလ(၁)ရက်နေ့ ရောက်လာပါပြီ။ ကိုဗစ်–၁၉ နဲ့ ပတ်သက်တဲ့ ကျန်းမာရေး၊ စီးပွားရေး၊ အစီအစဉ်တွေ ပထမဆုံးချမှတ်ခဲ့တဲ့ အချိန်ကစပြီး တွက်ရင် ငါးလထဲ ဝင်လာပါပြီ။ ယခုထိတော့ ကျွန်မတို့ ကိုဗစ်–၁၉ရောဂါကို ထိန်းထားနိုင် တယ်လို့ ဆိုရပါမယ်။ ရောဂါကူးစက်သူပေါင်း ၁၅၁၊ ဆုံးပါးသွားသူ ၆ ဦး၊ ပျောက်ကင်းသူ ၂၈ ဦး၊ အခြားနိုင်ငံများနှင့် နှိုင်းယှဉ်ကြည့်ရင် အခြေအနေ အသက်သာဆုံးထဲမှာ ပါတယ်လို့ ပြောနိုင်ပါတယ်။ ဒါဟာ သက်ဆိုင်ရာဌာနတွေ အားလုံးရဲ့ကြိုးပမ်းမှုနဲ့ အဓိကဖြစ်တဲ့ ပြည်သူတွေရဲ့ ပူးပေါင်းပါဝင်မှုကြောင့် ဖြစ်ပါတယ်။
- ရှေ့မှာဆက်ပြီး ကြိုးပမ်းကြရပါဦးမယ်။ သိန်းဂဏန်းထိများနိုင်တဲ့ ပြည်တော်ပြန်တွေအတွက် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်တွေ မုတ်သုံနှင့်အတူ ဖြစ်လေ့ရှိတဲ့ တုပ်ကွေး၊ သွေးလွန်တုပ်ကွေးအန္တရာယ်ကာကွယ်ရေးတွေ၊ အခြား မြားမြောင်လှတဲ့ ဤလူ့ဘောင်ကိစ္စတွေ၊ ဤနိုင်ငံကိစ္စတွေ ဒါတွေအားလုံးကို ကျော်ဖြတ်ကြရပါမယ်။ ဖတ်လိုက်ရတာနဲ့ မောသွားလား၊ မမောပါနဲ့။ အင်မတန် ခက်ခဲ ရှုပ်ထွေးတယ်ထင်ရတဲ့ကိစ္စဟာ တကယ်တော့ ရိုးရိုးရှင်းရှင်းလေးပါပဲ။ ကျွန်မတို့တွေ တစ်ယောက်ချင်း တစ်ယောက်ချင်း ကိုယ်လုပ်သင့် လုပ်ထိုက် တာတွေကို မှန်မှန်ကန်ကန်လုပ်သွားဖို့ပါပဲ။

**Covid နှင့် ပတ်သက်သည့် ပညာပေး ညွှန်ကြားချက်များကို အသေအချာလိုက်နာရန်၊ ဒီတစ်ရက်၊ နှစ်ရက်အတွင်း covid ငြိမ်နေလို့ မပေ့ါရန်နှင့် လုံးဝ စိတ်ချရသည့် အခြေအနေက ဝေးသေးကြောင်း ဖေ့စ်ဘွတ်စာမျက်နှာတွင် သတင်းစကားပါး ပြောကြားထားချက်မှ ကောက်နုတ်ချက် (၃–၅–၂၀၂၀)**

- ရန်ကုန်တိုင်း အချို့မြို့နယ်များအတွက် “stay at home” မိမိအိမ်တွင် မိမိ နေကြရန် အမိန့်ကို ထုတ်ပြန်ခဲ့တာ နှစ်ပတ်ရှိသွားပါပြီ။ ဒီကြားထဲမှာ နောက်ထပ် stay at home သတ်မှတ်ရတဲ့ မြို့နယ်တွေလည်း ပေါ်လာပါတယ်။ အစီအစဉ်ရဲ့ အကျိုးသက်ရောက်မှုတွေကို သုံးသပ်ပြီး ရှေ့ဘယ်လို ဆက်လုပ်သင့်တယ်ကို ဆုံးဖြတ်ရပါမယ်။
- Covid ဟာ အားလုံးအတွက် မကြုံဖူးတဲ့ကိစ္စလို့ ပြောနိုင်ပေမဲ့ ပြဿနာဆိုတာ ကတော့ ကျွန်မတို့ အားလုံးကြုံခဲ့ဖူးတဲ့ အရာပါ။ ပြဿနာဖြေရှင်းနိုင်ရေးအတွက်

အဓိက လိုအပ်ချက်ကတော့ အခြေအနေကို မှန်မှန်ကန်ကန် သုံးသပ်နိုင်ခြင်းပါပဲ။ အဲ့ဒါက ပညာပေ့ါ။

- Covid နဲ့ ပတ်သက်တဲ့ ကျန်းမာရေးပညာ၊ စီးပွားရေးပညာတွေ ဒီလအနည်းငယ်အတွင်း တိုးတက်လာပါတယ်။ ကျွန်မတို့တွေ သင်ယူအားကောင်းဖို့သာ လိုပါတယ်။ Covid နဲ့ပတ်သက်တဲ့ ပညာပေးညွှန်ကြားချက်တွေကို အသေအချာ လိုက်နာပါ။ ဒီ တစ်ရက်၊ နှစ်ရက်အတွင်း covid ငြိမ်နေလို့ မပေ့ါပါနဲ့။ လုံး၀ စိတ်ချရတဲ့အခြေအနေက ဝေးပါသေးတယ်။

**Covid ကို ထိန်းချုပ်ရေးမှာ လောလောဆယ် အထူးအလေးထားရမဲ့ ကိစ္စကြီး နှစ်ရပ်ရှိကြောင်း ကျန်းမာရေးအရစစ်ဆေးပြီး ပြန်ဖွင့်ခွင့်ပေးလိုက်တဲ့ စက်ရုံ၊ အလုပ်ရုံတွေက အလုပ်သမားတွေကြား ရောဂါမပြန့်ပွားရေးနဲ့ နယ်စပ်မှပြန်လာမဲ့ အလုပ်သမားတွေအကြား ရောဂါမပြန့်ပွားရေးတို့ဖြစ်ကြောင်း ဖေ့စ်ဘွတ်စာမျက်နှာမှ သတင်းစကားပါးရေးသားထားချက်မှ ကောက်နုတ်ချက် (၄-၅-၂၀၂၀)**

- ကျွန်မတို့ လုံး၀ပေ့ါလို့ မဖြစ်ဘူးဆိုတာ ကြားရ၊ ဖတ်ရသူတွေ ငြီးငွေ့ရလောက်အောင် သတိပေးနေရတာပါ။
- ထပ်တလဲလဲ ပြောရင်းနဲ့ စိတ္တဗေဒ သုတေသီအချို့က၊ လူတစ်ယောက်ရဲ့ ဦးနှောက်ထဲမှာ အချက်တစ်ချက်စွဲသွားဖို့ အကြိမ် (၂၀၀) လောက်ပြောရတယ်လို့ တွေ့ရှိထားကြောင်းကိုလည်း ကျွန်မ  ထည့်ပြောလေ့ရှိပါတယ်။ ဒီလောက်တောင်ပဲ ပြောဖို့လိုလားလို့လဲ တွေးမိပါတယ်။
- နိုင်ငံရေးလောကထဲ ရောက်လာပြီး လူပေါင်းစုံနဲ့ ပေါင်းရတော့ လူတွေကို တော်တယ်ညံ့တယ်၊ ကောင်းတယ် ဆိုးတယ်လို့ ခွဲမြင်တာထက် သင်လို့လွယ်တယ်၊သင်လို့ခက်တယ်လို့ခွဲမြင်လာပါတယ်။သင်လို့လွယ်သူတွေကိုတော့ အကြိမ်(၂၀၀) ပြောဖို့ လိုမယ် မထင်ပါဘူး။
- Covid ကို ထိန်းချုပ်ရေးမှာ လောလောဆယ် အထူးအလေးထားရမဲ့ ကိစ္စကြီး (၂)ရပ်ရှိပါတယ်။ ကျန်းမာရေးအရ စစ်ဆေးပြီး ပြန်ဖွင့်ခွင့်ပေးလိုက်တဲ့ စက်ရုံ၊ အလုပ်ရုံတွေက အလုပ်သမားတွေကြား ရောဂါမပြန့်ပွားရေးနဲ့ နယ်စပ်မှ ပြန်လာမယ့် အလုပ်သမားတွေအကြား ရောဂါမပြန့်ပွားရေးတို့ ဖြစ်ပါတယ်။
- ကျန်းမာရေး၀န်ကြီးဌာနက စက်ရုံ၊ အလုပ်ရုံတွေမှာ လိုက်နာရမဲ့ စည်းကမ်း၊ စည်းမျဉ်းတွေ၊ ပြည်တော်ပြန်များနဲ့ သက်ဆိုင်တဲ့အစီအစဉ်၊ စည်းကမ်းတွေ သေသေချာချာ ထုတ်ပြန်ထားပါတယ်။ အားလုံးက တိတိကျကျ လိုက်နာမယ်ဆိုရင် ကျွန်မတို့ covid ကို အောင်နိုင်မှာပါ။

**ကရင်ပြည်နယ်၊ မွန်ပြည်နယ်နှင့် တနင်္သာရီတိုင်းဒေသကြီးတို့မှ ဝန်ကြီးချုပ်တို့နှင့် COVID–19 ကာကွယ်၊ ထိန်းချုပ်၊ ကုသရေးလုပ်ငန်းများနှင့် စပ်လျဉ်း၍ Video Conferencing ဖြင့် ဆွေးနွေးထားချက်များမှ ကောက်နုတ်ချက် (၅–၅–၂၀၂၀)**

- ကရင်ပြည်နယ်၊မွန်ပြည်နယ်နှင့် တနင်္သာရီတိုင်းဒေသကြီးတို့မှ ဝန်ကြီးချုပ်တို့နှင့် ယခုလိုတွေ့ဆုံရသည်မှာ နယ်စပ်မှ ပြန်လည်ဝင်ရောက်လာမည့် အလုပ်သမား များ နေရပ်ပြန်လည် ဝင်ရောက်လာနိုင်ရေးကိစ္စဖြစ်ပါကြောင်း၊ တချို့ခန့်မှန်း ထားသည်မှာ အလုပ်သမားများ တစ်သိန်းခွဲခန့်ရှိမည်ဟု ခန့်မှန်းထားကြပြီး တချို့ကလည်း ၇၀၀၀၀၊ ၈၀၀၀၀ ခန့်ရှိမည်ဟု ခန့်မှန်းထားကြပါကြောင်း၊ မိမိတို့အနေဖြင့် အများဆုံး ခန့်မှန်းထားသည့် တစ်သိန်းခွဲခန့်အတွက် ပြင်ဆင်ထားကြရမည်ဖြစ်ပါကြောင်း၊ လက်ရှိအနေအထားတွင် အများအပြား မဝင်သေးဟု သိရပါကြောင်း၊ အစုလိုက်အပြုံလိုက် ဝင်ရောက်လာခြင်း မရှိမှု သည်လည်း မိမိတို့အတွက် သက်သာပါကြောင်း၊ ထိုင်းနိုင်ငံနှင့် ဆက်သွယ် ဆောင်ရွက်နိုင်သည်မှာလည်း အဆင်ပြေသည်ဟု ထင်မြင်ပါကြောင်း၊ ကရင် ပြည်နယ်သည် အဓိကကျပါကြောင်း၊ ယခင် ဝင်ရောက်လာသည့် အများစုမှာ မြဝတီဘက်မှတစ်ဆင့် ဝင်ရောက်ပြီး တခြားဒေသများသို့ သွားရောက်ကြပါ ကြောင်း၊ တချို့မှာ တနင်္သာရီတိုင်းဒေသကြီးဘက်မှ ဝင်ရောက်ကြပါကြောင်း။
- နေရပ်ပြန်လည်ဝင်ရောက်လာကြသူများ များပြားလာပါက ကရင်ပြည်နယ်အား မွန်ပြည်နယ်အနေဖြင့် ကူညီပေးရမည် ဖြစ်ပါကြောင်း၊ မွန်ပြည်နယ်တွင် Quarantine Center များရှိပါကြောင်း၊ အားလုံးက ပြည်ထောင်စုစိတ်ဓာတ်ဖြင့် လုပ်ဆောင်နေကြပါကြောင်း၊ ပြန်လည်ဝင်ရောက်လာသူများအား သက်ဆိုင်ရာ တိုင်းဒေသကြီးနှင့် ပြည်နယ်များသို့ ပို့ဆောင်ပေးသည်မှာ နေရာအခက်အခဲ ကြောင့် ဖြစ်ပါကြောင်း၊ တစ်နေရာတည်းတွင် Quarantine လုပ်ဆောင်ရန်မှာ မဖြစ်နိုင်ပါကြောင်း၊ လက်တွေ့ကျကျဖြင့် သက်ဆိုင်ရာ တိုင်းဒေသကြီးနှင့် ပြည်နယ်များသို့ ပြန်လည် ပို့ဆောင်ပေးနိုင်မည်ဆိုပါက ၎င်းတို့ မိသားစုများနှင့် နီးစပ်နိုင်မည်ဖြစ်ပါကြောင်း၊ ယင်းမှာလည်း စိတ်ဓာတ်အင်အား ဖြစ်စေပါ ကြောင်း၊ ကရင်ပြည်နယ်သို့ နေရပ်ပြန်လည် ဝင်ရောက်လာသူ အရေအတွက် များလာပါက မွန်ပြည်နယ်သို့ သွားရမည်ဖြစ်ပါကြောင်း။
- မိမိတို့နိုင်ငံတွင် Home Quarantine ထားသည်မှာ ခက်ခဲပါကြောင်း၊ ဖွံ့ဖြိုး တိုးတက်သည့် နိုင်ငံများတွင် Home Quarantine များဆောင်ရွက်ကြပါကြောင်း၊ Facilities Quarantine များ စီစဉ်မပေးပါကြောင်း၊ သို့သော် မိမိတို့နိုင်ငံတွင် စတင်ဖြစ်ပွားချိန်မှစ၍ Home Quarantine ထားရှိခြင်းမှာ လက်တွေ့မကျ

ပါကြောင်း၊ Facilities Quarantine ထားရှိခြင်းသည် နိုင်ငံတော်အတွက် အကုန်အကျ များပြားပါကြောင်း၊ ထို့ကြောင့် မိမိတို့နေဖြင့် စေတနာရှင်များ၊ ပရဟိတများကို အားကိုးရခြင်းဖြစ်ပါကြောင်း။

- COVID – 19 မှာ မည်သည့်အချိန်အထိ ကြာမြင့်မည်ကို မသိနိုင်ပါကြောင်း၊ မိမိတို့ပြည်သူများမှာ အင်မတန် စေတနာကောင်းမွန်ပါကြောင်း၊ မိမိတို့အနေဖြင့် ပြည်သူများ၏ စေတနာကို အားကိုးဆောင်ရွက်နေရပါကြောင်း၊ Facilities Quarantine နေသူများကို ကူညီပေးနေသူများမှာ ပြည်သူများဖြစ်ပါကြောင်း၊ အလှူရှင်များအားလုံးမှာ ချမ်းသာသူများ မဟုတ်ပါကြောင်း၊ တချို့ပြည်သူများမှာလည်း တစ်ပိုင်တစ်နိုင် လှူဒါန်းပံ့ပိုးနေကြခြင်း ဖြစ်ပါကြောင်း၊ အစိုးရအနေဖြင့် နိုင်ငံတော်ဘဏ္ဍာ တစ်ခုတည်းကို အသုံးပြုရမည်ဆိုပါက လွယ်ကူနိုင်မည် မဟုတ်ပါကြောင်း၊ COVID–19 မှာ ကြာမြင့်နိုင်သည့်အတွက် တာဝေးပြေးအားကစားသမားများကဲ့သို့ စိတ်ကိုထားရမည်ဖြစ်ပြီး မိမိကိုယ်ကိုလည်း ကျင့်ယူရမည် ဖြစ်ပါကြောင်း၊ Mask တပ်ခြင်းသည် ပြဿနာမဟုတ်ပါကြောင်း၊ အလေ့အကျင့် ဖြစ်သွားပါက အခက်အခဲမရှိတော့ပါကြောင်း၊ နိုင်ငံတော်အနေဖြင့် အားလုံးအတွက် Mask များကို အလကားပေးနိုင်ရန်မှာ မဖြစ်နိုင်ပါကြောင်း၊ ကိုယ်တိုင်လုပ် Mask များကို ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၏ လမ်းညွှန်ချက်များနှင့်အညီ ချုပ်ပြီး တပ်ဆင်ခြင်းမှာ မိမိတို့နိုင်ငံနှင့် သင့်တော်သည်ဟုထင်မြင်ပါကြောင်း။
- ကရင်ပြည်နယ်၊ မွန်ပြည်နယ်နှင့် တနင်္သာရီတိုင်းဒေသကြီးတို့သည် ဆက်စပ်နေကြပါကြောင်း၊ ယခုအချိန်တွင် နယ်စပ်မှ ဝင်ရောက်လာမည့်သူများ များပြားပါကြောင်း၊ ပထမစိန်ခေါ်မှုလှိုင်း ဖြစ်သည့် မတ်လအကုန်ပိုင်းက နေရပ်ပြန်လည်ဝင်ရောက်လာသူများ ပြန်လာသည့်အချိန်တွင် စိုးရိမ်ခဲ့ရပါကြောင်း၊ ၎င်းတို့အထဲမှ ရောဂါဖြစ်ပွားမည့်သူများမည်မျှ များပြားမည်ကို စိုးရိမ်ခဲ့ရပါကြောင်း၊ ရောဂါပါလာပါက ပြန့်သွားမည်ဖြစ်ပါကြောင်း၊ ယင်းကိုမည်သို့ ကိုင်တွယ်ရမည်ကို အကောင်းဆုံးပြင်ဆင်မှုများ ဆောင်ရွက်ခဲ့သော်လည်း စိုးရိမ်ခဲ့ရပါကြောင်း၊ ယခုဒုတိယစိန်ခေါ်မှုတွင် လူဦးရေ သောင်းဂဏန်းနှင့်ချီ၍ ပြန်လည်ဝင်ရောက်လာကြမည်ဖြစ်ပါကြောင်း၊ ပြန်လည်ဝင်ရောက်လာကြသူများမှာလည်း ကရင်ပြည်နယ်၊ မွန်ပြည်နယ်နှင့် တနင်္သာရီတိုင်းဒေသကြီးတို့တွင် နေထိုင်ကြမည့်သူများ မဟုတ်ဘဲ တခြားတိုင်းဒေသကြီးနှင့် ပြည်နယ်များသို့ သွားရောက်ကြမည်ဖြစ်ပါကြောင်း၊ ထို့ကြောင့် ယခု ကရင်ပြည်နယ်၊ မွန်ပြည်နယ်နှင့် တနင်္သာရီတိုင်းဒေသကြီးတို့မှာ အရေးကြီးပါကြောင်း၊ ပြန်လည်လက်ခံရာတွင် သက်ဆိုင်ရာ တိုင်းဒေသကြီး၊ ပြည်နယ်သို့ ပို့ဆောင်ရာတွင်

ရောဂါပါလာသည့် သူများရှိပါက ရောဂါမပြန့်ပွားစေရန် ပထမဆုံး ကာကွယ်ရမည့်မှာ ယခု ကရင်ပြည်နယ်၊ မွန် ပြည်နယ်နှင့် တနင်္သာရီတိုင်းဒေသကြီးတို့ ဖြစ်ပါကြောင်း၊ ထို့ကြောင့် အားလုံး ပူးပေါင်းဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ လိုအပ်ချက်များကို ပြည်ထောင်စုအစိုးရအဖွဲ့ အနေဖြင့်လည်း စီစဉ်ပေးမည် ဖြစ်ပါကြောင်း၊ စိန်ခေါ်မှုမည်မျှပင် ကြီးမားပါစေ ပူးပေါင်းဆောင်ရွက်မှုအားဖြင့် ကျော်လွှားနိုင်မည်ဖြစ်ပါကြောင်း။

**အိမ်တွင်းဖြစ် ပိတ်စနှာခေါင်းစည်းချုပ်လုပ်မှုပြိုင်ပွဲ ပါဝင်ဆင်နွှဲကြရန် ဖေ့စ်ဘွတ်စာမျက်နှာတွင် ရေးသားဖော်ပြထားချက်မှ ကောက်နုတ်ချက် (၇-၅-၂၀၂၀)**

- အိမ်တွင်းဖြစ် ပိတ်စနှာခေါင်းစည်း ချုပ်လုပ်မှုပြိုင်ပွဲ ပြုလုပ်မည်ဖြစ်ရာ ပါဝင်ယှဉ်ပြိုင်လိုသူများ နှာခေါင်းစည်း တစ်ခုသို့မဟုတ် တစ်ခုထက်များလည်း ရပါကြောင်း၊ ကိုယ်တိုင်ချုပ်ရမည်ဖြစ်ပြီး လက်နှင့်ပဲ ချုပ်ချုပ်၊ စက်နှင့်ပဲ ချုပ်ချုပ် ရပါကြောင်း၊ အရောင်၊ ဒီဇိုင်းကို နှစ်သက်ရာ ရွေးချယ်နိုင်ပါကြောင်း။
- မိမိကိုယ်တိုင်လည်း နှာခေါင်းစည်းတစ်ခုကိုချုပ်ပြီး နှာခေါင်းစည်း တပ်ထားသည့်ပုံကို မေလ ၁၃ ရက်တွင် မိမိ၏ ဖေ့စ်ဘွတ်တွင် တင်မည်ဖြစ်ကြောင်း၊ ပါဝင်ယှဉ်ပြိုင်သူများ မိမိတင်သည့် Facebook Post အောက် Comment တွင် မိမိတို့ကိုယ်တိုင်လုပ်ထားသည့် နှာခေါင်းစည်း ဓာတ်ပုံလေးတွေကို တင်ပေးကြရန် ဖြစ်ကြောင်း၊ မေလ ၁၃ ရက်နေ့မှ ၁၅ ရက်နေ့အထိ သုံးရက်အတွင်း တင်လာကြသည့် နှာခေါင်းစည်း ဓာတ်ပုံများထဲမှ ပြည်သူများ အနှစ်သက်ဆုံး အဖြစ် LIKE အများဆုံးရရှိသူ (၃)ဦးကို ရွေးချယ်ပြီး ဆုချီးမြှင့်မည်ဖြစ်ကြောင်း၊ ရွေးချယ်ရာတွင် ကျန်းမာရေးနှင့် ညီ၊ မညီ၊ ဘယ်လို ချုပ်ထားသည်ဆိုတာတွေကို ထည့်စဉ်း စားမည်ဖြစ်ကြောင်း၊ ကျန်းမာရေးနှင့် ကိုက်ညီသည့် ပိတ်စနှာခေါင်းစည်းလှလှလေးတွေချုပ်ရင်း ဒီပြိုင်ပွဲမှာ ပျော်ပျော်ပါးပါး ပါဝင်ဆင်နွှဲကြရန် ဖြစ်ကြောင်း။

**ပုံမှန်အခြေအနေ အမြန်ဆုံးရောက်စေချင်ကြောင်း ရောက်နိုင်အောင်လည်း ကြိုးစားမည်ဖြစ်ကြောင်း သတင်းစကားပါး ပြောကြားချက်မှ ကောက်နုတ်ချက် (၈-၇-၂၀၂၀)**

- ကိုဗစ်-၁၉ မပြန့်ပွားစေဖို့ အိမ်ထဲမှာနေရပုံက အခြားအကြောင်းတွေကြောင့် နေရပုံနဲ့တူတာတွေလည်း ရှိပါလိမ့်မယ်၊ မတူတာတွေလည်း ရှိပါလိမ့်မယ်။ တစ်နေ့တစ်ချိန်တစ်ခါမှာ ကိုဗစ်-၁၉ အတွေ့အကြုံတွေအကြောင်း စာအုပ်တွေ

ထွက်လာမှာပါ။ ရန်ကုန်မြို့ထဲမှာ အသွားအလာတွေများတယ်လို့ သိရပါတယ်။ ရန်ကုန်ဟာ ကိုဗစ်-၁၉ ကူးစက်ထားသူ အများဆုံးတွေ့ထားတဲ့မြို့ဖြစ်တော့ ကျန်းမာရေးဆိုင်ရာ စည်းကမ်းတွေကို အထူးဂရုစိုက်လိုက်နာဖို့ လိုပါတယ်။ ကိစ္စအမျိုးမျိုးကြောင့် ဥပမာ အလုပ်အကိုင်နဲ့ပတ်သက်လို့ အိမ်ပြင်ထွက်ဖို့ လိုတာတွေရှိမယ်ဆိုတာ နားလည်ပါတယ်။ ဒါ့ကြောင့် ပုံမှန်အခြေအနေ အမြန်ဆုံးရောက်စေချင်ပါတယ်။ ရောက်နိုင်အောင်လည်း ကြိုးစားပါမယ်။ သို့သော် ဒီအချိန်မှာတော့ သည်းခံကြရပါမယ်။ သည်းခံရခြင်းအကြောင်းတွေ နောင်တစ်ချိန်မှာ ရေးတာပေ့ါ။

- ရောဂါမကူးစက်စေဖို့ ထိရောက်တဲ့ နည်းတစ်ခုကတော့ Mask ကို စနစ်တကျ တပ်ဆင်ခြင်းပါပဲ၊ Mask တပ်ဆင်တဲ့အလေ့အထကို အားပေးဖို့ Mask ပြိုင်ပွဲလေးတစ်ခုလုပ်မလားလို့ စဉ်းစားနေပါတယ်။ စိတ်ဝင်စားကြပါလား။ အိမ်မှာနေပြီး လုပ်နိုင်မယ့် အလုပ်လေ။

**အခြေခံပညာကျောင်းများ ပြန်လည်ဖွင့်လှစ်ရန် စီမံဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အခြေခံပညာဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ မြန်မာနိုင်ငံလုံးဆိုင်ရာ ဆရာ၊ ဆရာမများ အဖွဲ့ချုပ်ကိုယ်စားလှယ်နှင့် ကျောင်းသားမိဘကိုယ်စားလှယ်တို့နှင့် တွေ့ဆုံ၍ Video Conferencing ဖြင့် အပြန်အလှန်ဆွေးနွေးချက်များမှ ကောက်နုတ်ချက် (၁၉-၅-၂၀၂၀)**

- ပညာရေး ဝန်ကြီးဌာန၏ အမြင်၊ ဆရာဆရာမများ၏ အမြင်၊ ကျောင်းသားမိဘများ၏ အမြင်များကို ကြားသိရသည့်အခါ စာသင်ကျောင်းများ ပြန်လည်ဖွင့်လှစ်ရာတွင် မည်သည့် အဆင့်မှစ၍ ဖွင့်လှစ်ရမည်ကို မိမိတို့ လေးလေးနက်နက် စဉ်းစားပြီး လက်တွေ့ကျကျဖြင့် ဖြစ်မြောက် အောင်မြင်အောင် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ စာသင်ကျောင်းများ ပြန်လည်ဖွင့်လှစ်သည့်အခါ စမ်းသပ်သည့်ပုံစံဖြင့် ဖွင့်လှစ်သွားမည်ဖြစ်ပါကြောင်း၊ မည်သည့်ပုံစံဖြင့် အောင်မြင်မည်ကိုလည်း သေသေချာချာ မသိသေးပါကြောင်း။
- မိမိတို့ လေ့လာရသည့်နိုင်ငံများအနက် အများအားကျရသည့် နိုင်ငံသည် ဗီယက်နမ်နိုင်ငံဖြစ်ပါကြောင်း၊ ဗီယက်နမ်နိုင်ငံသည် ကိုဗစ်-၁၉ ရောဂါနှင့် ပတ်သက်၍ ထိထိရောက်ရောက် ကာကွယ်၊ တားဆီး၊ ကိုင်တွယ်ထားနိုင်သည့်အတွက် များစွာလေးစားပါကြောင်း၊ ယင်းနိုင်ငံ၏ အတွေ့အကြုံကိုလည်း လေ့လာပါကြောင်း၊ ဗီယက်နမ်နိုင်ငံတွင်လည်း စာသင်ကျောင်းများ စတင်ဖွင့်လှစ်လျက်ရှိပါကြောင်း၊ ဗီယက်နမ်နိုင်ငံသည် မိမိတို့နိုင်ငံနှင့် အခြေအနေ

ပိုမိုတူညီပါကြောင်း၊ ဖွံ့ဖြိုးပြီးနိုင်ငံများ၏ အခြေအနေနှင့် မိမိတို့ နိုင်ငံ၏ အခြေအနေသည် များစွာ ကွာခြားပါကြောင်း၊ ကွာခြားသည့်အတွက် ယင်းနိုင်ငံများတွင်ဖြစ်သည့် အကြောင်းအရာများကိုကြည့်၍ မိမိတို့နိုင်ငံတွင် ဖြစ်နိုင်သည်များကို တွက်ချက်ခြင်းသည် လက်တွေ့မကျပါကြောင်း၊ ဗီယက်နမ်နိုင်ငံသည် မိမိတို့နိုင်ငံနှင့် အခြေအနေချင်းများစွာ နီးစပ်သည့်အတွက် ယင်းနိုင်ငံ၏ အတွေ့အကြုံကို လေ့လာရန် အချိန်ရှိပါကြောင်း။

- ကိုဗစ်ကာလတွင် ဆရာ၊ ဆရာမများကို စာသင်နည်းများ ပြန်လည်သင်ကြားပေးမည် ဖြစ်ပါကြောင်းနှင့် ဆရာ၊ ဆရာမများကလည်း သင်ယူရမည်ဖြစ်ပါကြောင်း၊ ကိုဗစ်ကာလတွင် မိဘ၊ ဆရာများကိုလည်း သားသမီးများ၏ ပညာရေးအတွက် အားလုံးဝိုင်းဝန်းပြီး မည်သို့ဆောင်ရွက်ရမည်ကို အသိပညာပေးရမည်ဖြစ်ပါကြောင်း၊ မိဘ၊ ဆရာများ ကိုယ်တိုင်ကလည်း ယခု ဆွေးနွေးပွဲကဲ့သို့ သိသင့်သိထိုက်သည့် ကိစ္စရပ်များကို အကြံပြုရန် လိုအပ်ပါကြောင်း၊ ယခုလို အကြံပြုမှု၊ ရှင်းပြမှု ကျောင်းသားမိဘများ၏ စိုးရိမ်ပူပန်မှုများကို သိရှိနိုင်မည်ဖြစ်ပါကြောင်း။ စိုးရိမ်နေရုံဖြင့် မပြီးပါကြောင်း၊ လက်တွေ့ကျကျ မည်သို့ဖြေရှင်း ဆောင်ရွက်မည်ဆိုသည့် အကြံပြုချက်များကိုလည်း ပေးစေချင်ပါကြောင်း၊ ယခုဆွေးနွေးပွဲမှ ဆရာမ တင်ပြသကဲ့သို့ ကလေးငယ်များအတွက် စိုးရိမ်ရသော်လည်း အတန်းကြီးများအတွက်ဖြစ်နိုင်သည့်အလားအလာရှိသည်ဆိုသည့်အချက်မျိုးဖြစ်ပါကြောင်း၊ ထိုသို့ လက်တွေ့ကျသည့် အကြံဉာဏ်များ ပေးသင့်ပါကြောင်း၊ သို့မှသာ အားလုံးအတူတူ ဆုံးဖြတ်ရမည်ဖြစ်ပါကြောင်း။
- နိုင်ငံတစ်နိုင်ငံ၏ ပညာရေးသည် ရပ်ထား၍မရပါကြောင်း၊ ကလေးငယ်များသည် စာသင်ကျောင်းနှင့် ကင်းကွာသွားသည့်အခါ ပညာသင်ချင်စိတ်သည် နည်းပါးသွားပါကြောင်း။ စာသင်ကျောင်းများ ပိတ်တာများသွားလျှင် ပညာရေးကို အမှန်တကယ် အထိနာပါကြောင်း၊ နောက်ကျမှ မြန်မြန်ဆန်ဆန် အောင်သည့်သူတွေများအောင် ဖြတ်လမ်းနည်းနှင့် သင်ပေးလိုက်ခြင်းသည် ဘွဲ့တော့ရသွားပါကြောင်း၊ ဘွဲ့ရရုံဖြင့် ပညာတတ် မဟုတ်ပါကြောင်း၊ မိမိတို့ဦးတည်သည့် ပညာရေးသည် ဘွဲ့ရရုံပညာရေး မဟုတ်ပါကြောင်း၊ မိမိအတွက်ရော၊ မိမိပတ်ဝန်းကျင်အတွက် ရော၊ မိမိနိုင်ငံ၊ မိမိကမ္ဘာကြီးအတွက် အကျိုးပြုနိုင်မည့် ပညာရေးမျိုးကို မိမိတို့က နိုင်ငံကိုပေးချင်ပါကြောင်း။
- ကိုဗစ်ကို ရင်ဆိုင်ရခြင်းသည်လည်း မိမိတို့အတွက် ပညာတစ်ခုဟု စဉ်းစားစေချင်ပါကြောင်း၊ ပညာရေးဝန်ကြီးဌာနရော၊ မိဘတွေရော၊ ဆရာ ဆရာမ တွေရော အားလုံးအတွက် ပညာရှာနေရသည့် အချိန်ဖြစ်ပါကြောင်း၊ ကလေးများသာ

ပညာရှာနေရခြင်း မဟုတ်ပါကြောင်း မိမိတို့လည်း ပညာရှာနေရပါကြောင်း၊ ကိုဗစ်နှင့်ပတ်သက်၍ တစ်နေ့တစ်မျိုး မရိုးရပါကြောင်း၊ တစ်နေ့တစ်မျိုး ဖြစ်နေပါကြောင်း၊ ဖြစ်သည့်အကြောင်းအရာအပေါ် အခြေခံ၍ မည်သို့ ဆောင်ရွက်မည်ကို ဆုံးဖြတ်ရသည်များ ရှိပါကြောင်း၊ တချို့အရာများအတွက် မိမိတို့ ကြိုတင်စဉ်စားထားသည်များ ရှိပါကြောင်း၊ တချို့အရာများအတွက် ကြိုတင်စဉ်းစား၍မရပါကြောင်း၊ မထင်မှတ်ဘဲ ဖြစ်လာပါကြောင်း၊ ထိုသည် ပင်လျှင် ပညာဖြစ်ပါကြောင်း၊ ပညာဆိုသည်မှာ အခြေအနေတစ်ခုကို မှန်မှန် ကန်ကန် သုံးသပ်နိုင်ခြင်း၊ သုံးသပ်ပြီး သုံးသပ်မှုအပေါ် မည်သို့ ဆောင်ရွက် ရမည်ကို ဆုံးဖြတ်နိုင်ခြင်းပင် ဖြစ်ပါကြောင်း။

**စားသောက်ဆိုင်များ ပြန်လည်ဖွင့်လှစ်ရန် စီမံဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ရွှေပလ္လင်လုပ်ငန်းစုမှ မန်နေဂျင်းဒါရိုက်တာ၊ စားသုံးသူပြည်သူတစ်ဦး၊ ခိုင်ခိုင်ကျော် အုပ်စု ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်မှ မန်နေဂျင်းဒါရိုက်တာတို့နှင့် တွေ့ဆုံ၍ Video Conferencing ဖြင့် အပြန်အလှန်ဆွေးနွေးချက်မှ ကောက်နုတ်ချက် (၂၂-၅-၂၀၂၀)**

- လုပ်ငန်းရှင်များ၏ အခက်အခဲကို နားလည်ပါကြောင်း၊ နားထောင်နေသည့် ပြည်သူများအနေဖြင့်လည်း နားလည်မည်ဟု ယုံကြည်ပါကြောင်း၊ လုပ်ငန်းရှင် များ၏ စားသောက်ဆိုင်များကို ပြင်ဆင်ရသည့် အခက်အခဲများ သည် ပြည်သူများ သတိထားရမည့်အချက်များနှင့် ဒွန်တွဲနေပါကြောင်း၊ ပြည်သူများအနေဖြင့် လည်း သတိထားရမည်၊ ပူးပေါင်းပါဝင်ရမည်ဖြစ်ပါကြောင်း၊ အားလုံးပူးပေါင်း ပါဝင်ဆောင်ရွက်မှသာ စားသောက်ဆိုင်များ ပြန်လည်ဖွင့်လှစ်မည့် စီမံကိန်းသည် အောင်မြင်နိုင်မည်ဖြစ်ပါကြောင်း။
- လမ်းဘေးစားသောက်ဆိုင်များနှင့်ပတ်သက်၍ လက်တွေ့ကျကျ စဉ်းစား ဆောင်ရွက်ရမည်ဆိုပါက ပါဆယ်ယူသည့်စနစ်ကို ကျင့်သုံးရန် လိုအပ်ပါကြောင်း၊ ယခုအခါ ကိုဗစ်-၁၉ ရောဂါကြောင့် ယခင်ကထက် ပလတ်စတစ်ကိုသုံးစွဲလာ ရသည့် အခြေအနေ ဖြစ်လာပါကြောင်း၊ နိုင်ငံတစ်နိုင်ငံ ကောင်းကောင်းမွန်မွန် ချောချောမွေ့မွေ့လည်ပတ်ရန် ကိစ္စအမျိုးမျိုးကို ထည့်သွင်းစဉ်းစား ဆောင်ရွက် ရပါကြောင်း၊ သုံးစွဲပြီးသား ပလတ်စတစ်များကို မည်သို့ပြန်လည် အသုံးပြုရမည်၊ နိုင်ငံအတွက် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် မည်သို့ ဆောင်ရွက်ရမည်ကို တစ်ခါတည်း ထည့်သွင်းစဉ်းစားရပါကြောင်း၊ ပလတ်စတစ်၏ နောက်ဆက်တွဲ အကျိုးဆက် များသည်များပြားပါကြောင်း၊ ထို့ကြောင့် ပလတ်စတစ် သုံးစွဲမှု ပိုမိုများပြားလာပါက အကောင်းဆုံးဖြစ်အောင် မည်သို့ကိုင်တွယ်ဖြေရှင်းမည်ကို

လုပ်ငန်းရှင်များ၊ ပြည်သူများအားလုံး ဝိုင်းဝန်း၍ အကြံကောင်းများ ပေးစေလိုပါကြောင်း။

- ကိုဗစ်-၁၉ နှင့်ပတ်သက်၍ လူသားများအားလုံးအတွက် အခက်အခဲဆုံးကိစ္စသည် Social Distancing ဖြစ်ပါကြောင်း၊ လူသားများအားလုံးသည် ရင်းရင်းနှီးနှီး၊ နွေးနွေးထွေးထွေး နေချင်ကြသည့် စိတ်ဆန္ဒရှိပါကြောင်း၊ မိတ်ဆွေများနှင့် ပျော်ပျော်ရွှင်ရွှင် တွေ့ချင်၊ သွားချင်၊ လာချင်၊ နေချင်ပါကြောင်း၊ မိသားစုများသည်လည်း စုစုစည်းစည်း၊ ပျော်ပျော်ရွှင်ရွှင် သွားချင်၊ လာချင်၊ နေချင်ပါကြောင်း၊ အဆိုပါအလေ့အကျင့်များကို ပြောင်းလဲရန် မလွယ်ကူပါကြောင်း၊ မလွယ်ကူသည့်အတွက် အားလုံးဝိုင်းဝန်းပြီး တစ်ယောက်ကိုတစ်ယောက် ကူညီရန် လိုအပ်ပါကြောင်း၊ ယခုလိုအချိန်တွင် ယခင်ကဲ့သို့ မိတ်မပျက်၊ ဆွေမပျက် နေနိုင်သည့် အလေ့အထများကို ဖန်တီးယူရမည်ဖြစ်ပါကြောင်း၊ ထို့ကြောင့် အားလုံး တစ်ယောက်ချင်း၊ တစ်ယောက်ချင်းစီက ကြိုးစားပေးစေလိုပါကြောင်း၊ ရှင်းလင်းတင်ပြချက်များ အားလုံးကို မှတ်သားထားပါကြောင်း၊ စားသောက်ဆိုင်များ အမြန်ဆုံးပြန်လည်ဖွင့်လှစ်နိုင်ရေးအတွက် နိုင်ငံတော်က ကူညီနိုင်မည့် နည်းလမ်းများကို အမြန်ဆုံး ရှာဖွေသွားမည်ဖြစ်ပါကြောင်း၊ အထူးသဖြင့် လမ်းဘေးဆိုင်လေးများသည် အကူအညီ အထောက်အပံ့ ပို၍လိုအပ်သည်ကို နားလည် သဘောပေါက်ပါကြောင်း၊ ထို့ကြောင့် မည်သည့် ပုံစံဖြင့် လမ်းဘေးဆိုင်လေးများ မြန်မြန်ဆန်ဆန် ပြန်လည်ဖွင့် လှစ်နိုင်မည်ကို အလေးထား စဉ်းစားပြီး ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာနနှင့် ညှိနှိုင်း၍ လိုအပ်သည့် စည်းမျဉ်းစည်းကမ်းများချမှတ်ကာ အမြန်ဆုံး အဆင်ပြေအောင် ဆောင်ရွက်ပေးသွားမည် ဖြစ်ပါကြောင်း။
- ပြည်သူများ စိတ်ချမ်းသာအောင် ကျွေးမွေးဆောင်ရွက်ပေးသည့် စားသောက်ဆိုင်များကို ကျေးဇူးတင်ရှိပါကြောင်း၊ စားသောက်ဆိုင်များ လည်ပတ်နိုင်ရန်အတွက် စားသုံးပေးသည့် ပြည်သူများကိုလည်း ကျေးဇူးတင်ရှိပါကြောင်း၊ ကျွန်းကိုင်းမှီ ကိုင်းကျွန်းမှီဖြစ်ပါကြောင်း၊ နောက်လတွင် အချို့ဆိုင်များ ပြန်လည်ဖွင့်လှစ်နိုင်မည်ဟု မျှော်လင့်ပါကြောင်း၊ ဆိုင်အားလုံး တစ်ချိန်တည်းတွင် ပြန်လည်ဖွင့်လှစ်နိုင်မည် မဟုတ်ပါကြောင်း၊ ဖွင့်နိုင်သည့်ဆိုင်များ၏ အခြေအနေကို ကြည့်၍ အဆိုပါအတွေ့အကြုံအရ မည်သည့်အပြောင်းအလဲများကို ဆောင်ရွက်သင့်သည်၊ မည်သို့ပံ့ပိုးပေးသင့်သည်ကို အကြံဉာဏ်ပေးရမည်ဖြစ်ပါကြောင်း၊ အားလုံးကို ကျေးဇူးတင်ရှိပါကြောင်း၊ ကျန်းမာ၊ ချမ်းသာပါစေကြောင်း။

**Covid ၏ အကျိုးဆက်များကို အောင်နိုင်စွာ ကိုင်တွယ်ဆောင်ရွက်ရေး စီမံချက်များ ထဲတွင် အလုပ်အကိုင် ဖန်တီးရေးကို အထူးအလေးပေးမည် ဖြစ်ကြောင်း ရေးသား ဖော်ပြချက်မှ ကောက်နုတ်ချက် (၂၆-၅-၂၀၂၀)**

- ပြည်ပမှ မိမိတို့နိုင်ငံသားတွေ အများအပြား ပြန်လာနေချိန်မှာ အတွေးလေးတွေ ဝင်လာပါကြောင်း၊ ပြန်လာသူများအတွက် ကျန်းမာရေး၊ ခရီးသွားရေးအစီအစဉ်တွေ ချမှတ်ဆောင်ရွက်ရတာ ကြီးမားတဲ့ တာဝန်ဖြစ်ပေမဲ့၊ အခက်အခဲနဲ့ ကြုံချိန်မှာ ကိုယ့်နိုင်ငံကို အားကိုးစိတ်နဲ့ ပြန်လာကြတာကို ကျေနပ်ဂုဏ်ယူမိပါကြောင်း၊ အချို့အင်အားကြီးနိုင်ငံများ၏ ပြည်သူများသည် နိုင်ငံရပ်ခြားရောက်တုန်း ပြဿနာတစ်ခုခုဖြစ်လျှင် "ကျုပ်တို့က ဘယ်နိုင်ငံသား" ဆိုပြီး မိမိတို့နိုင်ငံ၏ အင်အားအရှိန်ကို ယူကြပါကြောင်း၊ မိမိကတော့ ဘယ်သူ့ကိုမှ ကျော်ချင်တဲ့စိတ်နှင့်မဟုတ်ဘဲ ဘယ်လိုအခြေအနေမှာမဆို ဒို့နိုင်ငံက ဒို့ကို ပစ်ထားမှာ မဟုတ်ဘူး ဆိုသည့် စိတ်လုံခြုံမှုမျိုး မိမိတို့ ပြည်သူများမှာ ရှိစေချင်ပါကြောင်း။
- စီးပွားရေးလိုအပ်ချက်ကြောင့် မိမိတို့ပြည်သူများ တိုင်းတစ်ပါးကိုသွားရသည့် အခြေအနေများကိုလည်း ပြောင်းချင်ပါကြောင်း၊ Covid ၏ အကျိုးဆက်များကို အောင်နိုင်စွာ ကိုင်တွယ်ဆောင်ရွက်ရေး စီမံချက်များထဲတွင် အလုပ်အကိုင် ဖန်တီးရေးကို အထူးအလေးပေးမှာ ဖြစ်ပါကြောင်း၊ အရာရာတိုင်းမှာလိုပဲ ရည်ရွယ်ချက်တွေအောင်မြင်ဖို့ ပြည်သူ၏ ပူးပေါင်းအားပေးမှုသည် အဓိက ဖြစ်ပါကြောင်း၊ ပြည်တွင်း အလုပ်အကိုင်တွေအတွက် ရမဲ့ဝင်ငွေက ချက်ချင်းတော့ ပြည်ပမှာရနိုင်တာကို မမီတာဖြစ်နိုင်ပါကြောင်း၊ ဒါပေမဲ့ ကိုယ့်ရပ်ကိုယ့်ရွာ၊ ကိုယ့်နိုင်ငံမှာနေရတဲ့ သုခအကျိုးအမြတ်တွေရဲ့ တန်ဖိုးလည်း ရှိပါသေးကြောင်း။

**KNU/KNLA ငြိမ်းချမ်းရေးကောင်စီ ဥက္ကဋ္ဌ ဗိုလ်ချုပ်ကြီး စောထော့လေးနှင့် KNU/KNLA ငြိမ်းချမ်းရေးကောင်စီသို့ ပေးပို့သည့် ဝမ်းမြောက်ကြောင်း သဝဏ်လွှာမှ ကောက်နုတ်ချက် (၂၇-၅-၂၀၂၀)**

- KNU/KNLA ငြိမ်းချမ်းရေးကောင်စီအနေဖြင့် မကြာသေးမီက ခေါင်းဆောင်အချို့ အပြောင်းအလဲရှိသော်လည်း ငြိမ်းချမ်းရေးအပေါ် ချမှတ်ထားသည့်မူဝါဒများ အပြောင်းအလဲ တစ်စုံတစ်ရာမရှိဘဲ ပြည်ထောင်စုငြိမ်းချမ်းရေးတည်ဆောက်မှုဖြစ်စဉ်တွင် လည်းကောင်း၊ ဒေသတွင်းတည်ငြိမ်အေးချမ်းရေးနှင့် ဖွံ့ဖြိုးရေး လုပ်ငန်းများတွင်လည်းကောင်း သက်ဆိုင်ရာအဖွဲ့အစည်းအဝေးများ၊ ညီနောင်တိုင်းရင်းသားများနှင့်အတူ လက်တွဲပြီး NCA လမ်းကြောင်းအတိုင်း စိတ်ရင်းစေတနာအမှန်ဖြင့် ဆက်လက်ကြိုးပမ်းဆောင်ရွက်သွားကြမည်ဖြစ်ကြောင်း

ထုတ်ပြန်ခဲ့ပါသည်။ KNU/KNLA ငြိမ်းချမ်းရေးကောင်စီ၏ သဘောထားသည် ငြိမ်းချမ်းရေးအပေါ် အမှန်တကယ်မြတ်နိုးတန်ဖိုးထားသော စိတ်ရင်းစေတနာ မှန်ကို ပြသနေကြောင်း မြင်တွေ့ရ၍လည်း ဝမ်းမြောက်ရပါသည်။

- KNU/KNLA ငြိမ်းချမ်းရေး ဥက္ကဋ္ဌနှင့် KNU/KNLA ငြိမ်းချမ်းရေးကောင်စီအနေဖြင့် အားလုံးမျှော်မှန်းထားသည့် ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စု တည်ဆောက်ရေးအတွက် ဆက်လက်လျှောက်လှမ်းရမည့် ငြိမ်းချမ်းရေးလမ်းစဉ်များနှင့် လက်ရှိဖြစ်ပွားနေသော ကိုဗစ်-၁၉ ကာကွယ်ထိန်းချုပ်ကုသရေးလုပ်ငန်းများတွင် နိုင်ငံတော်အစိုးရနှင့်အတူ လက်တွဲပူးပေါင်း ကြိုးပမ်းဆောင်ရွက်နိုင်ကြပါစေကြောင်း။

**ဖြေလျှော့ပေးမှုများနှင့်ပတ်သက်၍စည်းကမ်းလိုက်နာခြင်း၊စည်းကမ်းထိန်းသိမ်းခြင်းအားဖြင့် covid ကို အနိုင်ရရေးအတွက် ဆက်ပြီး ကူညီကြပါလို့ မေတ္တာရပ်ခံပါကြောင်း ဖေ့စ်ဘွတ်စာမျက်နှာမှ သတင်းစကားပါးရေးသားထားချက်မှ ကောက်နုတ်ချက် (၂၈-၅-၂၀၂၀)**

- အချိန်နဲ့ဒီရေဟာ မည်သူ့ကိုမှ မစောင့်တဲ့။ မည်သူ၊ မည်သည့် အရာကမှလည်း မရွေ့မလျား၊ မပြောင်းမလဲ မရှိပါကြောင်း၊ Covid နှင့်ပတ်သက်ပြီး ပြည်သူများနှင့် ဆက်သွယ်ရေးအတွက် Facebook ကို စပြီး အသုံးပြုခဲ့သည်မှာ နှစ်လနီးပါး ရှိလာပြီဖြစ်ကြောင်း၊ Covid ဘက်ကလည်း အငြိမ်မနေဘဲ တစ်နေ့တစ်မျိုး မရိုးရအောင် ဖြစ်နေကြောင်း။ မေလ(၃၁)ရက်နေ့အထိ ရောဂါမပြန့်ပွားရေးအတွက် ချထားသည့် သတ်မှတ်ချက်အချို့ကို ဇွန်လ(၁)ရက်နေ့မှစပြီး ဖြေလျှော့မည်ဖြစ်ပါကြောင်း၊ သတိကြီးစွာဖြင့် တဖြည်းဖြည်း နိုင်ငံ၏ယန္တရား ပြည့်ဝစွာ ပြန်လည်ပတ်နိုင်ရေးကို ဦးတည်ပါကြောင်း။
- ဒီကိစ္စမှာသာမက အခြားကိစ္စအဝဝမှာပါ ပြည်သူများ၏ စိုးရိမ်ချက်များ၊ မျှော်မှန်းချက်များ၊ ဖြစ်ချင်တာများ၊ ဖြစ်သင့်တာများ၊ ဖြစ်နိုင်တာများကို အမြဲစိတ်ထဲမှာရှိနေပါကြောင်း၊ အကောင်းဆုံးအဖြေကို အမြဲရှာနေပါကြောင်း၊ အကောင်းဆုံးအဖြေရနိုင်ဖို့က ပြည်သူများ အကူအညီ၊ ပူးပေါင်းဆောင်ရွက်မှုကို လိုအပ်တယ်ဆိုတာကိုတော့ ထပ်လောင်းပြောချင်ပါကြောင်း၊ နှလုံး၊ ဦးနှောက်ထဲ စွဲသွားအောင် အကြိမ်(၂၀၀) ပြောရမဲ့ကိစ္စမျိုး ဖြစ်ပါကြောင်း။
- ယခုဖြေလျှော့ပေးမှုများသည် စည်းကမ်းလိုက်နာခြင်းအားဖြင့် covid ကာကွယ်ရေးကို ဖေးမပေးခြင်း၏ အကျိုးဖြစ်တာကြောင့် covid ကို အနိုင်ရရေးအတွက် စည်းကမ်းထိန်းသိမ်းခြင်း အားဖြင့် ဆက်ပြီး ကူညီကြပါလို့ မေတ္တာရပ်ခံပါကြောင်း

**Covid နှင့် လုံးပန်းနေရလို့ မိုးကာလမှာ ဖြစ်တတ်သည့် သွေးလွန်တုပ်ကွေး၊ ဆင်တုပ်ကွေးတို့လို အခြားအန္တရာယ်များကို မမေ့ထားရန် ဖေ့စ်ဘွတ်စာမျက်နှာတွင် သတင်းစကားပါး ရေးသားထားချက်မှ ကောက်နုတ်ချက် (၃၁-၅-၂၀၂၀)**

- ‘မုတ်သုံ’ ဆိုတာကတော့ ‘ရာသီ’လို့ အဓိပ္ပာယ်ပေါက်တဲ့ အာရာဘီ ဝေါဟာရက ဆင်းသက်လာတာဆိုတော့ ‘ရာသီလေ’လို့ ခေါ်ရမှာဖြစ်ကြောင်း။
- မြန်မာနိုင်ငံ၌ မိုးရာသီဝင်လာပြီဖြစ်ကြောင်း၊ ဒါပေမဲ့ ငယ်ငယ်တုန်းက မိုးတွင်းမျိုး မဟုတ်တော့ပါကြောင်း၊ ဒါက အသက်ကြီးသူတို့စရိုက်အရ “ဟိုး…ဒို့ငယ်ငယ်တုန်းက ဒီလိုမဟုတ်ဘူး”လို့ ပြောတဲ့ စကားမျိုးမဟုတ်ဘဲ ရာသီဥတုပြောင်းလဲခြင်းကို ထောက်ပြခြင်းဖြစ်ပါကြောင်း၊ မပြောင်းလဲတာကတော့ ရာသီအလိုက် ဖြစ်ပေါ်တတ်တဲ့ ရောဂါတွေကို ကာကွယ်ဖို့ လိုခြင်းပဲဖြစ်ပါကြောင်း။
- Covid ကြောင့် ကလေးများ ပုံမှန်ထိုးရမဲ့ ကာကွယ်ဆေး ထိုးနှံ/တိုက်ကျွေးရေး အစီအစဉ်များ အချိန်ကျ မဆောင်ရွက်နိုင်ခဲ့ပါကြောင်း၊ ကာကွယ်ဆေးများသည် ကလေးများ တစ်သက်တာအတွက် အလွန်အရေးကြီးခြင်းကြောင့် covid ကာကွယ်၊ ထိန်းချုပ်ရေးနှင့် လုံးပန်းနေရသခိုက်မှာပင် ကျန်းမာရေးဝန်ကြီးဌာနက ဒီအစီအစဉ်ကို စတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း၊ ကလေးမိဘများကလည်း အထူးဂရုစိုက်ပြီး ပူးပေါင်းဆောင်ရွက်စေချင်ပါကြောင်း။
- တစ်ခါတလေ စဉ်းစားမိပါကြောင်း၊ နိုင်ငံတစ်နိုင်ငံ ဖွံ့ဖြိုးတိုးတက်အောင်၊ ပြည်သူများ ဘဝလုံခြုံအောင် ကြိုးပမ်းရတာဟာ ရာသီလေလို အချိန်အကန့်အသတ်နှင့်သာ တိုက်လို့ရတာမျိုး မဟုတ်၊ အမြဲတမ်း အချိန်မရွေး တိုက်ခတ်နေရမယ့်အရာပဲ ဖြစ်ပါကြောင်း။

# နိုင်ငံတော်၏ စီးပွားရေးမူဝါဒ

## နိုင်ငံတော်၏ စီးပွားရေးမူဝါဒမျှော်မှန်းချက်

နိုင်ငံတော်၏ စီးပွားရေးမူဝါဒသည် ပြည်သူကို ဗဟိုပြု၍ အားလုံးပါဝင်နိုင်သော အစဉ်အဆက်မပြတ် တိုးတက်မှုရရှိစေရန် ရည်ရွယ်ပါသည်။ အမျိုးသားပြန်လည်သင့်မြတ်ရေးကို အထောက်အကူရရှိစေရန် ဦးတည်၍ သဘာဝသယံဇာတအရင်းအမြစ်များကို ရေရှည်ထိန်းသိမ်းလျက် တိုင်းဒေသကြီးနှင့် ပြည်နယ်များအကြား မျှတမှန်ကန်စွာ ခွဲဝေအသုံးချနိုင်မည့် စီးပွားရေးမူဘောင် ချမှတ်ဆောင်ရွက်ရန် မျှော်မှန်းပါသည်။

## နိုင်ငံတော်၏ ရည်မှန်းချက်များ

၁။ အမျိုးသားပြန်လည်သင့်မြတ်ရေးကို ဦးတည်ပြီး စည်းလုံးညီညွတ်သော ဖက်ဒရယ်ဒီမိုကရက်တစ် ပြည်ထောင်စုကြီး ဖြစ်တည်လာစေရေးကို အထောက်အပံ့ဖြစ်စေသည့် မူဝါဒအဖြစ် ကျင့်သုံးရန်၊

၂။ တိုင်းဒေသကြီးနှင့် ပြည်နယ်များအကြား ဘက်ညီမျှတစွာ ဖွံ့ဖြိုးတိုးတက်လာစေသည့် စီးပွားရေးအခြေအနေကောင်းများ ရရှိရေးဆောင်ရွက်ရန်၊

၃။ နိုင်ငံတော်အတွက် အဘက်ဘက်မှ စွမ်းရည်ပြည့်ဝသော လူငယ်မျိုးဆက်သစ်များ ပေါ်ပေါက်လာစေရေးအတွက် အခွင့်အလမ်းများ ဖန်တီးပေးနိုင်သော စီးပွားရေးမူဝါဒအဖြစ် ကျင့်သုံးရန်၊

၄။ နိုင်ငံသားအားလုံး ပူးပေါင်းပါဝင်နိုင်ပြီး တီထွင်ဆန်းသစ်မှုနှင့် ကြိုးပမ်းအားထုတ်မှုများဖြင့် တိုးတက်မှုရလဒ်ကောင်းများကို အစဉ်အဆက်ရယူထိန်းသိမ်းနိုင်မည့် စီးပွားရေးစနစ်တစ်ခုအဖြစ် ထူထောင်ရန်။

## နိုင်ငံတော်၏ စီးပွားရေးမူဝါဒများ

၁။ ပွင့်လင်းမြင်သာပြီး ကောင်းမွန်တောင့်တင်းသည့် ပြည်သူ့ဘဏ္ဍာရေး စီမံခန့်ခွဲမှုစနစ်ဖြင့် ဘဏ္ဍာရေးအရင်းအမြစ်များ တိုးတက်ပွားများလာအောင် ဆောင်ရွက်ရန်၊

၂။ နိုင်ငံပိုင်စီးပွားရေးလုပ်ငန်းများ ပိုမိုအောင်မြင်စေရန် ဆောင်ရွက်ခြင်း၊ ပြုပြင်ပြောင်းလဲ လုပ်ကိုင်နိုင်ခြေရှိသောလုပ်ငန်းများကို ပုဂ္ဂလိကပိုင်အဖြစ် ပြောင်းလဲလုပ်ဆောင်ခြင်းတို့အပြင် အလုပ်အကိုင်ရရှိရေးနှင့် စီးပွားရေးတိုးတက်မှုကို အထောက်အကူပြုသည့် အသေးစားနှင့် အလတ်စားစီးပွားရေးလုပ်ငန်းများကို ပံ့ပိုးကူညီပေးရန်၊

၃။ ခေတ်မီဖွံ့ဖြိုးသော စီးပွားရေးကို ဖြစ်ထွန်းစေနိုင်သည့် လူ့အရင်းအမြစ်များ မွေးထုတ်ပေးနိုင်ရန်နှင့် ပညာရပ်ပိုင်းဆိုင်ရာ အသက်မွေးဝမ်းကျောင်းပညာရပ်များကို ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ရန်၊

၄။ လျှပ်စစ်ဓာတ်အား၊ လမ်းများ၊ ဆိပ်ကမ်းများ စသည့် အခြေခံစီးပွားရေး အဆောက်အအုံများ လျင်မြန်စွာ တိုးတက်လာစေရေးကို ဦးစားပေး ဆောင်ရွက်ရန်နှင့် Data ID Card System၊ Digital Government Strategy နှင့် e-Government System တို့ကို ထူထောင်သွားရန်၊

၅။ ပြည်တွင်းနေ နိုင်ငံသားများနှင့် နိုင်ငံရပ်ခြားမှ ပြန်လည်ရောက်ရှိလာသော မြန်မာနိုင်ငံသားများ အားလုံးအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ဖော်ထုတ်ပေးရန်နှင့် အလုပ်အကိုင်အခွင့်အလမ်း မြင့်မားသော စီးပွားရေး လုပ်ငန်းများကို ကာလတိုအတွင်း ပိုမိုဦးစားပေးဆောင်ရွက်ရန်၊

၆။ ဘက်စုံဖွံ့ဖြိုးတိုးတက်ရေး၊ စားနပ်ရိက္ခာဖူလုံစေရေးနှင့် ပို့ကုန်မြှင့်တင်နိုင်ရေးတို့အတွက် လယ်ယာကဏ္ဍ၊ မွေးမြူရေးကဏ္ဍနှင့် စက်မှုကဏ္ဍများ ဘက်ညီစွာ တိုးတက်လာစေရန်နှင့် လယ်ယာစက်မှုကဏ္ဍ ချိန်ခွင်လျှာညီသည့် စီးပွားရေး ပုံစံဖော်ထုတ်ရန်၊

၇။ ဈေးကွက်စီးပွားရေးစနစ်နှင့်အညီ ပုဂ္ဂလိကကဏ္ဍ တိုးတက်ရေးအတွက် နိုင်ငံသားတိုင်း မိမိတို့လုပ်ကိုင်လိုသည့် စီးပွားရေးလုပ်ငန်းများကို လွတ်လပ်စွာ လုပ်ကိုင်ခွင့်ရရှိစေရန်နှင့် ပြည်ပရင်းနှီးမြှုပ်နှံမှုများ တိုးမြှင့်ရန်အတွက် မူဝါဒများ သီးခြားရေးဆွဲဆောင်ရွက်ရန်၊ မူပိုင်ခွင့်များနှင့် တရားဥပဒေစိုးမိုးမှုရှိစေရေး အတွက် တိုးမြှင့်ဆောင်ရွက်ရန်၊

၈။ အိမ်ထောင်စုများ၊ တောင်သူလယ်သမားများနှင့် စီးပွားရေးလုပ်ငန်းများကို ရေရှည်ဖွံ့ဖြိုးတိုးတက်စေရေး အထောက်အကူပြုနိုင်မည့် ငွေရေးကြေးရေး စနစ်ဖြင့် ဘဏ္ဍာရေးတည်ငြိမ်မှုရရှိလာစေရေး ဆောင်ရွက်ရန်၊

၉။ သဘာဝပတ်ဝန်းကျင်များကို ရေရှည်ထိန်းသိမ်းနိုင်ရန်အတွက် လိုက်လျောညီထွေဖြစ်စေမည့် မြို့ပြများ တည်ထောင်ရန်၊ ပြည်သူ့ဝန်ဆောင်မှုလုပ်ငန်းများ အဆင့်မြှင့်တင်ရန်တို့အပြင် အများပြည်သူနှင့် သက်ဆိုင်သည့်နေရာများ တိုးချဲ့ဖော်ထုတ်ရန်နှင့် ယဉ်ကျေးမှုအမွေအနှစ်များကို ပိုမိုစောင့်ရှောက်ထိန်းသိမ်းရေးတို့အတွက် ဆောင်ရွက်ရန်၊

၁၀။ နိုင်ငံတော်၏ ဝင်ငွေတိုးတက်ရရှိရန် အကျိုးသက်ရောက်မှုရှိပြီး မျှတသော အခွန် စနစ်ထူထောင်၍ ပြည်သူများ၏ အခွင့်အရေးနှင့် ပစ္စည်းဥစ္စာပိုင်ဆိုင်ခွင့်ကို ဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ပြဋ္ဌာန်းလျက် အကာအကွယ်ပေးရန်၊

၁၁။ တီထွင်ဖန်တီးမှုစွမ်းရည်များနှင့် အဆင့်မြင့်နည်းပညာတိုးတက်မှုများကို အားထုတ်ကြိုးပမ်းဖြစ်ပေါ်စေနိုင်သည့် အသိဉာဏ်ပစ္စည်းပိုင်ဆိုင်မှုအတွက် အထောက်အပံ့ဖြစ်စေသော နည်းစနစ်များ၊ လုပ်ထုံးလုပ်နည်းများ ပြဋ္ဌာန်း ဆောင်ရွက်ရန်၊

၁၂။ စီးပွားရေးလုပ်ငန်းများကို ဆောင်ရွက်ရာတွင် အာဆီယံဒေသတွင်းသာမက အခြားဒေသများအတွင်း၌လည်း တိုးတက်ပြောင်းလဲလာနိုင်ဖွယ်ရှိသော အခြေအနေများကို ဖော်ထုတ်၍ မိမိတို့၏ စီးပွားရေးလုပ်ငန်းများကို အမြော်အမြင်ကောင်းများဖြင့် အခြေတည်ထူထောင်ရန်။

## ၂၀၁၀ ပြည့်နှစ် ပါတီစုံဒီမိုကရေစီအထွေထွေရွေးကောက်ပွဲတွင် ပါဝင်ယှဉ်ပြိုင်သည့် နိုင်ငံရေးပါတီများနှင့် ရွေးချယ်ခံရမှု အခြေအနေ

| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၁။ | မြို(ခေါ်)ခမီအမျိုးသားညီညွတ်ရေးအဖွဲ့ | - | - | - | - | - |
| ၂။ | တိုင်းရင်းသားစည်းလုံးညီညွတ်ရေးပါတီ | ၁၂ | ၅ | ၄၅ | ၂ | ၆၄ |
| ၃။ | လားဟူအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | - | - | ၁ | - | ၁ |
| ၄။ | ကိုးကန့်ဒီမိုကရေစီနှင့် ညီညွတ်ရေးပါတီ | - | - | - | - | - |
| ၅။ | ပအိုဝ်းအမျိုးသားအဖွဲ့ချုပ်(PNO) | ၃ | ၁ | ၆ | - | ၁၀ |
| ၆။ | ဒီမိုကရက်တစ်ပါတီ(မြန်မာ) | - | - | ၃ | - | ၃ |
| ၇။ | ကယန်းအမျိုးသားပါတီ | - | - | ၁ | ၁ | ၂ |
| ၈။ | မြန်မာနိုင်ငံ ရခိုင်ပြည်နယ် အမျိုးသား အင်အားစုပါတီ | - | - | - | - | - |
| ၉။ | ကရင်ပြည်သူ့ပါတီ | ၁ | ၁ | ၂ | ၂ | ၆ |
| ၁၀။ | “ဝ”အမျိုးသားစည်းလုံးညီညွတ်ရေးပါတီ | - | - | - | - | - |

| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၁၁။ | တအာင်း(ပလောင်)အမျိုးသားပါတီ | ၁ | ၁ | ၄ | - | ၆ |
| ၁၂။ | မွန်ဒေသလုံးဆိုင်ရာ ဒီမိုကရေစီပါတီ | ၃ | ၄ | ၈ | ၁ | ၁၆ |
| ၁၃။ | ဒီမိုကရေစီနှင့် ငြိမ်းချမ်းရေးပါတီ | - | - | - | - | - |
| ၁၄။ | ရှမ်းတိုင်းရင်းသားများ ဒီမိုကရက်တစ်ပါတီ | ၁၈ | ၃ | ၃၄ | ၂ | ၅၇ |
| ၁၅။ | ညီညွတ်သောဒီမိုကရက်တစ်ပါတီ (UDP) | - | - | - | - | - |
| ၁၆။ | ၈၈ မျိုးဆက်ကျောင်းသားလူငယ်များ (ပြည်ထောင်စုမြန်မာနိုင်ငံ) | - | - | ၁ | - | ၁ |
| ၁၇။ | ပြည်ထောင်စုမြန်မာနိုင်ငံ အမျိုးသားနိုင်ငံရေး အဖွဲ့ချုပ် | - | - | - | - | - |
| ၁၈။ | အမျိုးသားနိုင်ငံရေးမဟာမိတ်များအဖွဲ့ချုပ် | - | - | - | - | - |
| ၁၉။ | ချင်းအမျိုးသားပါတီ | ၂ | ၂ | ၅ | - | ၉ |
| ၂၀။ | ဝံသာနု NLD (ပြည်ထောင်စုမြန်မာနိုင်ငံ) | - | - | - | - | - |
| ၂၁။ | ခေတ်သစ်ပြည်သူ့ပါတီ | - | - | - | - | - |

| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၂၂။ | ပြည်ထောင်စုဒီမိုကရေစီပါတီ | – | – | – | – | – |
| ၂၃။ | မတူကွဲပြားခြင်းနှင့် ငြိမ်းချမ်းရေးပါတီ | – | – | – | – | |
| ၂၄။ | ချင်းတိုးတက်ရေးပါတီ | ၂ | ၄ | ၅ | ၁ | ၁၂ |
| ၂၅။ | အင်းအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | ၁ | – | ၂ | ၁ | ၄ |
| ၂၆။ | ရခိုင်တိုင်းရင်းသားများ တိုးတက်ရေးပါတီ | ၉ | ၇ | ၁၈ | ၁ | ၃၅ |
| ၂၇။ | “၈၈”ဒီမိုကရက်တစ်ပါတီ | ၂ | ၁ | ၃ | – | ၆ |
| ၂၈။ | ဖလုံ–စဝေါ်ဒီမိုကရက်တစ်ပါတီ | ၂ | ၃ | ၄ | – | ၉ |
| ၂၉။ | အမျိုးသားဖွံ့ဖြိုးတိုးတက်ရေးဒီမိုကရက်တစ်ပါတီ | – | – | ၂ | – | ၂ |
| ၃၀။ | ပြည်ထောင်စုကြံ့ခိုင်ရေးနှင့် ဖွံ့ဖြိုးရေးပါတီ | ၂၅၉ | ၁၂၉ | ၄၇၇ | ၁၇ | ၈၈၂ |
| ၃၁။ | တိုင်းရင်းသားလူမျိုးစုများ ဖွံ့ဖြိုးရေးပါတီ | – | – | ၁ | – | ၁ |
| ၃၂။ | ကမန်အမျိုးသားတိုးတက်ရေးပါတီ | – | – | – | – | – |
| ၃၃။ | ခမီအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | – | – | – | | – |

| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၃၄။ | အမျိုးသားဒီမိုကရေစီအင်အားစုပါတီ | ၈ | ၄ | ၄ | – | ၁၆ |
| ၃၅။ | စည်းလုံးညီညွတ်ရေးနှင့် ဒီမိုကရေစီပါတီ ကချင်ပြည်နယ်(စဒက) | ၁ | ၁ | ၂ | – | ၄ |
| ၃၆။ | ကရင်ပြည်နယ်ဒီမိုကရေစီနှင့် ဖွံ့ဖြိုးတိုးတက်ရေးပါတီ | – | ၁ | ၁ | – | ၂ |
| ၃၇။ | အမျိုးသားဖွံ့ဖြိုးတိုးတက်ရေးနှင့် ငြိမ်းချမ်းရေးပါတီ | – | – | – | – | – |
| ၃၈။ | တစ်သီးပုဂ္ဂလ | ၁ | ၁ | ၃ | ၁ | ၆ |
| | စုစုပေါင်း | ၃၂၅ | ၁၆၈ | ၆၃၂ | ၂၉ | ၁၁၅၄ |

**၂၀၁၅ ပါတီစုံဒီမိုကရေစီအထွေထွေရွေးကောက်ပွဲတွင် ပါဝင်ယှဉ်ပြိုင်သည့် နိုင်ငံရေးပါတီနှင့် ရွေးချယ်ခံရမှုအခြေအနေ**

| စဉ် | ပါတီအမည် | ပြည်သူ့ | အမျိုးသား | ပြည်နယ်/တိုင်း | တိုင်းရင်းသား | ပေါင်း | ရာခိုင်နှုန်း |
|---|---|---|---|---|---|---|---|
| ၁။ | အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ပါတီ | ၂၅၅ | ၁၃၅ | ၄၇၅ | ၂၁ | ၈၈၆ | ၇၇.၀၄ |
| ၂။ | ပြည်ထောင်စုကြံ့ခိုင်ရေးနှင့်ဖွံ့ဖြိုးရေးပါတီ | ၃၀ | ၁၁ | ၇၄ | ၂ | ၁၁၇ | ၁၀.၁၇ |
| ၃။ | ရခိုင်အမျိုးသားပါတီ | ၁၂ | ၁၀ | ၂၂ | ၁ | ၄၅ | ၃.၉၁ |
| ၄။ | ရှမ်းတိုင်းရင်းသားဒီမိုကရေစီအဖွဲ့ချုပ်ပါတီ | ၁၂ | ၃ | ၂၅ | - | ၄၀ | ၃.၄၈ |
| ၅။ | တအာင်း(ပလောင်)အမျိုးသားပါတီ | ၃ | ၂ | ၇ | - | ၁၂ | ၁.၀၄ |
| ၆။ | ပအိုဝ်းအမျိုးသားအဖွဲ့ချုပ်(PNO)ပါတီ | ၃ | ၁ | ၆ | - | ၁၀ | ၀.၈၇ |
| ၇။ | ဇိုမီးဒီမိုကရေစီအဖွဲ့ချုပ်ပါတီ | ၂ | ၂ | ၂ | ၁ | ၆ | ၀.၅၂ |
| ၈။ | တစ်သီးပုဂ္ဂလ | ၁ | ၂ | ၁ | ၁ | ၅ | ၀.၄၃ |
| ၉။ | လီဆူးအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ(ဒူးလေးပါတီ) | ၂ | - | ၂ | ၁ | ၅ | ၀.၄၃ |
| ၁၀။ | ကချင်ပြည်နယ်ဒီမိုကရေစီပါတီ | ၁ | - | ၃ | - | ၄ | ၀.၃၅ |
| ၁၁။ | မွန်အမျိုးသားပါတီ | - | ၁ | ၂ | - | ၃ | ၀.၂၆ |

| စဉ် | ပါတီအမည် | ပြည်သူ့ | အမျိုးသား | ပြည်နယ်/တိုင်း | တိုင်းရင်းသား | ပေါင်း | ရာခိုင်နှုန်း |
|---|---|---|---|---|---|---|---|
| ၁၂။ | “ဝ”ဒီမိုကရက်တစ်ပါတီ | ၁ | - | ၂ | ၂ | ၃ | ၀.၂၆ |
| ၁၃။ | တိုင်းလိုင်(ရှမ်းနီ)အမျိုးသားများဖွံ့ဖြိုးတိုးတက်ရေးပါတီ | - | - | ၁ | ၁ | ၂ | ၀.၁၇ |
| ၁၄။ | လားဟူအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | - | - | ၁ | ၁ | ၂ | ၀.၁၇ |
| ၁၅။ | ကိုးကန့်ဒီမိုကရေစီနှင့်ညီညွတ်ရေးပါတီ | ၁ | - | ၁ | - | ၂ | ၀.၁၇ |
| ၁၆။ | တိုင်းရင်းသားစည်းလုံးညီညွတ်ရေးပါတီ | - | ၁ | - | - | ၁ | ၀.၀၉ |
| ၁၇။ | ရှမ်းတိုင်းရင်းသားများဒီမိုကရက်တစ်ပါတီ | - | - | ၁ | - | ၁ | ၀.၀၉ |
| ၁၈။ | ကရင်ပြည်သူ့ပါတီ | - | - | ၁ | - | ၁ | ၀.၀၉ |
| ၁၉။ | ဒီမိုကရက်တစ်ပါတီ(မြန်မာ) | - | - | ၁ | - | ၁ | ၀.၀၉ |
| ၂၀။ | မွန်ဒေသလုံးဆိုင်ရာဒီမိုကရေစီပါတီ | - | - | ၁ | - | ၁ | ၀.၀၉ |
| ၂၁။ | “ဝ”အမျိုးသားစည်းလုံးညီညွတ်ရေးပါတီ | - | - | ၁ | - | ၁ | ၀.၀၉ |
| ၂၂။ | စည်းလုံးညီညွတ်ရေးနှင့်ဒီမိုကရေစီပါတီ ကချင်ပြည်နယ်(စဒက) | - | - | ၁ | - | ၁ | ၀.၀၉ |
| ၂၃။ | အာခါအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | - | - | - | ၁ | ၁ | ၀.၀၉ |
| | စုစုပေါင်း | ၃၂၃ | ၁၆၈ | ၆၃၀ | ၂၉ | ၁၁၅၀ | |

## တည်ဆဲနိုင်ငံရေးပါတီများ (၁၆-၇-၂၀၂၀)

၁။ မြိုတိုင်းရင်းသားဖွံ့ဖြိုးရေးပါတီ(MRO NATIONAL DEVELOPMENT PARTY)
၂။ တိုင်းရင်းသားစည်းလုံးညီညွတ်ရေးပါတီ
၃။ လားဟူအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ
၄။ ကိုးကန့်ဒီမိုကရေစီနှင့်ညီညွတ်ရေးပါတီ
၅။ ပအိုဝ်းအမျိုးသားအဖွဲ့ချုပ်(PNO)
၆။ ဒီမိုကရက်တစ်ပါတီ(မြန်မာ)
၇။ ကယန်းအမျိုးသားပါတီ
၈။ ရခိုင်ပြည်နယ်အမျိုးသားအင်အားစုပါတီ
၉။ ကရင်ပြည်သူ့ပါတီ
၁၀။ တအာင်း(ပလောင်)အမျိုးသားပါတီ
၁၁။ ဒီမိုကရေစီနှင့်ငြိမ်းချမ်းရေးပါတီ
၁၂။ ရှမ်းတိုင်းရင်းသားများဒီမိုကရက်တစ်ပါတီ
၁၃။ ညီညွတ်သောဒီမိုကရက်တစ်ပါတီ (UDP)
၁၄။ ၈၈ မျိုးဆက်ကျောင်းသားလူငယ်များ(ပြည်ထောင်စုမြန်မာနိုင်ငံ)ပါတီ
၁၅။ ပြည်ထောင်စုမြန်မာနိုင်ငံအမျိုးသားနိုင်ငံရေးအဖွဲ့ချုပ်ပါတီ
၁၆။ အမျိုးသားနိုင်ငံရေးမဟာမိတ်များအဖွဲ့ချုပ်ပါတီ
၁၇။ ဝံသာနုဒီမိုကရက်တစ်ပါတီ
၁၈။ ခေတ်သစ်ပြည်သူ့ပါတီ
၁၉။ မတူကွဲပြားခြင်းနှင့်ငြိမ်းချမ်းရေးပါတီ
၂၀။ အင်းအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ
၂၁။ ဖလုံ - စဝေါ် ဒီမိုကရက်တစ်ပါတီ
၂၂။ အမျိုးသားဖွံ့ဖြိုးတိုးတက်ရေးဒီမိုကရက်တစ်ပါတီ
၂၃။ ပြည်ထောင်စုကြံ့ခိုင်ရေးနှင့်ဖွံ့ဖြိုးရေးပါတီ
၂၄။ တိုင်းရင်းသားလူမျိုးစုများဖွံ့ဖြိုးရေးပါတီ
၂၅။ ကမန်အမျိုးသားတိုးတက်ရေးပါတီ
၂၆။ ခမီအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ
၂၇။ အမျိုးသားဒီမိုကရေစီအင်အားစုပါတီ

၂၈။ အမျိုးသားဖွံ့ဖြိုးတိုးတက်ရေးနှင့်ငြိမ်းချမ်းရေးပါတီ
၂၉။ အမျိုးသားဒီမိုကရေစီပါတီသစ်ပါတီ
၃၀။ ဗမာပြည်သူ့ပါတီ
၃၁။ အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်
၃၂။ မြန်မာ့လူ့ဘောင်သစ်ဒီမိုကရက်တစ်ပါတီ
၃၃။ မြန်မာအမျိုးသားကွန်ဂရက်ပါတီ
၃၄။ မြို့တိုင်းရင်းသားပါတီ
၃၅။ တိုင်းလိုင်(ရှမ်းနီ)အမျိုးသားများဖွံ့ဖြိုးတိုးတက်ရေးပါတီ
၃၆။ အရှိုချင်းအမျိုးသားပါတီ
၃၇။ ရှမ်းတိုင်းရင်းသားများဒီမိုကရေစီအဖွဲ့ချုပ်
၃၈။ ဓနုတိုင်းရင်းသားလူမျိုးများဒီမိုကရေစီပါတီ
၃၉။ ဇိုမီးဒီမိုကရေစီအဖွဲ့ချုပ်ပါတီ
၄၀။ ရှမ်းပြည်ကိုးကန့်ဒီမိုကရက်တစ်ပါတီ
၄၁။ မြန်မာနိုင်ငံတောင်သူလယ်သမားဖွံ့ဖြိုးတိုးတက်ရေးပါတီ
၄၂။ အမျိုးသားညီညွတ်ရေးကွန်ဂရက်ပါတီ
၄၃။ ဒီမိုကရေစီနှင့် လူ့အခွင့်အရေးပါတီ
၄၄။ အမျိုးသားတိုးတက်မြင့်မားရေးပါတီ
၄၅။ ကချင်အမျိုးသားကွန်ဂရက်ပါတီ
၄၆။ လီဆူအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ(ဒူးလေးပါတီ)
၄၇။ ထားဝယ်တိုင်းရင်းသားများပါတီ
၄၈။ ဖက်ဒရယ်ပြည်ထောင်စုပါတီ
၄၉။ ပြည်ထောင်စုပအိုဝ်းအမျိုးသားအဖွဲ့ချုပ် (ပ.အ.မ.ဖ)ပါတီ
၅၀။ ရခိုင်အမျိုးသားပါတီ
၅၁။ ခူမီး(ခမီး)အမျိုးသားပါတီ
၅၂။ လူ့ဘောင်သစ် ဒီမိုကရက်တစ် ပါတီ
၅၃။ ကရင်အမျိုးသားပါတီ
၅၄။ မြန်မာနိုင်ငံ တောင်သူလယ်သမား အလုပ်သမား ပြည်သူ့ပါတီ
၅၅။ မြို့အမျိုးသားဒီမိုကရေစီပါတီ
၅၆။ ဓနုအမျိုးသားများအဖွဲ့ချုပ်ပါတီ
၅၇။ ပြည်သူ့အကျိုးပြုကျောင်းသားများပါတီ

၅၈။ လမ်းပြကြယ်ပါတီ
၅၉။ ရှမ်းနီ(တိုင်းလျှန်)သွေးစည်းညီညွတ်ရေးပါတီ [Shan–ni Solidarity Party(SSP)]
၆၀။ လူ့ဘောင်သစ်ပါတီ
၆၁။ ၈၈ မျိုးဆက်ဒီမိုကရေစီပါတီ
၆၂။ လော်ဝေါ်အမျိုးသားစည်းလုံးညီညွတ်ရေးနှင့်ဖွံ့ဖြိုးရေးပါတီ
၆၃။ ခေတ်သစ်ပြည်ထောင်စုပါတီ
၆၄။ အာခါအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ
၆၅။ ဇိုတိုင်းရင်းသားဒေသဖွံ့ဖြိုးရေးပါတီ
၆၆။ အမျိုးသားတိုးတက်ရေးပါတီ
၆၇။ အမျိုးသမီးပါတီ (မွန်)
၆၈။ လူထုပါတီ(The Party for People)
၆၉။ ပြည်ထောင်စုလယ်သမားအလုပ်သမားအင်အားစုပါတီ
၇၀။ ဒိုင်းနက်လူမျိုးများတိုးတက်ရေးပါတီ
၇၁။ မြန်မာပြည်သူ့ဒီမိုကရက်တစ်ပါတီ(MPD)
၇၂။ ရခိုင်ဒီမိုကရေစီအဖွဲ့ချုပ်ပါတီ
၇၃။ ပြည်သူ့အလုပ်သမားပါတီ
၇၄။ ကယားပြည်နယ်ဒီမိုကရက်တစ်ပါတီ
၇၅။ ကရင်အမျိုးသားဒီမိုကရက်တစ်ပါတီ
၇၆။ အမျိုးသားညီညွတ်သောဒီမိုကရက်တစ်ပါတီ (အန်၊ယူ၊ဒီ)
၇၇။ ပြည်သူ့ပါတီ (People’s Party)
၇၈။ ရခိုင့်ဦးဆောင်ပါတီ[Arakan Front Party(AFP)]
၇၉။ ပြည်ထောင်စုကောင်းကျိုးဆောင်ပါတီ [UNION BETTERMENT PARTY (UBP)]
၈၀။ အခြေခံလူတန်းစားဘဝမြင့်မားရေးပါတီ [The Yeomanry Development Party(YDP)]
၈၁။ အမျိုးသားနိုင်ငံရေးဒီမိုကရက်တစ်ပါတီ(DNP)
၈၂။ ကချင်ပြည်နယ်ပြည်သူ့ပါတီ[Kachin State People`s Party(KSPP)]
၈၃။ ချင်းအမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ပါတီ(Chin National League For Democracy Party)

**သူတော်ကောင်းတရား ခုနစ်ပါး**

၁။ သဒ္ဓါ = လှူဒါန်းပေးကမ်းခြင်း
၂။ သီလ = ကိုယ်၊ စိတ်၊ နှလုံးသုံးပါးလုံးစောင့်ထိန်းခြင်း
၃။ သုတ = အကြားအမြင်၊ ဗဟုသုတနှင့်ပြည့်စုံခြင်း
၄။ စာဂ = ပင်ကို စိတ်ထားဖြူစင်ခြင်း
၅။ ပညာ = ဉာဏ်ပညာဖြင့်ပြည့်စုံပြီး အကောင်းအဆိုးပိုင်းခြားနိုင်ခြင်း
၆။ ဟီရိ = မကောင်းမှုကြံစည်/ဆောင်ရွက်ရန်ရှက်ခြင်း
၇။ သြတပ္ပ = မကောင်းမှုကြံစည်/ဆောင်ရွက်ရန်ကြောက်ခြင်း

**ဗုဒ္ဓဘာသာဝင် (၅)မျိုး**

၁။ ကုလဗုဒ္ဓဘာသာဝင် = မိရိုးဖလာမွေးရာပါဗုဒ္ဓဘာသာဝင်
၂။ လာဘဗုဒ္ဓဘာသာဝင် = လာဘ်လာဘပတနပြုသောဗုဒ္ဓဘာသာဝင်
၃။ ဘယဗုဒ္ဓဘာသာဝင် = အကြောက်တရားကိုအခြေခံသောဗုဒ္ဓဘာသာဝင်
၄။ သဒ္ဓါဗုဒ္ဓဘာသာဝင် = ယုံကြည်မှုပါသောဗုဒ္ဓဘာသာဝင်
၅။ ပညာဗုဒ္ဓဘာသာဝင် = စူးစမ်းဆင်ခြင်တတ်သောဗုဒ္ဓဘာသာဝင်

မဂ္ဂင်ရှစ်ပါး (The Noble Eightfold Part)

၁။ မှန်ကန်စွာသိမှု (Right Understanding)
၂။ မှန်ကန်စွာကြံစည်မှု (Right Thinking)
၃။ မှန်ကန်စွာပြောဆိုမှု (Right Speech)
၄။ မှန်ကန်စွာပြုလုပ်မှု (Right Action)
၅။ မှန်ကန်စွာအသက်မွေးမှု (Right Livelihood)
၆။ မှန်ကန်စွာကြိုးပမ်းအားထုတ်မှု (Right Effort)
၇။ မှန်ကန်စွာအောက်မေ့အမှတ်ရမှု (Right Mindfulness)
၈။ မှန်ကန်စွာတည်ကြည်မှု (Right Concentration)

**ကမ္ဘာ့အမြင့်ဆုံးဗုဒ္ဓရုပ်ပွားတော်များ (World Tallest Buddha Statues)**

၁။ Spring Temple Buddha Statue
တရုတ်နိုင်ငံ Henan ပြည်နယ်တွင်တည်ရှိကာ အမြင့် ၁၂၈ မီတာ (၄၂၀ ပေ) (ကြာဖူးပုံအောက်ခံပလ္လင်အပါ ၆၈၂ ပေ)မြင့်မားပြီး ၂၀၀၂ ခုနှစ်တွင် ကမ္ဘာ့အမြင့်ဆုံးရုပ်ပွားတော်မြတ်အဖြစ် မှတ်တမ်းဝင်ခဲ့သည်။

၂။ လေးကျွန်းစကြာရုပ်တော်မူရုပ်ပွားတော်မြတ်ကြီး
စစ်ကိုင်းတိုင်းဒေသကြီး မုံရွာမြို့တွင်တည်ရှိကာ အမြင့် ၁၁၆ မီတာ (၃၈၀ ပေ)

(အောက်ခံပလ္လင်အပါ ၄၂၄ ပေ)မြင့်မားပြီး ၁၉၉၆ ခုနှစ်မှ ၂၀၀၈ ခုနှစ်အထိ တည်ဆောက်သည်။

၃။ Ushiku Daibutsu Statue

ဂျပန်နိုင်ငံတွင်တည်ရှိကာ အမြင့် ၁၁၀ မီတာ (၃၆၀ ပေ) (ကြာဖူးပုံအောက်ခံပလ္လင်အပါ ၃၉၄ ပေ) မြင့်မားပြီး ၁၉၉၅ ခုနှစ်တွင် တည်ဆောက်ပြီးစီးခဲ့သည်။

၄။ Nanshan Haishang guanyin Statue

တရုတ်နိုင်ငံ Henan ပြည်နယ်တွင်တည်ရှိကာ အမြင့် ၁၀၀ မီတာ (၃၅၄ ပေ) မြင့်မားပြီး ၂၀၀၅ ခုနှစ်တွင် ရေပေါ်၌ တည်ဆောက်ခဲ့ခြင်းဖြစ်သည်။

**ဗုဒ္ဓအရိုးတော် မြန်မာနိုင်ငံသို့ ကြွရောက်အပူဇော်ခံမှု**

အိန္ဒိယနိုင်ငံ၊ လဒတ်ပြည်နယ်၊ လိမြို့ ဟမ်းမစ်ကျောင်းတော်မှ မြတ်စွာဘုရားရှင်၏ အရိုးတော်သည် ၂၁-၁-၂၀၁၆ ရက်နေ့မှ ၂၉-၁-၂၀၁၆ ရက်နေ့အထိ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်သို့ ကြွရောက်အပူဇော်ခံခဲ့ပါသည်။

**ဗုဒ္ဓအရိုးတော် မြန်မာနိုင်ငံသို့ ကြွရောက်အပူဇော်ခံမှု**

| စဉ် | ရောက်ရှိမှု | ရက်စွဲ | |
|---|---|---|---|
| | | မှ | ထိ |
| ၁။ | ပထမအကြိမ် | ၁၅-၁၀-၁၉၅၅ | ၈-၆-၁၉၅၆ |
| ၂။ | ဒုတိယအကြိမ် | ၂၀-၄-၁၉၉၄ | ၈-၆-၁၉၉၄ |
| ၃။ | တတိယအကြိမ် | ၆-၁၂-၁၉၉၆ | ၅-၃-၁၉၉၇ |
| ၄။ | စတုတ္ထအကြိမ် | ၆-၁၁-၂၀၁၁ | ၂၄-၁၂-၂၀၁၁ |

## ၃၈ ဖြာ မင်္ဂလာတရားတော်

| စဉ် | အမည် | မြန်မာလိုအနက်အဓိပ္ပာယ် | အမျိုးသား |
|---|---|---|---|
| ၁။<br>၂။<br>၃။ | အသေဝနာစဗာလာနံ<br>ပဏ္ဍိတာနဉ္စသေဝနာ<br>ပူဇာစပူဇနေယျာနံ | လူမိုက်ကိုမမှီဝဲ၊ မပေါင်းသင်းအပ်ခြင်း<br>ပညာရှိလူလိမ္မာကိုမှီဝဲပေါင်းသင်းခြင်း<br>ပူဇော်ထိုက်သူကိုပူဇော်ခြင်း | ပေါင်းသင်းဆက်ဆံရေးမင်္ဂလာ<br>(၃)ပါး |
| ၄။<br>၅။<br>၆။ | ပတိရူပဒေသဝါသောစ<br>ပုဗ္ဗေစကတပုညတာ<br>အတ္တသမ္မာပဏိဓိစ | သင့်လျော်သောအရပ်၌နေခြင်း<br>ရှေး၌ပြုဖူးသောကောင်းမှုအထူးရှိခြင်း<br>မိမိ၏ကိုယ်စိတ်နှစ်ပါးကိုစောင့်ထိန်းခြင်း | နေထိုင်ရေးမင်္ဂလာ<br>(၃)ပါး |
| ၇။<br>၈။<br>၉။ | ဗာဟုသစ္စဉ္စ<br>သိပ္ပဉ္စ<br>ဝိနယောစသုသိက္ခိတော | လောကီလောကုတ်အကြားအမြင်များ<br>စက်မှုလက်မှုအတတ်ကိုရခြင်း<br>လူနှင့်ဆိုင်သောကျင့်ဝတ်များကိုကောင်းစွာသင်ကြားနားလည်ခြင်း | သင်ကြားရေးမင်္ဂလာ<br>(၄) ပါး |
| ၁၀။<br>၁၁။<br>၁၂။ | သုဘာသိတာစယာဝါစ<br>မာတာပိတုဉပဋ္ဌာနံ<br>ပုတ္တဒါရသသင်္ဂဟော | အပြောအဆိုချိုသာယဉ်ကျေးခြင်း<br>မိဘနှစ်ပါးကိုလုပ်ကျွေးခြင်း<br>သားမယားတို့ကို  တရားနှင့်အညီလုပ်ကျွေးခြင်း | ပြုစုရေးမင်္ဂလာ<br>(၃)ပါး |
| ၁၃။<br>၁၄။<br>၁၅။ | အနာကုလာစကမ္မန္တာ<br>ဒါနဉ္စ<br>ဓမ္မစရိယာစ | အနှောင့်အယှက်ကင်းသောအလုပ်ကို လုပ်ကိုင်ခြင်း<br>စွန့်ကြဲပေးကမ်းလှူဒါန်းခြင်း<br>သုစရိုက်တရားကိုကျင့်ခြင်း | လိုက်နာကျင့်သုံးရေး<br>မင်္ဂလာ<br>(၅) ပါး |

| စဉ် | အမည် | မြန်မာလိုအနက်အဓိပ္ပာယ် | အမျိုးသား |
|---|---|---|---|
| ၁၆။ | ဉာတကာနဉ္စသင်္ဂဟော | ဆွေမျိုးတို့အားထောက်ပံ့ကူညီခြင်း | |
| ၁၇။ | အနဝဇ္ဇာနိကမ္မာနိ | အပြစ်ကင်းသောအမှုကိုပြုရခြင်း | |
| ၁၈။ | အာရတီ | မကောင်းမှုမဖြစ်အောင် စိတ်ဖြင့်ရှောင်ခြင်း | ရှောင်ကြဉ်ရေး |
| ၁၉။ | ဝိရတီပါပါ | မကောင်းမှုမဖြစ်အောင် ကိုယ်နှုတ်ဖြင့်ရှောင်ခြင်း | မင်္ဂလာ |
| ၂၀။ | မဇ္ဇပါနာစသံယမော | မူးယစ်သေစာမသောက်စားခြင်း | (၄) ပါး |
| ၂၁။ | အပ္ပမာဒေါစဓမ္မေသု | ကုသိုလ်တရားတို့၌မမေ့လျော့ခြင်း | |
| ၂၂။ | ဂါရဝေါစ | ရိုသေထိုက်သူကိုရိုသေခြင်း | စိတ်ထားရေး |
| ၂၃။ | နိဝါတောစ | မိမိကိုယ်ကိုယ် နှိမ့်ချခြင်း | မင်္ဂလာ |
| ၂၄။ | သန္တုဋ္ဌီစ | ရောင့်ရဲလွယ်ခြင်း၊ လောဘအလိုကိုမလိုက်ခြင်း | (၅) ပါး |
| ၂၅။ | ကတညုတာ | သူတစ်ပါးကျေးဇူးကိုသိခြင်း | |
| ၂၆။ | ကာလေနဓမ္မသာဝနံ | သင့်လျော်သောအခါတရားနာခြင်း | |
| ၂၇။ | ခန္တီစ | သည်းခံခြင်း | သည်းခံရေး |
| ၂၈။ | သောဝစဿတာ | ဆုံးမလွယ်ခြင်း | မင်္ဂလာ |
| ၂၉။ | သမဏာနဉ္စဒဿနံ | ရဟန်းသံဃာတို့အားဖူးမြော်ရခြင်း | (၄) ပါး |
| ၃၀။ | ကာလေနဓမ္မသာကစ္ဆာ | သင့်လျော်သောအခါတရားဆွေးနွေးခြင်း | |

| စဉ် | အမည် | မြန်မာလိုအနက်အဓိပ္ပာယ် | အမျိုးသား |
|---|---|---|---|
| ၃၁။ | တပေါစ | ခြိုးခြံချွေတာခြင်း | ခြိုးခြံရေးမင်္ဂလာ (၄) ပါး |
| ၃၂။ | ဗြဟ္မစရိယဉ္စ | မြင့်မြတ်သောအကျင့်ကိုကျင့်ခြင်း(မေထုန်မှရှောင်ခြင်း) | |
| ၃၃။ | အရိယသစ္စာနဒဿနံ | သစ္စာလေးပါးကိုသိခြင်း | |
| ၃၄။ | နိဗ္ဗာနသစ္ဆိကိရိယာစ | နိဗ္ဗာန်ကိုမျက်မှောက်ပြုခြင်း | |
| ၃၅။ | ဖုဋ္ဌဿလောကဓမ္မေဟိ စိတ္တံယဿ နကမ္ပတိ | လောကဓံတရားနှင့်တွေ့ကြုံသောအခါ စိတ်ဓာတ်မတုန်လှုပ်ခြင်း | စိတ်ထားခိုင်ခံ့မင်္ဂလာ (၄) ပါး |
| ၃၆။ | အသောကံ | မစိုးရိမ်ခြင်း | |
| ၃၇။ | ဝိရဇံ | ကိလေသာမြူကင်းခြင်း | |
| ၃၈။ | ခေမံ | ဘေးကင်းခြင်း | |

## ကျင့်ဝတ်များ

**မိဘကျင့်ဝတ်**

မကောင်းမြစ်တား၊ ကောင်းရာညွှန်လတ်၊ အတတ်သင်စေ၊ ပေးဝေနှီးရင်း၊ ထိမ်းမြားခြင်းလျှင်၊ ဝတ်ငါးအင်၊ ဖခင်မယ်တို့တာ။

**သားသမီးကျင့်ဝတ်**

ကျွေးမွေးမပျက်၊ ဆောင်ရွက်စီမံ၊ မွေခံထိုက်စေ၊ လှူမျှဝေ၍ စောင့်လေမျိုးနွယ်၊ ဝတ်ငါးသွယ်၊ ကျင့်ဖွယ်သားတို့တာ။

**ဆရာ့ကျင့်ဝတ်**

အတတ်လည်းသင်၊ ပဲ့ပြင်ဆုံးမ၊ သိပ္ပမချန်၊ ဘေးရန်ဆီးကာ၊ သင့်ရာအပ်ပို့၊ ဆရာတို့၊ ကျင့်ဖို့ဝတ်ငါးဖြာ။

**တပည့်ကျင့်ဝတ်**

ညီညာထကြွ၊ ဆုံးမနာယူ၊ လာမူကြိုဆီး၊ ထံနီးလုပ်ကျွေး၊ သင်တွေးအံ့ရွတ်၊ တပည့်ဝတ်၊ မချွတ်ငါးခုသာ။

**လင်ကျင့်ဝတ်**

မထီမဲ့ကင်း၊ အပ်နှင်းဥစ္စာ၊ မိစ္ဆာမမှား၊ ဝတ်စားဆင်ယင်၊ မြတ်နိုးကြင်၊ ငါးအင် လင်ကျင့်ရာ။

**မယားကျင့်ဝတ်**

အိမ်တွင်းမှုလုပ်၊ သိမ်းထုပ်သေချာ၊ မိစ္ဆာကြဉ်ရှောင်၊ လျော်အောင်ဖြန့်ချီ၊ ပျင်းရိမမူ၊ ဝတ်ငါးဆူ၊ အိမ်သူကျင့်အပ်စွာ။

**ကြီးသူကျင့်ဝတ်**

ထကြွ နိုးကြား၊ သနား သည်းခံ၊ ဝေဖန် ထောက်ရှု၊ ဤခြောက်ခု ကြီးသူ ကျင့်ဝတ်သာ။

**ရဟန်းဝတ္တရား**

မကောင်းမြစ်တာ၊ ကောင်းရာကိုလှစ်၊ အသစ်ဟောကျူး၊ နာဖူးထပ်မံ၊ နတ်ထံတင်ရာ၊ မေတ္တာလည်းပြု၊ ရဟန်းမှု၊ ခြောက်ခုလွန်သေချာ။

**ဒါယကာဝတ္တရား**

မေတ္တာစိတ်သက်၊ ဆောင်ရွက်ချစ်ခင်၊ ခင်မင်နှုတ်ချို၊ လိုလျှင်ဖိတ်ထား၊ တတ်အားလှူစေ၊ ငါးခုနေ၊ ပြုလေဒါယကာ။

**မိတ်ဆွေဝတ္တရား**

ပေးကမ်းချီးမြှင့်၊ ကိုယ်နှင့်ယှဉ်ထား၊ စီးပွားဆောင်ရွက်၊ နှုတ်မြွက်ချိုသာ၊ သစ္စာမှန်စေ၊ ဝတ်ငါးထွေ၊ ကျင့်လေမိတ်သဟာ။

**မင်းကျင့်တရား ၁၀ ပါး**

| | | | |
|---|---|---|---|
| ၁။ | ဒါနံ | = | ပေးလှူခြင်း |
| ၂။ | သီလံ | = | ငါးပါးသီလနှင့်ပြည့်စုံခြင်း |
| ၃။ | ပရိစ္စာဂ | = | အမှုထမ်းတို့အားရိက္ခာပေးကမ်းခြင်း |
| ၄။ | အဇ္ဇဝံ | = | ရိုးသားဖြောင့်မတ်ခြင်း |
| ၅။ | မဒ္ဒဝံ | = | သာယာနူးညံ့စွာပြောဆိုကျင့်ကြံခြင်း |
| ၆။ | တပံ | = | အကျင့်သီလတို့ကိုခြိုးခြံစွာစောင့်ထိန်းခြင်း |
| ၇။ | အကောဓံ | = | အမျက်မထွက်ခြင်း |
| ၈။ | အဝိဟိံသံ | = | မနှိပ်စက်ခြင်း |
| ၉။ | ခန္တီ | = | သည်းခံခြင်း |
| ၁၀။ | အဝိရောဓနံ | = | ပြည်သူတို့သဘောနှင့်မဆန့်ကျင်ခြင်း |

**နာယကဂုဏ်(၆)ပါး**

| | | | |
|---|---|---|---|
| ၁။ | ထက်မြ | = | လုံ့လ၊ ဝီရိယဖြင့်ဦးဆောင်နိုင်စွမ်းရှိခြင်း |
| ၂။ | နိုးကြား | = | အသိတရားနှင့်ယှဉ်ပြီးအမြဲသတိရှိခြင်း |
| ၃။ | သနား | = | ကြီးငယ်မဟူ ခွင့်လွှတ်သနားတတ်ခြင်း |
| ၄။ | သည်းခံ | = | အဆိုး/အကောင်း ဝေဖန်တတ်မှုကို သည်းခံတတ်ခြင်း |
| ၅။ | ဝေဖန် | = | တစ်ဖက်သားကောင်းကျိုးကို ဝေဖန်ပြုပြင်ပေးခြင်း |
| ၆။ | ထောက်ရှု | = | ကိုယ်ချင်းစာတရားနှင့်ထောက်ထားညှာတာတတ်ခြင်း |

## နိုင်ငံတစ်နိုင်ငံ၏ မဏ္ဍိုင်(၅)ခု

၁။ အုပ်ချုပ်ရေးမဏ္ဍိုင် - နိုင်ငံတော်အစိုးရ
၂။ ဥပဒေရေးရာမဏ္ဍိုင် - ပြည်ထောင်စုလွှတ်တော်
၃။ တရားစီရင်ရေးမဏ္ဍိုင် - နိုင်ငံတော်တရားသူကြီးအဖွဲ့
၄။ စတုတ္ထမဏ္ဍိုင် - နိုင်ငံတော်၏စာနယ်ဇင်းများ
၅။ ပဥ္စမမဏ္ဍိုင် - ပြည်သူပြည်သားများ

## တိုင်းပြည်အင်္ဂါ (၇)ပါး

၁။ ပြည့်ရှင်မင်း(သို့မဟုတ်)သမ္မတမင်း
၂။ ဝန်ကြီး၊ သံကြီး၊ မင်းတိုင်ပင်အမတ်များ
၃။ စစ်မက်ကူညီရေးမဟာမိတ်မင်းများ
၄။ စားနပ်ရိက္ခာရွှေငွေဘဏ္ဍာများ
၅။ ကျုံး၊ မြောင်း၊ ခံတပ်၊ နယ်စပ်တံတိုင်း
၆။ ကျယ်ပြန့်သော တိုင်းနိုင်ငံတော်
၇။ စစ်သည်ဗိုလ်ပါ စစ်အင်္ဂါ

## တိုင်းပြည်ရတနာ(၉)ပါး

၁။ ပြည့်ဦးကင်း - တိုင်းရေးပြည်မှုကိုဆောင်ရွက်ပေးနိုင်သောမှူးကြီးမတ်ကြီးများ။
၂။ ပြည့်တံခွန် - သီလဝန္တ ပညာဝန္တ ရဟန်းတော်များ။
၃။ ပြည့်မျက်စိ - လိမ္မာကျွမ်းကျင်သောဆေးသမား၊ဟူးရား၊စက်ယန္တရားဆရာများ။
၄။ ပြည့်နား - သစ္စာရှိသော သူလျှိုများ။
၅။ ပြည့်အစွယ် - သူရသတ္တိရှိသော မင်းညီမင်းသား မင်းဆွေမျိုး။
၆။ ပြည့်မျက်နှာ - ရုပ်ရည်ချောသည့် လုပျိုမယ်များ။
၇။ ပြည့်ဝမ်းဗိုက် - စားနပ်ရိက္ခာနှင့်ဥစ္စာပေါများသောသူဌေးသူကြွယ်။
၈။ ပြည့်ခြေ - စစ်သည်ဗိုလ်ပါအပေါင်းနှင့်ယာဉ်မျိုးစုံ
၉။ ပြည့်လက် - ခဲယမ်း၊ မီးကျောက်၊ အမြောက်၊ သေနတ်စသောလက်နက်စုံ။

**မြန်မာ့တူရိယာ ငါးမျိုး**

၁။ ကြေး - ကြေးတပ်တူရိယာ
၂။ ကြိုး - ကြိုးတပ်တူရိယာ

၃။ သားရေ - သားရေတပ်တူရိယာ
၄။ လေ - လေမှုတ်တူရိယာ
၅။ လက်ခုပ် - လက်ခုပ်တူရိယာ

## မြန်မာ့ပန်း(၁၀)မျိုးအတတ်ပညာ

၁။ ပန်းချီ = ဆေးရေးပညာ
၂။ ပန်းတမော့ = ကျောက်ဆစ်ပညာ
၃။ ပန်းတော့ = အင်္ဂတေပညာ
၄။ ပန်းတဉ်း = ကြေးသွန်းပညာ
၅။ ပန်းထိမ် = ရွှေထည်၊ ငွေထည်ပညာ
၆။ ပန်းပု = ရုပ်တုပညာ
၇။ ပန်းပဲ = သံထည်ပညာ
၈။ ပန်းပွတ် = ပွတ်ခုံပညာ
၉။ ပန်းယွန်း = ယွန်းထည်ပညာ
၁၀။ ပန်းရန် = အုတ်စီပညာ

## မြန်မာနိုင်ငံရှိ ပင်လယ်ကမ်းခြေ အပန်းဖြေစခန်းများ

၁။ ကမ်းသာယာကမ်းခြေ (ရခိုင်ပြည်နယ်)
၂။ ငပလီကမ်းခြေ (ရခိုင်ပြည်နယ်)
၃။ ချောင်းသာကမ်းခြေ (ဧရာဝတီတိုင်းဒေသကြီး)
၄။ ငွေဆောင်ကမ်းခြေ (ဧရာဝတီတိုင်းဒေသကြီး)
၅။ စက်စဲကမ်းခြေ (မွန်ပြည်နယ်)
၆။ မောင်းမကန်ကမ်းခြေ (တနင်္သာရီတိုင်းဒေသကြီး)
၇။ လက်ခုပ်ကုန်းကမ်းခြေ (ရန်ကုန်တိုင်းဒေသကြီး၊ လက်ခုပ်ကုန်းကျေးရွာ)

## ရှေးခေတ်ဒေသဆိုင်ရာ အမည်သုံးစွဲမှု အခေါ်အဝေါ်များ

၁။ ကန္တာရဝတီ = ကယားပြည်နယ်
၂။ ဓညဝတီ = ရခိုင်ပြည်နယ်
၃။ ဗိဿနိုး = တောင်တွင်းကြီး
၄။ မောရဝတီ၊ ကမ္ဘောဇ = ရှမ်းပြည်နယ်
၅။ ရတနာပုံ = မန္တလေး

၆။ ရာမည = မွန်ပြည်နယ်
၇။ သရေခေတ္တရာ = ပြည်
၈။ သုဝဏ္ဏဘုမ္မိ = သထုံ
၉။ သလ္လာဝတီ = မုံရွာ
၁၀။ ဥဿာ = ပဲခူး

## မြန်မာ့ ၁၂ လရာသီပွဲတော်များနှင့် ဆယ့်နှစ်ရာသီပန်းများ

| | လအမည် | ပွဲတော် | ပန်းအမည် |
|---|---|---|---|
| ၁။ | တန်ခူးလ | ရေသဘင်ပွဲတော်(သင်္ကြန်) | ကံ့ကော်ပန်း၊ ပိတောက်ပန်း |
| ၂။ | ကဆုန်လ | ကဆုန်ညောင်ရေသွန်းပွဲတော် | စကားပန်း |
| ၃။ | နယုန်လ | စာပြန်ပွဲ | စပယ်ပန်း |
| ၄။ | ဝါဆိုလ | ဝါဆိုပွဲတော် | မြတ်လေး၊ပုန်းညက် |
| ၅။ | ဝါခေါင်လ | စာရေးတံမဲပွဲ | ခတ္တာပန်း |
| ၆။ | တော်သလင်းလ | လှေပြိုင်ပွဲ | ယင်းမာပန်း |
| ၇။ | သီတင်းကျွတ်လ | မီးထွန်းပွဲတော် | ကြာပန်း |
| ၈။ | တန်ဆောင်မုန်း | တန်ဆောင်တိုင်ပွဲတော်(ကထိန်) | ခဝဲပန်း |
| ၉။ | နတ်တော်လ | စာဆိုတော်ပွဲ | သဇင်ပန်း |
| ၁၀။ | ပြာသိုလ | မြင်းခင်းသဘင်ပွဲ | ခွာညိုပန်း |
| ၁၁။ | တပို့တွဲလ | ထမနဲပွဲ | ပေါက်လဲပန်း |
| ၁၂။ | တပေါင်းလ | တပေါင်းပွဲ(သဲပုံစေတီ) | သရဖီပန်း |

**နဝရတ် (၉) ပါး**

၁။ ပတ္တမြား
၂။ စိန်
၃။ ကြောင်
၄။ နီလာ
၅။ ဂေါ်မုတ်
၆။ မြကျောက်
၇။ သန္တာ
၈။ ဥဿဖယား
၉။ ပုလဲ

**စကားကြီး (၁၀) မျိုး**

၁။ ရေကူးညာတင်
၂။ ကောက်ပင်ရိတ်လှီး
၃။ ရေစီးဖောင်ဆန်
၄။ အိုးတန်ဆန်ခပ်
၅။ ဆီပွတ်ကျည်ပွေ့
၆။ ဆင်ဇော့ရန်ရှောင်
၇။ တောင်သူယာခုတ်
၈။ ကြက်ခွပ်ဆုတ်ပစ်
၉။ ရေစစ်ကရား
၁၀။ စက်တင်မောင်းနင်း

## တရားသူကြီးကျင့်ဝတ်(၁၀)ပါး

၁။ အမှုသည်တို့အား ချစ်သူမုန်းသူမရှိခြင်း။
၂။ အမှုသည်တို့လျှောက်လဲသောစကားကို ကောင်းစွာမှတ်သားခြင်း။
၃။ အမှုသည်တို့လက္ခဏာကို ကြည့်ရှုဆင်ခြင်ခြင်း။
၄။ အမှုသည်တို့၏ အမျိုးဝံသဇာတ်သဘာဝကို ကြည့်ရှုဆင်ခြင်ခြင်း။
၅။ ဓမ္မသတ်တရားလမ်းကို ကောင်းစွာဆောက်တည်ခြင်း။
၆။ အမှု၌ဖြစ်လတ္တံ့သောအနာဂတ်ကို ဆင်ခြင်၍စီရင်ခြင်း။
၇။ အမှုသည်တို့ကျေးဇူးမဲ့ကဲ့ရဲ့ရှုတ်ချပြောဆိုသည်ကို အမျက်မထားခြင်း။
၈။ တံစိုးသုံးပါးမစားခြင်း။
၉။ အမှုသည်တို့များစွာစဉ်းလဲသောစကားကို အလိုမရှိခြင်း။
၁၀။ တရား၏ပြီးပြတ်ခြင်းကို အလိုရှိခြင်း။

**တရားစီရင်ရေးဆောင်ပုဒ်**

၁။ ဥပဒေနှင့်အညီဆုံးဖြတ်ပါ။
၂။ မှန်မှန်နှင့်မြန်မြန်စီရင်ပါ။
၃။ လုပ်ထုံးညီညီဆောင်ရွက်ပါ။
၄။ လာဘ်ပေးလာဘ်ယူကင်းရှင်းပါ။

## မြန်မာ့နေ့ထူးနေ့မြတ်များ

| | |
|---|---|
| ၁။ လွတ်လပ်ရေးနေ့ | ဇန်နဝါရီလ ၄ ရက် |
| ၂။ ပြည်ထောင်စုနေ့ | ဖေဖော်ဝါရီလ ၁၂ ရက် |
| ၃။ တောင်သူလယ်သမားနေ့ | မတ်လ ၂ ရက် |
| ၄။ တပ်မတော်နေ့ | မတ်လ ၂၇ ရက် |
| ၅။ အာဇာနည်နေ့ | ဇူလိုင်လ ၁၉ ရက် |
| ၆။ အမျိုးသားနေ့ | တန်ဆောင်မုန်းလပြည့်ကျော် ၁၀ ရက် |
| ၇။ စာဆိုတော်နေ့ | နတ်တော်လဆန်း ၁ ရက်နေ့ |

**လွတ်လပ်ရေးနေ့၊ ဇန်နဝါရီလ ၄ ရက်**

၁၉၄၇ ခုနှစ်၊ ဖေဖော်ဝါရီ ၁၂ ရက်နေ့တွင်ချုပ်ဆိုခဲ့သော ပင်လုံစာချုပ်ဖြင့် တိုင်းရင်းသားအားလုံးတို့၏ သွေးစည်းညီညွတ်မှုကို ပြသနိုင်ခဲ့ပြီး ဗြိတိသျှတို့၏ သွေးခွဲအုပ်ချုပ်ရေးအကြံအစည်မှာ ပျက်ပြားသွားခဲ့သည်။ ၁၉၄၇ စက်တင်ဘာ ၂၄

ရက်နေ့တွင် ကျင်းပသော တိုင်းပြုပြည်ပြုလွှတ်တော်အစည်းအဝေးက ပြည်ထောင်စု မြန်မာနိုင်ငံ၏ဖွဲ့စည်းပုံအခြေခံဥပဒေကို အတည်ပြုခဲ့သည့်အပြင် ညောင်ရွှေစော်ဘွား စဝ်ရွှေသိုက်အား ယာယီသမ္မတအဖြစ် ခန့်အပ်ခဲ့ကြသည်။

၁၉၄၇ အောက်တိုဘာ ၁၇ ရက်နေ့တွင် နု-အက်တလီစာချုပ်ခေါ် မြန်မာ့ လွတ်လပ်ရေးစာချုပ်ကို ဗြိတိသျှဝန်ကြီးချုပ်အက်တလီနှင့် မြန်မာဝန်ကြီးချုပ်ဦးနု တို့လက်မှတ်ရေးထိုးချုပ်ဆိုခဲ့ကြသည်။ ထိုစာချုပ်တွင် ဗြိတိသျှအစိုးရက ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံအား လုံးဝလွတ်လပ်သော အချုပ်အခြာအာဏာပိုင် နိုင်ငံအဖြစ် အသိအမှတ်ပြုကြောင်း ဖော်ပြထားပြီး လွှဲပြောင်းပေးရာ၌ ပေါ်ပေါက် လာမည့် အပြောင်းအလဲများအတွက် လိုအပ်သောအစီအစဉ်အသေးစိတ်ကို ဖော်ပြထားသည့် အချက် ၁၅ ချက်ပါဝင်သည်။

မြန်မာနိုင်ငံလွတ်လပ်ရေးဥပဒေကြမ်းကို ဗြိတိသျှပါလီမန်၌ တင်သွင်းသော အခါ ဝင်စတန်ချာချီအမှူးပြုသော အတိုက်အခံအမတ်များက ပြင်းပြင်းထန်ထန် ကန့်ကွက်ခဲ့ကြသည်။ သို့ရာတွင်ဗြိတိသျှ ပါလီမန်က ထိုဥပဒေကြမ်းကို ထောက်ခံ မဲ ၂၂၈ မဲဖြင့် ၁၉၄၇ခုနှစ် ဒီဇင်ဘာ ၁၀ ရက်နေ့တွင် အတည်ပြုခဲ့ကြသည်။

ထို့ကြောင့် မြန်မာသက္ကရာဇ် ၁၃၀၉ ခုနှစ်၊ ပြာသိုလဆုတ် ၉ရက်၊ ခရစ် သက္ကရာဇ် ၁၉၄၈ ခုနှစ်၊ ဇန်နဝါရီလ ၄ ရက်၊ တနင်္ဂနွေနေ့နံနက် ၄ နာရီ ၂၀ မိနစ်အချိန်တွင် အတွင်းဝန်ရုံး(ဝန်ကြီးများရုံး)တွင် လွတ်လပ်ရေးအလံတင် အခမ်းအနားကို ပြုလုပ်ပြီး လွတ်လပ်ရေးရရှိခဲ့သည်။ ဤနေ့ကို မြန်မာနိုင်ငံ၏လွတ်လပ် ရေးနေ့အဖြစ် ရွေးချယ်သတ်မှတ်ခဲ့ကြသည်။

## ပြည်ထောင်စုနေ့၊ ဖေဖော်ဝါရီလ ၁၂ ရက်

လန်ဒန်ဆွေးနွေးပွဲ၌ တောင်တန်းဒေသမှ ပြည်သူတို့၏ သဘောထားကိုခံယူ ရန် ဗိုလ်ချုပ်အောင်ဆန်း ပြောကြားခဲ့သည်နှင့်အညီ ၁၉၄၇ ခုနှစ်၊ ဖေဖော်ရီလတွင် ပင်လုံညီလာခံကို ကျင်းပရန်ပြင်ဆင်ခဲ့သည်။ ဗိုလ်ချုပ်အောင်ဆန်း အမှူးပြုသော ခေါင်းဆောင်များနှင့် တောင်တန်းဒေသမှ ခေါင်းဆောင်များသည် ၁၉၄၇ ခုနှစ်၊ ဖေဖော်ဝါရီ(၁၁)ရက်နေ့ နေ့လယ်အထိ ဆွေးနွေးကြပြီးလွတ်လပ်ရေးကို အတူတကွ ရယူရန် ဆုံးဖြတ်ကြသည်။ ၁၉၄၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၂ ရက်နေ့ နံနက်(၁၀) နာရီတွင် ဗိုလ်ချုပ်အောင်ဆန်းနှင့်အတူ ကချင်၊ ချင်း၊ ရှမ်းအမျိုးသား ကိုယ်စား လှယ်ကြီးများသည် ခွင့်တူညီမျှ တစည်းတလုံးတည်း နေထိုင်ကြတော့ မည်ဟူသော သန္နိဋ္ဌာန်ဖြင့် ပင်လုံစာချုပ်ကြီးကို လက်မှတ်ရေးထိုးကြသည်။

**တပ်မတော်နေ့၊ မတ်လ ၂၇ ရက်**

ဖက်ဆစ်တော်လှန်ရေးသည် မြန်မာပြည်လွတ်လပ်ရေးနှင့်ပတ်သက်၍ ဂျပန်တို့ကို ကတိမတည်ခြင်း၊ ပြည်သူလူထုကို ဖက်ဆစ်ပီသစွာညှဉ်းပန်းနှိပ်စက်ခြင်းစသည်တို့ကြောင့် ဗိုလ်ချုပ်အောင်ဆန်း ခေါင်းဆောင်သည့် တပ်မတော်နှင့်ပြည်သူတစ်ရပ်လုံး ပူးပေါင်းပြီး အုံကြွတော်လှန်ရာမှ ပေါ်ပေါက်လာခဲ့ရသည်။

ဗိုလ်ချုပ်အောင်ဆန်းသည် ၁၉၄၃ ခုနှစ်၊ နိုဝင်ဘာလတွင် အိန္ဒိယမှလျှို့ဝှက်စွာပြန်လာသော သခင်တင်ရွှေမှတစ်ဆင့် မဟာမိတ်တို့နှင့် အဆက်အသွယ် ရရှိခဲ့သည်။ ဗိုလ်ချုပ်အောင်ဆန်းသည် တပ်မတော်၊ ပြည်သူ့အရေးတော်ပုံပါတီနှင့် ကွန်မြူနစ်ပါတီတို့ ပူးပေါင်းထားသည့် “ဖက်ဆစ်တိုက်ဖျက်ရေးပြည်သူ့အဖွဲ့ချုပ်” နှင့် “တော်လှန်ရေးတပ်ဦး”တို့ကို ၁၉၄၄ ခုနှစ်၊ ဩဂုတ်လနှင့် အောက်တိုဘာလတို့တွင် လျှို့ဝှက်စွာ ဖွဲ့စည်းခဲ့သည်။

ဖက်ဆစ်တော်လှန်ရေးဆင်နွှဲရန် စစ်တိုင်းကြီး(၇)တိုင်း ခွဲခြားသတ်မှတ်ခဲ့သည်။ တော်လှန်တိုက်ခိုက်ရမည့်နေ့ကို ဧပြီလ ၂ ရက်နေ့ဟု ဗိုလ်ချုပ်အောင်ဆန်းကသတ်မှတ်ခဲ့သော်လည်း မဟာမိတ်တပ်များ ရွှေဘိုခရိုင်ကိုသိမ်းယူပြီး စစ်ကိုင်းနှင့် မန္တလေးဒေသများသို့ ထိုးဖောက်စပြုလာသဖြင့် အထက်ဗမာပြည် တိုင်းမှူးဗိုလ်မှူးဗထူးကို ကြိုတင်တော်လှန်ရန် ညွှန်ကြားခဲ့ရသည်။

ဗိုလ်မှူးဗထူးက ဖက်ဆစ်ဂျပန်များနှင့် ဗမာ့တပ်မတော်ကိုပါတော်လှန်သည့် အနေဖြင့် ကြေညာချက်ထုတ်ပြန်ပြီး ၁၉၄၅ ခုနှစ်၊ မတ်လ ၈ ရက်နေ့တွင် စတင်တော်လှန်ခဲ့သည်။ ၁၉၄၅ ခုနှစ်၊ မတ်လ ၁၇ ရက်နေ့တွင် စစ်မြေပြင်သို့ ချီတက်မည့် ဗမာ့တပ်မတော်သားများ၏တပ်ထွက်အခမ်းအနားကျင်းပသည်။ဗိုလ်ချုပ်အောင်ဆန်းသည် ၁၉၄၅ ခုနှစ်၊ မတ်လ ၂၂ ရက်နေ့တွင် ရန်ကုန်မှ ပြည်မြို့သို့ ထွက်ခွာလာသည်။ မတ်လ ၂၄ ရက်နေ့ည ရွှေတောင်ဒွှိရှိနေစဉ် ပဲခူးရှိ ဗိုလ်မှူးကျော်ဇောက မတ်လ ၂၇ ရက်နေ့တွင် တော်လှန်ခွင့်ပြုရန် ခွင့်တောင်းသဖြင့် ခွင့်ပြုခဲ့သည်။

ဗိုလ်ချုပ်အောင်ဆန်းသည် မတ်လ ၂၆ ရက်နေ့ညတွင် တော်လှန်ရေးဌာနချုပ်ဖွင့်လှစ်မည့် သရက်မြို့အနောက်ဘက်ရှိ သရက်ချောင်းရွာသို့ ဆက်လက်ထွက်ခွာသည်။ ဤသို့ဖြင့် ၁၉၄၅ ခုနှစ်၊ မတ်လ ၂၇ ရက်နေ့တွင် ဖက်ဆစ်ဂျပန်ကို စတင်တော်လှန်ခဲ့ကြသည်။

**အာဇာနည်နေ့၊ ဇူလိုင်လ ၁၉ ရက်**

၁၉၄၇ ခုနှစ်၊ ဇူလိုင်လ ၁၉ ရက်နေ့၊ နံနက် ၁၀ နာရီ ၃၇ မိနစ်တွင် ဂဠုန်ဦးစောနှင့် အပေါင်းအပါတို့၏ လက်ချက်ဖြင့် အမျိုးသားခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်းနှင့်တကွ အာဇာနည်ခေါင်းဆောင်ကြီးများ ကျဆုံးခဲ့ကြသည်။ ထိုနေ့

ကို အာဇာနည်နေ့ဟု သတ်မှတ်ခဲ့ကြသည်။ ကျဆုံးခဲ့ကြသော အာဇာနည်ခေါင်းဆောင်ကြီးများမှာ–

(၁) ဗိုလ်ချုပ်အောင်ဆန်း – ဘုရင်ခံ၏အမှုဆောင်ကောင်စီ ဒုတိယသဘာပတိ(ဝန်ကြီးချုပ်)
(၂) မိုင်းပွန်စော်ဘွားကြီး စဝ်စံထွန်း – တောင်တန်းဒေသရေးရာဝန်ကြီး
(၃) သခင်မြ – ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီး
(၄) မန်းဘခိုင် – အလုပ်သမားနှင့် စက်မှုလက်မှုဝန်ကြီးဌာန
(၅) ဒီးဒုတ်ဦးဘချို – ပြန်ကြားရေးဝန်ကြီး
(၆) ဦးရာဇတ် – ပညာရေးနှင့်အမျိုးသားစီမံကိန်းဝန်ကြီး
(၇) ဦးဘဝင်း – ထောက်ပံ့ရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီး
(၈) ဦးအုန်းမောင် – အတွင်းဝန်
(၉) ရဲဘော်ကိုထွေး – ဝန်ကြီးဦးရာဇတ်၏သက်တော်စောင့်

**အမျိုးသားနေ့၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၀ ရက်**

၁၉၂၀ ပြည့်နှစ်တွင် အင်္ဂလိပ်အစိုးရသည် ရန်ကုန်ကောလိပ်နှင့်ယုဒသန်ကောလိပ်တို့ကို ပေါင်း၍တက္ကသိုလ်အဆင့်သို့ တိုးမြှင့်ရန်စီစဉ်သည်။ တက္ကသိုလ်အက်ဥပဒေအရ ကျောင်းသားဦးရေကို ကန့်သတ်ထားပြီး ကျောင်းအိပ်ကျောင်းစားများသာဖြစ်ရမည်ဟု သတ်မှတ်ထားသည်။ တက္ကသိုလ်ပညာကို ချမ်းသာကြွယ်ဝသူများ၏ သားသမီးများသာ တက်ရောက်နိုင်ပြီး ဆင်းရဲနွမ်းပါးသူများ၏ သား သမီးများ မတက်နိုင်အောင် စီစဉ်ထားခြင်းဖြစ်သည်။ ထို့ကြောင့် ၁၉၂၀ ပြည့်နှစ်၊ ဒီဇင်ဘာလ ၅ ရက်နေ့တွင် ကောလိပ်ကျောင်းသားများက တက္ကသိုလ်အက်ဥပဒေကို ဆန့်ကျင်ကာ သပိတ်မှောက်ကြသည်။ ထိုသပိတ်သည် မြန်မာပြည်တစ်ပြည်လုံးရှိ ကျောင်းသားများသို့ ကူးစက်ပြန့်ပွားသွားရာ မြို့တိုင်းရှိကျောင်းသူကျောင်းသားများ၊ မိဘပြည်သူများပါ အမျိုးသားရေးစိတ်ဓာတ်၊ နယ်ချဲ့ဆန့်ကျင်ရေးစိတ်ဓာတ်များ တိုးတက်မြင့်မားလာစေခဲ့သည်။ ဂျီစီဘီအေအသင်းကြီးနှင့် မြို့နယ်တိုင်းမှ အားပေးကူညီမှုတို့ကြောင့် အမျိုးသားကျောင်းများနှင့် အမျိုးသားကောလိပ်များ ပေါ်ပေါက်လာခဲ့ကြသည်။

ကျောင်းသားသပိတ်စတင်သည့် ၁၉၂၀ ပြည့်နှစ်၊ ဒီဇင်ဘာလ ၅ ရက် (၁၂၈၂ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၀ ရက်)နေ့ကို အမျိုးသားနေ့ဟူ၍ သတ်မှတ်ရန် ၁၉၂၁ ခုနှစ်၊ အောက်တိုဘာလတွင် မန္တလေးမြို့၌ ကျင်းပသော ဂျီစီဘီအေ နဝမအကြိမ်အစည်းအဝေးက အဆိုပြုခဲ့ရာ တန်ဆောင်မုန်းလပြည့်ကျော် (၁၀) ရက်နေ့ကို အမျိုးသားနေ့အဖြစ် ပြဋ္ဌာန်းကျင်းပလျက်ရှိကြသည်။

## လွှတ်တော်၏ အဓိကလုပ်ငန်းတာဝန်သုံးရပ်

လွှတ်တော်၏ အဓိကလုပ်ငန်းတာဝန်သုံးရပ်မှာ **ဥပဒေပြုခြင်း (Legislation)၊ စောင့်ကြည့်ထိန်းညှိခြင်း (Oversight)၊ ကိုယ်စားပြုခြင်း (Representation)** တို့ဖြစ်သည်။

ဥပဒေပြုခြင်းလုပ်ငန်းတာဝန်များ ထမ်းဆောင်နိုင်ရန်အတွက် အရည်အချင်းပြည့်ဝသည့် လွှတ်တော်ကိုယ်စားလှယ်များအဖြစ် တည်ဆောက်ပြီး နိုင်ငံတော်နှင့် နိုင်ငံသားများ၏ အကျိုးစီးပွားကို ကာကွယ်မြှင့်တင်ပေးနိုင်သည့် ဥပဒေများ ပြဋ္ဌာန်းနိုင်ရန် ဆောင်ရွက်ကြရမည်။

စောင့်ကြည့်ထိန်းညှိခြင်းတာဝန်အတွက် ဒေသနယ်ပယ်အလိုက် အုပ်ချုပ်ရေးနှင့် တရားစီရင်ရေးကဏ္ဍများ တည့်မတ်မှန်ကန်အောင် (Parlimentrary Oversight) အဖြစ် စောင့်ကြည့်ထိန်းညှိပေးကြရမည်။

ကိုယ်စားပြုခြင်းလုပ်ငန်းတာဝန်အတွက် မဲဆန္ဒရှင်ပြည်သူလူထုထံ ပြန်လည်ရောက်ရှိသည့်အခါ ပြည်သူ့အသံနှင့် ပြည်သူတို့၏ တင်ပြချက်များကို အလေးထားမှတ်သားနားထောင်ကြရမည်။ ပြည်သူကို ကိုယ်စားပြုပြီး၊ ပြည်သူ့အသံ၊ လွှတ်တော်အသံဆိုသည့် ဆောင်ပုဒ်နှင့်အညီ ဆောင်ရွက်ကြရမည်။

## နိုင်ငံ့ဝန်ထမ်းပြုပြင်ပြောင်းလဲရေးဆိုင်ရာ မဟာဗျူဟာစီမံချက်

ကျင့်ဝတ်သိက္ခာကောင်းမွန်ခြင်း၊ ဘက်လိုက်မှုကင်းရှင်းခြင်း၊ တာဝန်ခံမှုရှိခြင်းဆိုသည့် မူများအပေါ် အခြေခံပြီး လုပ်ရည်ကိုင်ရည်နှင့် ယုံကြည်ချက် ခိုင်မာမှုရှိသည့် ဝန်ထမ်းအဖွဲ့အစည်းသည် ကောင်းမွန်သော ဒီမိုကရေစီအုပ်ချုပ်ရေး၏ ကျောရိုးမဏ္ဍိုင်ပင်ဖြစ်ပါသည်။

မဟာဗျူဟာစီမံချက်သည် ဝန်ထမ်းတို့၏ လုပ်ရည်ကိုင်ရည်နှင့် အရည်အချင်းတို့အား အခြေခံပြီး ချီးမြှင့်မြှောက်စားမှုပြုသည့် ယဉ်ကျေးမှုအစဉ်အလာနှင့် စနစ်ထွန်းကားရေးအား ရည်မှန်းထားသည်။ အဂတိလိုက်စားမှုကို တိုက်ဖျက်ခြင်းသည် မဟာဗျူဟာစီမံချက်တစ်ခုလုံး၏ ရည်မှန်းချက်အောင်မြင်ရေးကို အထောက်အကူဖြစ်စေမည့်အပြင် ပြည်သူ့ဝန်ထမ်းအဖွဲ့အစည်းများနှင့် မိမိတို့ ဝန်ဆောင်မှုပေးနေသည့် လူ့ဘောင်အဖွဲ့အစည်းအကြားတွင် ယုံကြည်မှုကိုလည်း တိုးတက်ဖြစ်ထွန်းစေမည် ဖြစ်ပါသည်။

## မြန်မာ့စဉ်ဆက်မပြတ် ဖွံ့ဖြိုးရေးစီမံကိန်း (Myanmar Sustainable Development Plan – MSDP)

၂၀၁၈ ခုနှစ် ဖေဖော်ဝါရီ ၂၆ ရက်၌ နေပြည်တော်တွင် ကျင်းပခဲ့သည့် ဖွံ့ဖြိုးမှုထိရောက်ရေးစကားဝိုင်း၌ MSDP ကို ရေးဆွဲခဲ့ပါသည်။

MSDP တွင် မဏ္ဍိုင်ကြီးသုံးခု၊ ပန်းတိုင်ငါးခု၊ မဟာဗျူဟာ ၂၈ ခုနှင့် လုပ်ငန်းစဉ် ၂၅၀ တို့ဖြင့် ရေးဆွဲထားပါသည်။ အဓိကမဏ္ဍိုင်သုံးခုဖြစ်သည့် ငြိမ်းချမ်းရေးနှင့် တည်ငြိမ်ရေး၊ သာယာဝပြောမှုကို ပူးပေါင်းဆောင်ရွက်မှုနှင့် လူသားများနှင့် ကမ္ဘာမြေတို့ကို အပြည့်အဝအလေးထား၍ MSDP မူဘောင်ကို ရေးဆွဲထားပါသည်။

မဏ္ဍိုင်(၁) အရ ပန်းတိုင် (၁) ငြိမ်းချမ်းရေး၊ အမျိုးသားပြန်လည်သင့်မြတ်ရေး၊ လုံခြုံရေးနှင့် ကောင်းမွန်သောအုပ်ချုပ်မှုစနစ်၊ ပန်းတိုင် (၂) စီးပွားရေး တည်ငြိမ်မှုနှင့် Macroeconomic စီမံခန့်ခွဲမှု ခိုင်မာစေရေး၊ မဏ္ဍိုင်(၂)အရ ပန်းတိုင် (၃) အလုပ်အကိုင်ဖန်တီးခြင်းနှင့် ပုဂ္ဂလိကကဏ္ဍ ဦးဆောင်မှုတိုးတက်စေရေး၊ မဏ္ဍိုင်(၃) အရ ပန်းတိုင် (၄) လူသားအရင်းအမြစ်များနှင့် ၂၁ ရာစု လူမှုပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်ခြင်းတို့ကို အသီးသီးကိုက်ညီစွာ ရေးဆွဲထားခြင်းဖြစ်ပါသည်။

## ကောင်းမွန်သော အုပ်ချုပ်ရေးစနစ်

ကောင်းမွန်သောအုပ်ချုပ်ရေးစနစ် (Good Governance) ဆိုသည်မှာ နိုင်ငံတစ်ခု၏ ရေရှည်ဖွံ့ဖြိုးမှုတွင် မရှိမဖြစ် အလွန်အရေးပါသည်။ Good Governance ရှိ၊ မရှိ ဆိုသည်မှာ လူ့အခွင့်အရေးကို မည်သည့်အတိုင်းအတာအထိ ပြည့်ဝအောင် ဆောင်ရွက်ပေးနိုင်သနည်းဆိုသည့် အချက်အပေါ် မူတည်နေသည်ဟု ဖွံ့ဖြိုးမှုပညာရှင်များက ဆိုကြသည်။ ဆိုလိုသည်မှာ လူတို့၏ အခြေခံမရှိမဖြစ်အရာများဖြစ်သော စား၊ ဝတ်၊ နေရေး ပြေလည်စေရန်အတွက် လုံလောက်သောစားနပ်ရိက္ခာ (Sufficient Food)၊ ကျန်းမာရေးစောင့်ရှောက်မှုအခွင့်အရေး (Rights to Health)၊ လုံလောက်သောအိမ်ရာ (Adequate Housing)၊ အရည်အသွေးပြည့်ဝသည့် ပညာရေး (Quality Education)၊ တရားမျှတမှုနှင့် ပုဂ္ဂိုလ်ရေးရာလုံခြုံမှု (Fair, Justice and Personal Security) စသည့်ကဏ္ဍများတွင် အုပ်ချုပ်မှုအဖွဲ့အစည်းများအနေဖြင့် ထိရောက်စွာ စွမ်းဆောင်နိုင်စွမ်း ရှိ၊ မရှိ တို့ဖြင့် တိုင်းတာနိုင်သည်။

ကောင်းမွန်သောအုပ်ချုပ်ရေးစနစ်ကို အစိုးရကဏ္ဍ၊ ပုဂ္ဂလိကကဏ္ဍ၊ အကျိုး

အမြတ်ရယူသည့် လုပ်ငန်းကဏ္ဍနှင့် အကျိုးအမြတ်ရယူခြင်းမရှိသည့် လုပ်ငန်းကဏ္ဍများအားလုံးတွင် ကျင့်သုံးနိုင်ရန် လိုပါသည်။ ထို့ကြောင့် အစိုးရသာမက လုပ်ငန်းများ၊ အဖွဲ့အစည်းများ (Institutions/ Organizations)ပါ ကောင်းမွန်သော အုပ်ချုပ်ရေးစနစ်ကို ကျင့်သုံးရန် လိုအပ်ပါသည်။ ယနေ့ခေတ်တွင် နည်းပညာဖွံ့ဖြိုးမှု (ICT Development) သည် အစိုးရပြုပြင်ပြောင်းလဲရေး လုပ်ငန်းများအတွက် အရင်းခံအချက်တစ်ရပ် ဖြစ်လာပါသည်။

ကောင်းမွန်သောအုပ်ချုပ်ရေးစနစ်သည် စဉ်ဆက်မပြတ်ဖွံ့ဖြိုးမှု၏ မရှိမဖြစ်တင်ကြိုတည်ရှိရမည့် အခြေအနေတစ်ရပ် (Good governance is an essential precondition for sustainable development)ပင် ဖြစ်သည်။ နိုင်ငံများတွင် သဘာဝသယံဇာတများနှင့် လူမှုရေးဖွဲ့စည်းပုံအနေအထား (Natural resources and social structure)များ တူညီသော အခြေအနေရှိလျက်နှင့်ပင် ပြည်သူလူထုအတွက် ဆောင်ရွက်ပေးနိုင်မှုများ မတူညီကြောင်း (Different performance in improving the welfare of their people) တွေ့ရှိရသည်။ ညံ့ဖျင်းသည့်အုပ်ချုပ်မှုစနစ် (Poor Governance) သည် ဖွံ့ဖြိုးမှုကို အဟန့်အတား ဖြစ်စေနိုင်သည်။

ကောင်းမွန်သောစီမံအုပ်ချုပ်မှု၏ အစီအမံတစ်ရပ်အဖြစ် နိုင်ငံ၏စီးပွားရေးအဆောက်အအုံသည် အကျင့်သိက္ခာရှိရှိ (Ethical)၊ တာဝန်ယူမှုရှိရှိ (Accountable) နှင့် သင့်တော်၍ စည်းမျဉ်းစည်းကမ်းကျနသော ဝန်းကျင်ကောင်းတစ်ရပ် (Appropriately regulated enviroment) ဖြစ်ရန် လိုအပ်ပါသည်။

## နိုင်ငံ့ဝန်ထမ်းကဏ္ဍ ပြုပြင်ပြောင်းလဲရန်အတွက် မဟာဗျူဟာစီမံချက်

ပြည်ထောင်စုရာထူးဝန်အဖွဲ့၏ နိုင်ငံ့ဝန်ထမ်းပြုပြင်ပြောင်းလဲရေးဆိုင်ရာ မဟာဗျူဟာစီမံချက်ဖိုရမ်ကို ၂၀၁၇ ခုနှစ် ဇူလိုင် ၁၀ ရက်မှ ၁၂ ရက်အထိ နေပြည်တော်၌ ကျင်းပခဲ့ပြီး စီမံချက်ကို ၂၀၁၇ ခုနှစ် ဇူလိုင် ၁၀ ရက်တွင် ထုတ်ပြန်ကြေညာခဲ့ပါသည်။

၂၀၁၇ ခုနှစ် ဇူလိုင် ၁၀ ရက်တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ နိုင်ငံ့ဝန်ထမ်းပြုပြင်ပြောင်းလဲရေးဆိုင်ရာ မဟာဗျူဟာစီမံချက်အား ထုတ်ပြန်ကြေညာ သည့်အခမ်းအနားတွင် နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ်က “Merit–Based ကို အခြေခံ၍ အရည်အချင်းပြည့်ဝသည့် အတော်ဆုံးသူများကို နိုင်ငံ့ဝန်ထမ်းလောက အတွင်းရောက်ရှိစေရေး ဆောင်ရွက်သွားရန်” ဟု လမ်းညွှန်ချက်နှင့်အညီ ပြည်ထောင်စုရာထူးဝန်အဖွဲ့အနေဖြင့် နိုင်ငံ့ဝန်ထမ်း ပြုပြင်ပြောင်းလဲမှုဆိုင်ရာ မဟာဗျူဟာစီမံချက်ပါ ဦးစားပေးနယ်ပယ်လေးခုအနက် ဦးစားပေးနယ်ပယ်(၂)၏ အရည်

အချင်းကို အခြေခံသည့် ရွေးချယ်ခြင်း၊ ရာထူးတိုးမြှင့်ခြင်းတို့အတွက် ရည်ရွယ်၍လည်းကောင်း၊ ဦးစားပေးနယ်ပယ်(၄)၏ တာဝန်ခံမှုနှင့် ပွင့်လင်းမြင်သာမှု ရှိမှုတို့ကို ရည်ရွယ်၍လည်းကောင်း၊ ဝန်ကြီးဌာနနှင့် အဖွဲ့အစည်းအသီးသီးအတွက် လိုအပ်သော အရည်အသွေးမြင့် အရာထမ်းများကို ရွေးချယ်ပေးရာတွင် လူမှန်၊ နေရာမှန် ဖြစ်စေရေးအတွက် ယခင်က အသုံးပြုလျက်ရှိသော စာမေးပွဲစနစ်အစား ပဏာမစစ်ဆေးခြင်းကို ပထမအဆင့်အနေဖြင့်လည်းကောင်း၊ ပထမအဆင့် အောင်မြင်သူများကို Intermediate Level မှ Upper Intermediate Level အဆင့်သို့ မြှင့်တင်စစ်ဆေးမည့် ရေးဖြေစာမေးပွဲကို ဒုတိယအဆင့်အနေဖြင့်လည်းကောင်း၊ ဒုတိယအဆင့် အောင်မြင်သူများအား စိတ်အခြေအနေနှင့် လူတွေ့စစ်ဆေးခြင်းကို တတိယအဆင့်အနေဖြင့်လည်းကောင်း စစ်ဆေး၍ ရာထူးရွေးချယ်ရေးလုပ်ငန်းစဉ်ကို အဆင့်မြှင့်တင်သည့် အနေဖြင့် ပဏာမစစ်ဆေးခြင်းကို ပထမဆုံး အကြိမ် ကျင်းပခဲ့သည်။

## နိုင်ငံ့ဝန်ထမ်းကဏ္ဍ ပြုပြင်ပြောင်းလဲရန်အတွက် မဟာဗျူဟာစီမံချက်အား ဦးတည်ဆောင်ရွက်ရမည့် နယ်ပယ်လေးခုနှင့် အဓိကရလဒ်ကိုးခု

နိုင်ငံ့ဝန်ထမ်းကဏ္ဍ ပြုပြင်ပြောင်းလဲရန်အတွက် မဟာဗျူဟာစီမံချက်အား ဦးတည်ဆောင်ရွက်ရမည့် နယ်ပယ်လေးခုနှင့် အဓိကရလဒ်ကိုးခု၏ အနှစ်ချုပ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည် –

**(က) နိုင်ငံ့ဝန်ထမ်းအုပ်ချုပ်မှုပုံစံသစ်**

(၁) မြန်မာနိုင်ငံအစိုးရ၏ ဖက်ဒရယ်ဒီမိုကရက်တစ်ပြည်ထောင်စုကို တည်ထောင်လိုသည့်ဆန္ဒ သဘောထားကို ထင်ဟပ်သော မြန်မာနိုင်ငံ နိုင်ငံ့ဝန်ထမ်းများအတွက် ဦးတည်ချက်အသစ်များကို ချမှတ်ခြင်း၊

(၂) ပြည်ထောင်စုရာထူးဝန်အဖွဲ့၏ လုပ်ငန်းတာဝန်နှင့် လုပ်ပိုင်ခွင့်တို့ကို ခိုင်မာစေခြင်းနှင့် ရှင်းလင်းစေခြင်း။

**( ခ ) အရည်အချင်းကို အခြေခံ၍ စွမ်းဆောင်ရည်ရှိမှုကို ဦးစားပေးသော အလေ့အထနှင့် စနစ်များ**

(၁) အားလုံးသောစည်းမျဉ်းနှင့် လုပ်ထုံးလုပ်နည်းမူဘောင်များအတွင်း အရည်အချင်းအလိုက် ချီးမြှင့်မြှောက်စားမှုနှင့် တန်းတူညီမျှမှု တို့ကို အခြေခံသဘောတရားအဖြစ် ထည့်သွင်းရေးဆွဲခြင်း၊

(၂) အရည်အချင်းအခြေခံ၍ စွမ်းဆောင်ရည်ရှိမှုကို ဦးစားပေးကာ

ကျား/မ ကွာဟမှုကျဉ်းမြောင်းသော ဝန်ထမ်းသစ်ရွေးချယ်ခန့်အပ်မှုနှင့် ရာထူးတိုးမြှင့်၊ ပြောင်းရွှေ့မှုစနစ်များကို ထောက်ကူဆောင်ရွက်သည့် ခေတ်မီလူ့စွမ်းအားအရင်းအမြစ် စီမံခန့်ခွဲမှုစနစ်ကို ကျင့်သုံးခြင်း။

**( ဂ ) ပြည်သူ့ဗဟိုပြုနိုင်ငံ့ဝန်ထမ်းများဖြစ်လာစေရန် ခေါင်းဆောင်မှုပေးနိုင်သည့် အရည်အသွေးများနှင့် စွမ်းဆောင်ရည်များကို မြှင့်တင်ခြင်း**

(၁) လုပ်ငန်းခွင်တက်ကြွမှုရှိအောင် ဆောင်ရွက်ပေးခြင်းဖြင့် အကျိုးရလဒ်ဦးတည်လုပ်ဆောင်မှုနှင့် ပြည်သူ့ဗဟိုပြုချဉ်းကပ်လုပ်ဆောင်မှုအလေ့အထများ ပျိုးထောင်ပေးခြင်း၊

(၂) စိတ်ဓာတ်ခံယူချက်ပြောင်းလဲရေးနှင့် ပြုပြင်ပြောင်းလဲရေးများအတွက် ခေါင်းဆောင်မှုခိုင်မာအားကောင်းစေခြင်း၊

(၃) သင်ယူမှုနှင့် သင်တန်းနည်းစနစ်များ၊ နည်းလမ်းများ တိုးတက်စေခြင်း။

**(ဃ) နိုင်ငံ့ဝန်ထမ်းကဏ္ဍ၏ ပွင့်လင်းမြင်သာမှုနှင့် တာဝန်ခံမှု/တာဝန်ယူမှု**

(၁) နိုင်ငံ့ဝန်ထမ်းများ၏ ရိုးဖြောင့်မှုနှင့် တာဝန်ခံမှုတို့ မြင့်မားလာစေခြင်း၊

(၂) ပြည်သူလူထုအပေါ် ပွင့်လင်းမြင်သာမှုရှိသော နိုင်ငံ့ဝန်ထမ်း ကဏ္ဍဖြစ်စေခြင်း။

## အပြည်ပြည်ဆိုင်ရာအထိမ်းအမှတ်နေ့များ

| | | |
|---|---|---|
| ၁။ | ကမ္ဘာ့ကုလသမဂ္ဂနေ့ | - (အောက်တိုဘာလ ၂၄ ရက်) |
| ၂။ | ကမ္ဘာ့ကျန်းမာရေးနေ့ | - (ဧပြီလ ၇ ရက်) |
| ၃။ | ကမ္ဘာ့ကြက်ခြေနီနေ့ | - (မေလ ၈ ရက်) |
| ၄။ | ကမ္ဘာ့ခုခံအားကျဆင်းမှု ကူးစက်ရောဂါ တိုက်ဖျက်ရေးနေ့ | - (ဒီဇင်ဘာလ ၁ ရက်) |
| ၅။ | ကမ္ဘာ့စာပို့တိုက်နေ့ | - (အောက်တိုဘာလ ၉ ရက်) |
| ၆။ | ကမ္ဘာ့စားနပ်ရိက္ခာနေ့ | - (အောက်တိုဘာလ ၁၆ ရက်) |
| ၇။ | ကမ္ဘာ့ဆရာများနေ့ | - (အောက်တိုဘာလ ၅ ရက်) |
| ၈။ | ကမ္ဘာ့ဆေးလိပ်မသောက်ရေးနေ့ | - (မေလ ၃၁ ရက်) |
| ၉။ | ကမ္ဘာ့ပတ်ဝန်းကျင်ထိန်းသိမ်းရေးနေ့ | - (ဇွန်လ ၅ ရက်) |
| ၁၀။ | ကမ္ဘာ့မိခင်နို့တိုက်ကျွေးရေးနေ့ | - (ဩဂုတ်လ၊ ပထမပတ်) |

| | | | |
|---|---|---|---|
| ၁၁။ | ကမ္ဘာ့မျက်မမြင်ပပျောက်ရေးနေ့ | - | (အောက်တိုဘာလ ၁၁ ရက်) |
| ၁၂။ | ကမ္ဘာ့ရေသယံဇာတနေ့ | - | (မတ်လ ၂၂ ရက်) |
| ၁၃။ | ကမ္ဘာ့သက်ကြီးရွယ်အိုများနေ့ | - | (အောက်တိုဘာ ၁ ရက်) |
| ၁၄။ | ကမ္ဘာ့သစ်ပင်စိုက်ပျိုးရေးနေ့ | - | (ဇူလိုင်လ ၇ ရက်) |
| ၁၅။ | ကမ္ဘာ့အိုဇုန်းလွှာကာကွယ်ရေးနေ့ | - | (စက်တင်ဘာလ ၁၆ ရက်) |
| ၁၆။ | နိုင်ငံတကာစာတတ်မြောက်ရေးနေ့ | - | (စက်တင်ဘာလ ၈ ရက်) |
| ၁၇။ | အပြည်ပြည်ဆိုင်ရာ မသန်စွမ်းသူများနေ့ | - | (ဒီဇင်ဘာလ ၃ ရက်) |
| ၁၈။ | အပြည်ပြည်ဆိုင်ရာ မူးယစ်ဆေးဝါး အလွဲသုံးမှုနှင့်တရားမဝင်ရောင်းဝယ်မှု တိုက်ဖျက်ရေးနေ့ | - | (ဇွန်လ ၂၆ ရက်နေ့) |
| ၁၉။ | အပြည်ပြည်ဆိုင်ရာ သမဝါယမနေ့ | - | (ဇူလိုင်လပထမပတ်စနေနေ့) |
| ၂၀။ | အပြည်ပြည်ဆိုင်ရာ အမျိုးသမီးများနေ့ | - | (မတ်လ ၈ ရက်) |
| ၂၁။ | အပြည်ပြည်ဆိုင်ရာ ဒီမိုကရေစီနေ့ | - | (စက်တင်ဘာလ ၁၅ ရက်) |

## နှစ်ပတ်လည်ဆိုင်ရာ အထိမ်းအမှတ် ရတုအခေါ်အဝေါ်များ

| | | | |
|---|---|---|---|
| ၁။ | ၁ နှစ်မြောက် | = | စက္ကူရတု |
| ၂။ | ၂ နှစ်မြောက် | = | ဂွမ်းရတု |
| ၃။ | ၃ နှစ်မြောက် | = | သားရေရတု |
| ၄။ | ၄ နှစ်မြောက် | = | ပိုးရတု |
| ၅။ | ၅ နှစ်မြောက် | = | သစ်သားရတု |
| ၆။ | ၆ နှစ်မြောက် | = | သကြားရတု |
| ၇။ | ၇ နှစ်မြောက် | = | သက္ကလပ်ရတု |
| ၈။ | ၈ နှစ်မြောက် | = | ကြေးရတု |
| ၉။ | ၉ နှစ်မြောက် | = | ဥဿဖရားရတု |
| ၁၀။ | ၁၀ နှစ်မြောက် | = | သံဖြူရတု |
| ၁၁။ | ၁၁ နှစ်မြောက် | = | သံမဏိရတု |
| ၁၂။ | ၁၂ နှစ်မြောက် | = | ချည်ရတု |
| ၁၃။ | ၁၃ နှစ်မြောက် | = | ဇာပန်းရတု |
| ၁၄။ | ၁၄ နှစ်မြောက် | = | ဆင်စွယ်ရတု |
| ၁၅။ | ၁၅ နှစ်မြောက် | = | သလင်းရတု |
| ၁၆။ | ၂၀ နှစ်မြောက် | = | ကြွေရတု |

| | | | |
|---|---|---|---|
| ၁၇။ | ၂၅ နှစ်မြောက် | = | ငွေရတု |
| ၁၈။ | ၃၀ နှစ်မြောက် | = | ပုလဲရတု |
| ၁၉။ | ၃၅ နှစ်မြောက် | = | ကျောက်စိမ်းရတု |
| ၂၀။ | ၄၀ နှစ်မြောက် | = | ပတ္တမြားရတု |
| ၂၁။ | ၄၅ နှစ်မြောက် | = | နီလာရတု |
| ၂၂။ | ၅၀ နှစ်မြောက် | = | ရွှေရတု |
| ၂၃။ | ၅၅ နှစ်မြောက် | = | မြရတု |
| ၂၄။ | ၆၀ နှစ်မြောက် | = | စိန်ရတု |
| ၂၅။ | ၇၅ နှစ်မြောက် | = | ဒုတိယစိန်ရတု |
| ၂၆။ | ၉၀ နှစ်မြောက် | = | နဝရတ်ရတု |

## ရတနာပုံတယ်လီပို့

၁။ တည်နေရာ - မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ မန္တလေး-ပြင်ဦးလွင် ကားလမ်း မိုင်တိုင်အမှတ် (၂၇)

၂။ ရည်ရွယ်ချက် - အဆင့်မြင့်ခေတ်မီအိုင်တီပစ္စည်းများ၊ ကွန်ပျူတာပစ္စည်းများနှင့် ဆက်သွယ်ရေးဆိုင်ရာပစ္စည်းများ ထုတ်လုပ်ရန်

၃။ စီမံကိန်းဧရိယာ - ဧက ၁၀၀၀

၄။ ပင်မ တယ်လီပို့အဆောက်အအုံဖွင့်လှစ်ရက် - ၃၀-၆-၂၀၀၆

၅။ ရတနာပုံတယ်လီပို့ဖွင့်လှစ်ရက် - ၁၆-၁၂-၂၀၀၇

## မြန်မာနိုင်ငံရှိ ပြည်နယ်နေ့များနှင့် ပြည်နယ်သင်္ကေတများ

| | | | |
|---|---|---|---|
| ၁။ | ကချင်ပြည်နယ်နေ့ | = | ဇန်နဝါရီလ (၁၀) ရက်၊ မနောတိုင်။ |
| ၂။ | ကယားပြည်နယ်နေ့ | = | ဇန်နဝါရီလ (၁၅) ရက်၊ ကိန္နရီ ကိန္နရာ။ |
| ၃။ | ကရင်ပြည်နယ်နေ့ | = | နိုဝင်ဘာလ (၇) ရက်၊ ဖားစည်။ |
| ၄။ | ချင်းပြည်နယ်နေ့ | = | ဖေဖော်ဝါရီလ (၂၀) ရက်၊ အောက်ချင်းငှက်။ |
| ၅။ | မွန်ပြည်နယ်နေ့ | = | မတ်လ (၁၉) ရက်၊ ဟင်္သာငှက်။ |
| ၆။ | ရခိုင်ပြည်နယ်နေ့ | = | ဒီဇင်ဘာလ (၁၅) ရက်၊ ဝေသာလီဒင်္ဂါး။ |
| ၇။ | ရှမ်းပြည်နယ်နေ့ | = | ဖေဖော်ဝါရီလ (၇) ရက်၊ ရှမ်းအိုးစည်။ |

## မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ လုပ်ငန်းဆောင်ရွက်ခွင့်ပြုထားသည့် ပုဂ္ဂလိကဘဏ်များ

| စဉ် | ပုဂ္ဂလိကဘဏ်များ |
|---|---|
| ၁။ | မြန်မာနိုင်ငံသားများဘဏ် |
| ၂။ | ပထမပုဂ္ဂလိကဘဏ်လီမိတက် |
| ၃။ | သမဝါယမဘဏ်လီမိတက် |
| ၄။ | ရတနာပုံဘဏ်လီမိတက်၊ မန္တလေးမြို့ |
| ၅။ | မြဝတီဘဏ်လီမိတက် |
| ၆။ | ရန်ကုန်မြို့တော်ဘဏ်လီမိတက် |
| ၇။ | ရိုးမဘဏ်လီမိတက် |
| ၈။ | မြန်မာအရှေ့တိုင်းဘဏ်လီမိတက် |
| ၉။ | အာရှရန်ကုန်ဘဏ်လီမိတက် |
| ၁၀။ | ထွန်းဖောင်ဒေးရှင်းဘဏ်လီမိတက် |
| ၁၁။ | ကမ္ဘောဇဘဏ်လီမိတက် |
| ၁၂။ | အသေးစားနှင့် အလတ်စား စက်မှုဖွံ့ဖြိုးရေးဘဏ်လီမိတက် |
| ၁၃။ | ကမ္ဘာ့ရတနာဘဏ်လီမိတက် |
| ၁၄။ | ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေးဘဏ်လီမိတက် |
| ၁၅။ | အင်းဝဘဏ်လီမိတက် |
| ၁၆။ | အာရှစိမ်းလန်းမှုဖွံ့ဖြိုးရေးဘဏ်လီမိတက် |
| ၁၇။ | ဧရာဝတီဘဏ်လီမိတက် |
| ၁၈။ | ယူနိုက်တက်အမရဘဏ်လီမိတက် |
| ၁၉။ | မြန်မာ့ရှေ့ဆောင်ဘဏ်လီမိတက် |
| ၂၀။ | နေပြည်တော်စည်ပင်ဘဏ်လီမိတက် |
| ၂၁။ | Myanmar Microfinance Bank Limited |
| ၂၂။ | ဆောက်လုပ်ရေးနှင့်အိုးအိမ်ဖွံ့ဖြိုးတိုးတက်ရေးဘဏ်လီမိတက် |
| ၂၃။ | ရွှေကျေးလက်နှင့် မြို့ပြဖွံ့ဖြိုးတိုးတက်ရေးဘဏ်လီမိတက် |
| ၂၄။ | ဧရာဝတီတောင်သူများဖွံ့ဖြိုးတိုးတက်ရေးဘဏ်လီမိတက် |

## မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ လုပ်ငန်းဆောင်ရွက်ခွင့်ပြုထားသည့် နိုင်ငံခြားဘဏ်ကိုယ်စားလှယ်ရုံးခွဲများ

| စဉ် | နိုင်ငံခြားဘဏ်ကိုယ်စားလှယ်ရုံးခွဲများ |
|---|---|
| ၁။ | DBS Bank Ltd. |
| ၂။ | United Overseas Bank Ltd. |
| ၃။ | Oversea-Chinese Banking Corporation Ltd. |
| ၄။ | Malayan Banking Berhad (MAYBANK), Malaysia |
| ၅။ | Bangkok Bank Public Company Ltd. |
| ၆။ | National Bank Ltd. |
| ၇။ | Brunei Investment Bank (BIB) |
| ၈။ | First Overseas Bank Ltd. |
| ၉။ | CIMB Bank Berhad (New Licence for Name of Change) |
| ၁၀။ | Sumitomo Mitsui Banking Corporation (New Licence for Name of Merger) |
| ၁၁။ | The Bank of Tokyo-Mitsubishi UFJ,Ltd (New Licence for Name of Merger) |
| ၁၂။ | Bank for Investment and Development of Vietnam |
| ၁၃။ | AB Bank limited |
| ၁၄။ | Industrial and Commercial Bank of China Ltd. |
| ၁၅။ | Mizuho Corporate Bank Ltd. |
| ၁၆။ | Siam Commercial Bank Public Company Ltd. |
| ၁၇။ | MARUHAN Japan Bank PLC |
| ၁၈။ | Krung Thai Bank Public Company Ltd. |
| ၁၉။ | United Bank of India |
| ၂၀။ | KASIKORNBANK Public Company Ltd. |
| ၂၁။ | AEON Credit Service Company |
| ၂၂။ | Hana Bank |
| ၂၃။ | Woori Bank |
| ၂၄။ | ANZ Bank |
| ၂၅။ | Vietin Bank |
| ၂၆။ | Korea Development Bank |

၁၇။ Standard Chartered Bank
၁၈။ Shinhan Bank
၁၉။ Industrial Bank of Korea
၂၀။ First Commercial Bank (New Licence for Change of Management Office)
၂၁။ E.SUN Commercial Bank,Singapore Branch
၂၂။ Bank of India (BOI)
၂၃။ Kookmin Bank
၂၄။ Export–Import Bank of India
၂၅။ Export–Import Bank of Korea

## မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ လုပ်ငန်းဆောင်ရွက်ခွင့်ပြုထားသည့် နိုင်ငံခြားဘဏ်ခွဲများ

စဉ် နိုင်ငံခြားဘဏ်ခွဲများ
၁။ The Bank of Tokoyo –Mitsubishi UFJ,Ltd (New Licence for Name of Merger)
၂။ Oversea–Chinese Banking Corporation Ltd.
၃။ Sumitomo Mitsui Banking Corporation (New Licence for Name of Merger)
၄။ United Overseas Bank Ltd.
၅။ Bangkok Bank Public Company Ltd.
၆။ Industrial and Commercial Bank of China Ltd.
၇။ Malayan Banking Berhad (MAYBANK), Malaysia.
၈။ Mizuho Corporate Bank Ltd.
၉။ Australia and New Zeland Banking Group Limited
၁၀။ The Joint Stock Commercial Bank for Investment and Development of Vietnam (BIDV)
၁၁။ Shinhan Bank
၁၂။ E.Sun Commercial Bank Limited
၁၃။ State Bank of India

## မြန်မာနိုင်ငံသတင်းမီဒီယာကောင်စီ (၃၀-၁၀-၂၀၁၈)

| | | |
|---|---|---|
| ၁။ | ဦးအုန်းကြိုင် (ဟံသာဝတီ-ဦးအုန်းကြိုင်) | ဥက္ကဋ္ဌ |
| ၂။ | ဒေါက်တာမျိုးသန့်တင် | ဒုတိယဥက္ကဋ္ဌ(၁) |
| ၃။ | ဦးကျော်နိုင် (ထက်မြက်) | ဒုတိယဥက္ကဋ္ဌ(၂) |
| ၄။ | ဦးမင်းဟန် | ဘဏ္ဍာရေးမှူး |
| ၅။ | ဦးသိမ်းစိုး (သိမ်းစိုး-သီဟရတနာ) | စာရင်းစစ် |
| ၆။ | ဦးကိုကို | ကောင်စီဝင် |
| ၇။ | ဦးကျော်ဇေယျ | ကောင်စီဝင် |
| ၈။ | ဦးကျော်မင်းဆွေ | ကောင်စီဝင် |
| ၉။ | ဦးခင်မောင်ဌေး | ကောင်စီဝင် |
| ၁၀။ | ဦးခိုင်မြတ်ကျော် | ကောင်စီဝင် |
| ၁၁။ | ဦးချစ်ဝင်းမောင် | ကောင်စီဝင် |
| ၁၂။ | ဦးစောသာထူး (မောင်မောင်ဖောင်တိန်) | ကောင်စီဝင် |
| ၁၃။ | ဦးဇင်လင်း (ဦးဌေးအောင်) | ကောင်စီဝင် |
| ၁၄။ | ဦးဇေယျ (သားကြီးမောင်ဇေယျ) | ကောင်စီဝင် |
| ၁၅။ | ဦးဇေယျာလှိုင် | ကောင်စီဝင် |
| ၁၆။ | ဦးညွန့်တင် (မောင်ငြိမ်းသူ-ကြို့ပင်ကောက်) | ကောင်စီဝင် |
| ၁၇။ | ဒေါက်တာတင်လှိုင် (ဘိုးလှိုင်) | ကောင်စီဝင် |
| ၁၈။ | ဦးပိုင်စိုးဦး (ဂျေပိုင်) | ကောင်စီဝင် |
| ၁၉။ | ဦးမော်လင်း | ကောင်စီဝင် |
| ၂၀။ | ပါမောက္ခဒေါက်တာမြင့်မောင်မောင် | ကောင်စီဝင် |
| ၂၁။ | ဦးမြင့်လွင် | ကောင်စီဝင် |
| ၂၂။ | ဒေါ်ဝေမာသိမ့် | ကောင်စီဝင် |
| ၂၃။ | ဒေါ်သူဇာ | ကောင်စီဝင် |
| ၂၄။ | ဒေါ်သင်းသင်းသာ | ကောင်စီဝင် |
| ၂၅။ | ဦးသွင်လင်းအောင် | ကောင်စီဝင် |
| ၂၆။ | ဒေါ်အိအိတင် | ကောင်စီဝင် |
| ၂၇။ | ဦးကျော်စွာမင်း | အတွင်းရေးမှူး |
| ၂၈။ | ဦးမြင့်ကျော် | တွဲဖက်အတွင်းရေးမှူး(၁) |
| ၂၉။ | ဦးလှိုင်းသစ်ဇင်ဝေ (သာလွန်ဇေ၀င်းထက်) | တွဲဖက်အတွင်းရေးမှူး(၂) |

စတုတ္ထမဏ္ဍိုင်၏ပေတံ (SMART)

| | | | | | |
|---|---|---|---|---|---|
| (က) | S | = | Specific | = | တိကျရမည်။ |
| ( ခ ) | M | = | Measurable | = | တိုင်းထွာနိုင်ရမည်။ |
| ( ဂ ) | A | = | Attainnable | = | ရယူနိုင်ရမည်။ |
| (ဃ) | R | = | Realstic | = | အမှန်ဖြစ်ရမည်။ |
| ( င ) | T | = | Trackable | = | လုပ်ကြည့်နိုင်ရမည်။ |

## အများပြည်သူဝန်ဆောင်မှုသတင်းမီဒီယာ၏အခြေခံအချက်များ

လွတ်လပ်သော အများပြည်သူဝန်ဆောင်မှုသတင်းမီဒီယာ (PSM–Public Service Media) ၏ အခြေခံအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် – (PSM ကို အရှေ့တောင်အာရှနိုင်ငံများတွင် လက်ရှိကျင့်သုံးလျက်ရှိပါသည် )

(က) နိုင်ငံသားအားလုံးကို ကိုယ်စားပြုရမည်။

( ခ ) လူ့အဖွဲ့အစည်းအတွင်းမှ ကွဲပြားခြားနားတဲ့အမြင် အများအကျိုးစီးပွားကို ထင်ဟပ်နေရမည်။

(ဂ) ဂုဏ်သိက္ခာရှိသော တိကျခိုင်မာမှုတပြီး ဓမ္မဓိဋ္ဌာန်ကျတဲ့သတင်းများဖြစ်ရမည်။

(ဃ) ပြောရေးဆိုခွင့်နည်းပါးတဲ့ လူနည်းစုများ၊ အုပ်စုများ၏ သဘောထားများ၊ အကျိုးစီးပွားတို့ကို အလေးဂရုပြုရမည်။

( င ) နိုင်ငံရေး၊ စီးပွားရေးများမှကင်းလွတ်ပြီး အယ်ဒီတာလွတ်လပ်ခွင့်ကို အပြည့်အဝကျင့်သုံးရမည်။

( စ ) ဘဏ္ဍာရေးလွတ်လပ်မှု (Financial Indenpendence) ဖြစ်စေမည့် အရင်းအမြစ်များရှိရမည်။

## စာနယ်ဇင်းကျင့်ဝတ်များ

မြန်မာနိုင်ငံစာနယ်ဇင်းကောင်စီက ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ ၅ ရက် တွင် ထုတ်ပြန်ခဲ့သည့် စာနယ်ဇင်းကျင့်ဝတ်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် –

(က) သတင်းမီဒီယာတစ်ခုက ဖော်ပြထားသောသတင်းတိုင်း အချက်အလက် တိကျမှန်ကန်ရန်နှင့် တတ်နိုင်သမျှ ပြည့်စုံရန် စိစစ်ရမည်။

( ခ ) တိကျမှန်ကန်မှုမရှိသော သတင်းကိုဖော်ပြမိလျှင် သက်ဆိုင်ရာမီဒီယာသည် အမြန်ဆုံးပြန်လည် ပြင်ဆင်ဖော်ပြပေးရမည်။ သတင်းမှန်ဖြေရှင်းချက်ကိုလည်း ယင်းသတင်းထည့်သွင်းခဲ့သည့်နေရာနှင့် အနီးစပ်ဆုံး စာမျက်နှာတွင် ထင်ရှားစွာဖော်ပြပေးရမည်။

( ဂ ) သတင်းပေးသူ (သို့မဟုတ်) သတင်းရင်းမြစ်၏ အမည်နာမနှင့် စပ်လျဉ်း၍ ကာယကံရှင်၏ဆန္ဒနှင့်အညီ ထိန်းသိမ်းဆင်ခြင်ရမည်။ ယုံကြည်၍ ထုတ်ဖော်အသိပေးလိုက်သည့် အကြောင်းအရာများနှင့် စပ်လျဉ်း၍ လျှို့ဝှက်ထိန်းသိမ်းထားရမည်။

(ဃ) တရားရုံးတွင် စစ်ဆေးဆဲအမှုများနှင့်စပ်လျဉ်း၍ မီဒီယာတွင် ရေးသား ဖော်ပြရာ၌ တရားရုံးတော်က ပြစ်မှုထင်ရှား မစီရင်သေးသမျှကာလ ပတ်လုံး တရားစွဲဆိုခံရသူအား အပြစ်ကင်းစင်သူတစ်ဦးအဖြစ် မှတ်ယူရမည်။

( င ) သတင်းများရယူရေးသားရာ၌မိမိကိုယ်စားပြုသည့်သတင်းမီဒီယာအမည်ကို ထုတ်ဖော်ပြောဆို၍ သတင်းရယူရမည်။

( စ ) သတင်း၊ ဓာတ်ပုံ၊ ဆောင်းပါးအသွင်ဖြင့် ထည့်သွင်းသော ကြော်ငြာများကို ကြော်ငြာဖြစ်ကြောင်း သိသာထင်ရှားအောင် ဖော်ပြရမည်။

(ဆ) သတင်းရေးသားရာတွင် ရေးသူ၏အာဘော် လုံးဝမပါဝင်စေရ။ ဘက်လိုက်ရေးသားခြင်း မပြုရ။

( ဇ ) အများပြည်သူအကျိုးစီးပွားအတွက် ရေးသင့်ရေးထိုက်သည်မှအပ လူပုဂ္ဂိုလ်တစ်ဦးတစ်ယောက် သို့မဟုတ် အဖွဲ့အစည်းတစ်ခု၏ ဂုဏ်သိက္ခာကို ထိခိုက်စေသောအရေးအသား နိုင်ငံသားတစ်ဦးဦး၏အခွင့်အရေးကို ထိပါးသော အရေးအသားမှရှောင်ကြဉ်ရမည်။

(ဈ) သတင်းရေးသားရာတွင် ကလေးသူငယ်များ၊ အမျိုးသမီးများနှင့် စပ်လျဉ်းသည့် ဥပဒေပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ည) ဇာတိ၊ ကိုးကွယ်ရာဘာသာ၊ လူမျိုးတို့ကိုအကြောင်းပြု၍ ခွဲခြား၊ ဝေဖန်၊ လှုံ့ဆော်ရေးသားခြင်းမပြုရ။

( ဋ ) မီဒီယာသမားများအားလုံး မည်ကဲ့သို့သောအခွင့်အရေး တံစိုးလက်ဆောင်ကြောင့်မျှ မိမိ သို့မဟုတ် အခြားတစ်စုံတစ်ယောက်၏ အကျိုးငှာ ဘက်လိုက်ရေးသားဖော်ပြခြင်း မပြုရ။

( ဌ ) စီးပွားရေး၊ နိုင်ငံရေးစသည့် အဖွဲ့အစည်းတစ်ခုခု၏ သြဇာကြောင့် မမှန်မကန် ရေးသားခြင်းမပြုရ။

( ဍ ) သူတစ်ပါးဖန်တီးထားသော သတင်း၊ ဓာတ်ပုံ၊ ဆောင်းပါးများကို မူရင်းဖန်တီးသူ၏ ခွင့်ပြုချက်မရဘဲ ကူးယူဖော်ပြခြင်းမပြုရ။ ခွင့်ပြုချက်ရပြီး ဖော်ပြလျှင်လည်း မူလရင်းမြစ်ကိုဖော်ပြပေးရမည်။

( ဎ ) အီလက်ထရွန်းနစ်နည်းပညာဖြင့် ထုတ်လွှင့်သော အင်တာနက်၊ လူမှုကွန်ရက် စသည့် နည်းလမ်းများမှတစ်ဆင့်ရသောသတင်းများသည် မှန်ကန်ကြောင်း သက်သေအခိုင်အမာမပြနိုင်က ပြန်လည်ကူးယူဖြန့်ချီခြင်း မပြုရ။

(ဏ) အများပြည်သူ၏ ကိုယ်ကျင့်တရားထိခိုက်ပျက်ပြားစေမည့် ရေးသားဖော်ပြမှုများ၊ ညစ်ညမ်းမှုများနှင့်ပတ်သက်၍ မည်သည့်သတင်း၊ ဓာတ်ပုံ၊ ဆောင်းပါးမျှ ပုံနှိပ်ထုတ်ဝေခြင်းမပြုရ။

## မြန်မာစာပေသမိုင်းတွင် ထင်ရှားသောကျမ်းများနှင့် ရေးသားပြုစုခဲ့သူများ

| | | |
|---|---|---|
| (က) | စွယ်စုံကျော်ထင်ကျမ်း/ ဇိနတ္ထပကာသနီကျမ်း | - ကျီးသဲလေးထပ်ဆရာတော် |
| ( ခ ) | ဝေါဟာရတ္ထပကာသနီကျမ်း | - ကျော်အောင်စံထားဆရာတော် |
| ( ဂ ) | လောကနီတိကျမ်း | - စတုရင်္ဂဗလအမတ်ကြီး |
| (ဃ) | ဇာတ်တော်ကြီး (၁၀) ဘွဲ့ | - မင်းဘူးဆရာတော် ဦးသြဘာသ |
| ( င ) | မာဃဒေဝလင်္ကာသစ် | - မန်လည်ဆရာတော် |
| ( စ ) | လောကသာရပျို့ | - ရခိုင်သူမြတ် |
| (ဆ) | တိလောကဆုံးမစာ | - ရှင်မဟာသီလဝံသ |
| ( ဇ ) | ၁၂ လရာသီဘွဲ့ | - ဦးပုည/လက်ဝဲသုန္ဒရအမတ်ကြီး |
| (ဈ) | ဂါထာ-၆ဝ ပျို့ | - ရှင်အုန်းညို |
| (ည) | လယ်သမားဘွဲ့၊ ထန်းသမားဘွဲ့ | - ဝန်ကြီးပဒေသရာဇာ |
| ( ဋ ) | လောကသာရဆုံးမစာ | - ကန်တော်မင်းကျောင်းဆရာတော် |
| ( ဌ ) | ပုတ္တောဝါဒပျို့ | - ဆားတုံဆရာတော် |
| ( ဍ ) | မဟာရာဇဝင်တော်ကြီး | - ဦးကုလား |
| ( ဎ ) | သေနင်္ဗျူဟာပျို့ | - လက်ဝဲသုန္ဒရအမတ်ကြီး |
| (ဏ) | ဂမ္ဘီသာရပျို့ | - ရှင်မဟာရဋ္ဌသာရ |
| (တ) | ရာဇဓမ္မသင်္ဂဟကျမ်း | - ယောအတွင်းဝန် ဦးဘိုးလှိုင် |

**ပေလေးပင် ရှင်လေးပါး**

၁။ ရှင်ဥတ္တမကျော်
၂။ ရှင်မဟာသီလဝံသ
၃။ ရှင်အုန်းညို
၄။ ရှင်ခေမာ

**နဂါးဒေးအမည်ဖြင့်ထင်ရှားသောစာဆိုတော်များ**

၁။ တောင်ငူနဂါးဒေး
၂။ ဇင်းမယ်နဂါးဒေး
၃။ ပြည်နဂါးဒေး
၄။ စလင်းနဂါးဒေး
၅။ ဝက်မစွတ်နဂါးဒေး

**အင်းဝခေတ်နှောင်းပိုင်းတွင် ထင်ရှားသောအမျိုးသမီးစာဆိုတော်(၂)ဦး**

၁။ နန်းတွင်းမိညို ၂။ နန်းတွင်းမိဖြူ

**ဘာသာလေးမျိုးဖြင့်ရေးထိုးထားသောကျောက်စာ**

၁။ ရာဇကုမာရ်ကျောက်စာ (ပျူ၊ မွန်၊ မြန်မာ၊ ပါဠိ လေးဘာသာဖြစ်သည်)

## မြန်မာနိုင်ငံတွင် ချီးမြှင့်လျက်ရှိသော စာပေဆုများ

၁။ အမျိုးသားစာပေဆု
၂။ စာပေဗိမာန်စာပေဆု
၃။ ပခုက္ကူဦးအုန်းဖေဆု
၄။ ဆရာဝန်တင်ရွှေဆု
၅။ သုတစွယ်စုံစာပေဆု
၆။ ထွန်းဖောင်ဒေးရှင်းစာပေဆု

## အရှေ့တောင်အာရှစာပေဆုရှင်များ

| | | |
|---|---|---|
| ၁။ စည်သူဦးကြည်အေး | ဆင်ဖြူကျွန်းအောင်သိန်း | ၁၉၉၈ |
| ၂။ စည်သူဦးကျော်အောင် | ကျော်အောင် | ၁၉၉၉ |
| ၃။ စည်သူဒေါ်ရင်ရင် | စောမုံညင်း | ၂၀၀၀ |
| ၄။ စည်သူဦးထင်ကြီး | တက္ကသိုလ်ထင်ကြီး | ၂၀၀၁ |
| ၅။ ဦးစိန်ဝင်း | မောင်စိန်ဝင်း (ပုတီးကုန်း) | ၂၀၀၃ |
| ၆။ ဒေါ်ခင်သန်းဝင်း | ကြူကြူသင်း | ၂၀၀၄ |
| ၇။ စည်သူဦးတင်လှိုင် | လယ်တွင်းသားစောချစ် | ၂၀၀၅ |

## အမျိုးသားစာပေတစ်သက်တာဆုရှင်များ

| | | | |
|---|---|---|---|
| ၁။ | စည်သူဦးလှကြိုင် | ပါရဂူ | ၂၀၀၁ |
| ၂။ | စည်သူဦးထင်ဖတ် | မောင်ထင် | ၂၀၀၂ |
| ၃။ | စည်သူဦးငွေးမောင် | ငွေးမောင် | ၂၀၀၃ |
| ၄။ | စည်သူဦးလေးမြိုင် | လေးမြိုင် | ၂၀၀၄ |
| ၅။ | စည်သူဒေါ်ရင်ရင် | စောမုံညင်း | ၂၀၀၅ |
| ၆။ | စည်သူဒေါ်ကြန် | မကြန် | ၂၀၀၆ |
| ၇။ | စည်သူဦးကြည်အေး | ဆင်ဖြူကျွန်းအောင်သိန်း | ၂၀၀၇ |
| ၈။ | စည်သူဒေါက်တာကျော်စိန် | ဒေါက်တာကျော်စိန် | ၂၀၀၈ |
| ၉။ | စည်သူဒေါက်တာခင်မောင်ညွန့် | ဒေါက်တာခင်မောင်ညွန့် | ၂၀၀၉ |
| ၁၀။ | စည်သူဒေါက်တာသော်ကောင်း | ဒေါက်တာသော်ကောင်း | ၂၀၁၀ |
| ၁၁။ | စည်သူဦးဝင်းမောင် | မင်းယုဝေ | ၂၀၁၁ |
| ၁၂။ | ဒေါ်ခင်ဆွေဦး | ခင်ဆွေဦး | ၂၀၁၂ |
| ၁၃။ | ဦးအောင်သင်း | အောင်သင်း | ၂၀၁၂ |
| ၁၄။ | ဦးတင်မောင် | သိပ္ပံမှူးတင် | ၂၀၁၂ |
| ၁၅။ | ဒေါက်တာခင်အေး | မောင်ခင်မင်(ဓနုဖြူ) | ၂၀၁၃ |
| ၁၆။ | စည်သူဦးတင်လှိုင် | လယ်တွင်းသားစောချစ် | ၂၀၁၃ |
| ၁၇။ | ဦးမြင့်ကြည် | တက္ကသိုလ်မြတ်စိုး | ၂၀၁၃ |
| ၁၈။ | ဦးဝင်းဖေ | မြဇင် | ၂၀၁၄ |
| ၁၉။ | ဦးခင်မောင်စိုး | မောင်ပေါ်ထွန်း | ၂၀၁၄ |
| ၂၀။ | ဦးကိုလေး | ကိုလေး(အင်းဂုဏ်ရည်) | ၂၀၁၄ |
| ၂၁။ | ဦးဝင်းမွန် | တက္ကသိုလ်ဝင်းမွန် | ၂၀၁၅ |
| ၂၂။ | ဦးတင်ခ | တက္ကသိုလ်တင်ခ | ၂၀၁၅ |
| ၂၃။ | ဦးသာနိုး | မောင်သာနိုး | ၂၀၁၆ |
| ၂၄။ | ဦးသိန်းသန်းထွန်း | သိန်းသန်းထွန်း | ၂၀၁၆ |
| ၂၅။ | ဦးကျော်ဝင်း | ညိုဝင်း | ၂၀၁၆ |
| ၂၆။ | ဦးမြင့်လွင် | ဖိုးကျော့ | ၂၀၁၇ |
| ၂၇။ | ဦးထွန်းရီ | ရှေးဟောင်းသုတေသီ | ၂၀၁၇ |
| ၂၈။ | ဦးတင်မောင်မြင့် | တင်မောင်မြင့် | ၂၀၁၈ |
| ၂၉။ | ဦးထွန်းအောင်ချိန် | ထွန်းအောင်ချိန် | ၂၀၁၈ |

## နိုင်ငံပိုင်သတင်းစာများ

မြန်မာနိုင်ငံတွင် သတင်းစာလုပ်ငန်းကို ၁၈၃၆ ခုနှစ်တွင် စတင်ခဲ့ပြီး မြန်မာနိုင်ငံ၏ ပထမဆုံးသတင်းစာအမည်မှာ မြန်မာ့အဆွေသတင်းစာ (စတင်ထုတ်ဝေခဲ့သည့်ကာလ မြန်မာသက္ကရာဇ်– ၁၂၇၅၊ အင်္ဂလိပ်ခုနှစ်– ၁၉၁၄) ဖြစ်သည်။ မြန်မာ့အလင်းနှင့် ကြေးမုံသတင်းစာတို့သည် ပုဂ္ဂလိကသတင်းစာများအဖြစ် ရပ်တည်လာခဲ့ရာမှ ၁၉၆၂ ခုနှစ် တော်လှန်ရေးကောင်စီတက်လာချိန်တွင် ပြည်သူပိုင်အဖြစ် သိမ်းယူခဲ့သည်။ ၁၉၈၈ ခုနှစ်နောက်ပိုင်းမှ ယနေ့အထိ မြန်မာ့အလင်း၊ ကြေးမုံနှင့် သတင်းစာတို့သည် နိုင်ငံပိုင်သတင်းစာအဖြစ် ရပ်တည်လျက်ရှိသည်။ ဒီမိုကရေစီအစိုးရပေါ်ပေါက်လာချိန်တွင် အခြားသော ပုဂ္ဂလိကသတင်းစာများကိုလည်း လွတ်လပ်စွာ ထုတ်ဝေခွင့်ပြုခဲ့သည်။

### မြန်မာ့အလင်းသတင်းစာ

ဗြိတိသျှကိုလိုနီလက်အောက်သို့ ကျရောက်ခဲ့စဉ်အတွင်း ၁၉၁၄ ခုနှစ်တွင် မဂ္ဂဇင်းအဖြစ် စတင်ရပ်တည်ခဲ့ရာ သက်တမ်းအကြာဆုံး မြန်မာ့သတင်းစာဖြစ်သည်။ သတင်းစာလုပ်ငန်း မူဝါဒ (၈) ရပ်၊ လမ်းညွှန်ချက် (၁၁) ရပ်နှင့်အညီ ၁၉၉၃ ခုနှစ် ဧပြီ ၁၇ ရက်တွင် ဆက်လက်ထုတ်ဝေသည်။

### ကြေးမုံသတင်းစာ

ကြေးမုံသတင်းစာကို ၁၉၅၆ ခုနှစ် ဧပြီ ၁၆ ရက်တွင် ကြေးမုံဦးသောင်းနှင့် ဆရာစိန်ခင်မောင်ရီတို့က ဦးဆောင်ကာ ပုဂ္ဂလိကသတင်းစာအဖြစ် စတင်ထုတ်ဝေခဲ့သည်။ သတင်းစာလုပ်ငန်း မူဝါဒ (၈) ရပ်၊ လမ်းညွှန်ချက် (၁၁) ရပ်နှင့်အညီ ၁၉၉၂ ခုနှစ် စက်တင်ဘာ ၁၈ ရက်တွင် ဆက်လက်ထုတ်ဝေသည်။

### The Global New Light of Myanmar အင်္ဂလိပ်သတင်းစာ

ယခင်ကWorking People's Daily အမည်ဖြင့် ၁၉၄၆ ခုနှစ် ဇန်နဝါရီ ၁၂ ရက်တို့တွင် ပုဂ္ဂလိကသတင်းစာအဖြစ် ထုတ်ဝေခဲ့ပြီးနောက် ၁၉၉၃ ခုနှစ် ဧပြီ ၁၇ ရက်တွင် The New Light of Myanmar အမည်ဖြင့် ပြောင်းလဲထုတ်ဝေခဲ့သည်။ ၂၀၁၄ ခုနှစ် စက်တင်ဘာ ၁ ရက်တွင် The Global New Light of Myanmar အမည်သို့ ပြောင်းလဲကာ ဆက်လက်ထုတ်ဝေသည်။

## ရေဒီယိုအသံထုတ်လွှင့်မှုများ

အစိုးရပိုင် ရေဒီယိုအသံထုတ်လွှင့်မှုအနေဖြင့် ယခင် ၁၉၈၈ မတိုင်မီ တိုင်းရင်းသားဘာသာ ၈ မျိုးကိုသာ ထုတ်လွှင့် ပေးခဲ့ရာမှ ယခုအခါ ၆ မျိုးတိုးချဲ့ ထုတ်လွှင့်ပေးကာ စုစုပေါင်း ၁၄ မျိုး ထုတ်လွှင့်ပေးလျက်ရှိသည်။ ထုတ်လွှင့်ချိန်မှာ ယခင်က ၄ နာရီသာ ကြာမြင့်ခဲ့ရာမှ ယခုအခါ ၁၂ နာရီသို့ တိုးမြှင့်ထုတ်လွှင့်ပေးလျက်ရှိသည်။ ပုဂ္ဂလိက အသံထုတ်လွှင့်မှုအစီအစဉ်တွင် အောက်ပါအတိုင်းလိုင်ပေါင်း ၆ လိုင်းဖြင့် တစ်ပြည်လုံး လွှမ်းခြုံ ထုတ်လွှင့်ပေးလျက်ရှိပါသည်–

(လက်ရှိ FM အသံလွှင့်ရုံ–၃၀ ခုရှိပြီး ယခင်အစီအစဉ်–၄၀မှ ယခုအခါ ၇၅ မျိုး စုံလင်စွာ နားထောင်နိုင်ပြီဖြစ်သည်)

| | | | |
|---|---|---|---|
| (က) | ပတ္တမြား FM | – | ကချင်ပြည်နယ်၊ စစ်ကိုင်းတိုင်းဒေသကြီး |
| ( ခ ) | ရွှေ FM | – | ကရင်ပြည်နယ်၊ မွန်ပြည်နယ်၊ ပဲခူးတိုင်းဒေသကြီး၊ တနင်္သာရီတိုင်းဒေသကြီး |
| ( ဂ ) | ပဒ္မဝတီ FM | – | ရခိုင်ပြည်နယ်၊ ဧရာဝတီတိုင်းဒေသကြီး |
| (ဃ) | ချယ်ရီ FM | – | စစ်ကိုင်းတိုင်းဒေသကြီး၊ မန္တလေးတိုင်းဒေသကြီး၊ ပဲခူးတိုင်းဒေသကြီး၊ ရန်ကုန်တိုင်းဒေသကြီး |
| ( င ) | ပုဂံ FM | – | ချင်းပြည်နယ်၊ မကွေးတိုင်းဒေသကြီး |
| ( စ ) | မန္တလေး FM | – | ရန်ကုန်၊ မန္တလေး၊ နေပြည်တော် |

## မြန်မာနိုင်ငံတွင် သတင်းဌာနရုံးခွဲဖွင့်လှစ်ခွင့်ပြုထားသည့် ပြည်ပသတင်းဌာနများ

| စဉ် | သတင်းဌာန | နိုင်ငံ | ခွင့်ပြုသည့်ရက်စွဲ |
|---|---|---|---|
| ၁။ | Xinhua | တရုတ် | ၁၉–၅–၁၉၇၂ |
| ၂။ | Kuming Daily | တရုတ် | ၁၇–၇–၂၀၀၇ |
| ၃။ | AP | အမေရိကန် | ၁–၄–၂၀၁၃ |
| ၄။ | NHK | ဂျပန် | ၁–၄–၂၀၁၃ |
| ၅။ | Kyodo | ဂျပန် | ၂၃–၄–၂၀၁၃ |
| ၆။ | CCTV | တရုတ် | ၁၀–၉–၂၀၁၃ |
| ၇။ | AFP | ပြင်သစ် | ၁၁–၉–၂၀၁၃ |

| | | | |
|---|---|---|---|
| ၈။ | CNA | စင်ကာပူ | ၂၀-၉-၂၀၁၃ |
| ၉။ | BBC | အင်္ဂလန် | ၂၀-၁၂-၂၀၁၃ |
| ၁၀။ | Reuters | အမေရိကန် | ၂၀-၁၂-၂၀၁၃ |
| ၁၁။ | Nikkei Shimbun | ဂျပန် | ၂၀-၁၂-၂၀၁၃ |
| ၁၂။ | VOA | အမေရိကန် | ၂၆-၁-၂၀၁၄ |
| ၁၃။ | ABC | သြစတြေးလျ | ၂၁-၇-၂၀၁၄ |
| ၁၄။ | Asahi Shimbun | ဂျပန် | ၂၁-၇-၂၀၁၄ |
| ၁၅။ | Yunnan Radio and Television | တရုတ် | ၂၁-၇-၂၀၁၄ |
| ၁၆။ | CRI (China Radio International) | တရုတ် | ၂၁-၇-၂၀၁၄ |
| ၁၇။ | TV Asahi Corporation | ဂျပန် | ၂-၁၀-၂၀၁၄ |
| ၁၈။ | RFA (Radio Free Asia) | အမေရိကန် | ၂-၁၀-၂၀၁၄ |
| ၁၉။ | Mainichi Shimbun | ဂျပန် | ၂-၁၀-၂၀၁၄ |

## အောင်ဘာလေထီသမိုင်း

| စတင်ရောင်းချသည့်နေ့ | ရောင်းချသည့်ထီဈေးနှုန်း | အမြင့်ဆုံးဆုငွေ(ကျပ်) |
|---|---|---|
| ၁၃.၆.၁၉၃၈ | ၂ ကျပ် | ၁ သိန်း |
| ၆.၂.၁၉၈၉ | ၅ ကျပ် | ၃ သိန်း |
| ၃.၄.၁၉၉၁ | ၁၀ ကျပ် | ၁၀ သိန်း |
| ၃.၁၂.၁၉၉၆ | ၅၀ ကျပ် | ၅၀ သိန်း |
| ၁.၆.၂၀၀၀ | ၅၀ ကျပ် | ၃၀၀ သိန်း |
| ၁.၁၂.၂၀၀၅ | ၁၀၀ ကျပ် | ၅၀၀သိန်း |
| ၁.၁၂.၂၀၀၈ | ၂၀၀ ကျပ် | ၁၅၀၀ သိန်း |
| ၁.၃.၂၀၁၇ | ၅၀၀ ကျပ် | ၁၀၀၀၀ သိန်း |
| ၁.၃.၂၀၁၉ | ၁၀၀၀ ကျပ် | ၁၅၀၀၀ ကျပ် |

## မြန်မာ့ရာဇဝင်တွင် ထင်ရှားသောပုဂ္ဂိုလ်အချို့၏ အခြားအမည်များ

(က) ဘိုးတော်ဘုရား - မောင်ဝိုင်း
(ခ) မက္ခရာမင်းသားကြီး - မောင်ပျိုး
(ဂ) ဘုရင့်နောင် - ရှင်ရဲထွဋ်(ကျော်ထင်အနော်ရထာဘွဲ့ခံ)
(ဃ) ကျန်စစ်သား - ထီးလှိုင်ရှင်
(င) ဘကြီးတော်မင်း - မောင်ခင်
(စ) အလောင်းမင်းတရား - ဦးအောင်ဇေယျ
(ဆ) မင်းတုန်းမင်း - မောင်လွင်
(ဇ) အနော်ရထာမင်း - ရှင်အနုရုဒ္ဓါ
(ဈ) သမိန်ဗရမ်း - ဦးပါကောင်း
(ည) ဆရာတော်ဦးဥတ္တမ - ပေါ်ထွန်းအောင်
(ဋ) ဆရာတော်ဦးဝိစာရ - မောင်လှကျော်
(ဌ) ကင်းဝန်မင်းကြီး - ဦးကောင်း
(ဍ) သီပေါမင်း - မောင်မျိုးဆက်
(ဎ) သခင်ကိုယ်တော်မှိုင်း - မောင်ရစ်(နေမျိုးသူရရဲခေါင်ဘွဲ့ခံ- သတိုးမင်းကြီး သုဓမ္မာမဟာဗန္ဓုလ)
(ဏ) သခင်ကိုယ်တော်မှိုင်း - မောင်လွန်း
(တ) ဆရာစံ - မောင်ရာကျော်

## စံပြကျေးရွာတွင် ပြည့်စုံရမည့်အင်္ဂါရပ်များ

၁။ ကျေးရွာအုပ်ချုပ်ရေးရုံးနှင့်စာကြည့်တိုက်
၂။ အားကစားကွင်းနှင့်ဘုံမြေ
၃။ စာသင်ကျောင်း
၄။ ကျေးလက်ကျန်းမာရေး
၅။ လမ်းပန်းဆက်သွယ်ရေး
၆။ ရေရရှိရေးနှင့်စိုက်ပျိုးရေး
၇။ လျှပ်စစ်မီးလင်းရေး
၈။ ရွာတံခါး၊ ရွာစည်းရိုး၊ အိမ်စည်းရိုး

၉။ ဘုရားကျောင်းကန်၊ သာသနိကအဆောက်အဦ
၁၀။ ဈေး၊ ဈေးမြေနေရာ
၁၁။ လုံခြုံရေးအဖွဲ့များနှင့်မီးကင်း၊ ရေကင်း
၁၂။ အရိပ်ရပင်များနှင့်ထင်းစိုက်ခင်း
၁၃။ အစိုးရမဟုတ်သောလူမှုရေးအဖွဲ့အစည်းများ
၁၄။ ကျန်းမာသန့်ရှင်းရေး
၁၅။ သုသာန်စသည်တို့ဖြစ်သည်။

## ကင်းထောက်အဖွဲ့

ကင်းထောက်ဟူသည် စစ်သဘောမပါ။ နိုင်ငံရေးမစွက်။ လူမှုဝန်ထမ်းလုပ်ငန်းသက်သက်ကိုသာ ဆောင်ရွက်ကြသူများဖြစ်သည်။ ကင်းထောက်လုပ်ငန်း၏ အဓိကရည်ရွယ်ချက်မှာ တာဝန်သိသော နိုင်ငံ့သားကောင်းများ ဖြစ်လာရေးအတွက် လူငယ်၊ လူရွယ်များကို ပုံသွင်းဖန်တီးပေးခြင်းဖြစ်သည်။ ထိုသို့ ပုံသွင်းဖန်တီးပေးရာတွင် လူငယ်၊ လူရွယ်များ၏ ကိုယ်ကျင့်တရားနှင့် အကျင့်စာရိတ္တကောင်းမွန်စေရန် ပြုပြင်ပေးပြီး မိမိကိုယ်ကိုယ်မိမိအားကိုးတတ်ခြင်း၊ လူကြီးမိဘတို့၏ ဆုံးမသွန်သင်မှုများကို ရိုသေလိုက်နာတတ်ခြင်းစသည် အလေ့အထကောင်းများရရှိအောင် လေ့ကျင့်သင်ကြားပေးကြရသည်။ ကင်းထောက်တို့သည် နိုင်ငံတော်နှင့် နိုင်ငံသားတို့အား ချစ်ခင်မြတ်နိုးပြီး သစ္စာစောင့်သိရိုသေကြသည်။ ကင်းထောက်တို့သည် မိမိကိုယ်ကို မိမိအားကိုးနိုင်ရုံမျှမက လူမှုလုပ်ငန်းများ ကျွမ်းကျင်မှု ရှိရမည့်အပြင် အခြားသူများအတွက် အသုံးကျသော နိုင်ငံသားကောင်းဖြစ်လာစေရန် ကြိုးပမ်းကြရသည်။ သဘာဝကိုလေ့လာလျက် လောကပတ်ဝန်းကျင်ကို စူးစမ်းတတ်ရသည်။ ကြင်နာစိတ်ကိုမွေးမြူကာ လူတိုင်းကို မိတ်ဆွေသင်္ဂဟအဖြစ် သဘောထားရသည်။ ယူနီဖောင်းဝတ်ဆင်ကြသော်လည်း လူမှုရေးလုပ်ငန်းများကို လုပ်ဆောင်ကြသူများဖြစ်သည်။ ကင်းထောက်လုပ်ငန်း၌ စိတ်ဓာတ်တက်ကြွစွာ ပါဝင်ဆောင်ရွက်စေရန်နှင့် ကင်းထောက်အဖွဲ့ကို စနစ်တကျဖွဲ့စည်းရန် ကင်းထောက်ယူနီဖောင်းကို တီထွင်သတ်မှတ်ထားသည်။ ကင်းထောက်တို့သည် ကာကီအင်္ကျီ၊ ကာကီရောင် သို့မဟုတ် အပြာရောင်ဘောင်ဘီတို၊ အဖွဲ့အလိုက် အရောင်အမျိုးမျိုးရှိသော လည်စည်း၊ ထိပ်တွင်ချိုင့်လေးခုပါဦးထုပ်တို့ကို ဝတ်ဆင်လျက် ဖလားဒါးလီးခေါ် သုံးရွက်မြွာပုံသဏ္ဌာန် ရှိကင်းထောက်တံဆိပ်ကိုဝတ်ဆင်ရသည်။ ယူနီဖောင်းမှာ နောင်တွင်မိမိတို့

အသင်းအဖွဲ့အလိုက် သတ်မှတ်ဝတ်ဆင်လာကြသည်။ ကင်းထောက်လူငယ်များသည် ကင်း ထောက်ဝတ်စုံကို ဝတ်ဆင်ကြသောအခါ စိတ်ဓာတ်အလွန်တက်ကြွလာကြကာ မြင့်မြတ်သောသောစိတ်ထားကို မွေးမြူလာကြသည်။ ထို့ပြင် ကင်းထောက်လုပ်ငန်း၏ မူလအခြေခံသဘောတရားများနှင့် ညီညွတ်စေရန် သဘာဝတရားကို လေ့လာခြင်း၊ တောတောင်ရေမြေတို့၏ အခြေအနေကို စူးစမ်းခြင်း၊ တောစခန်းထွက်ခြင်း၊ ခရီးသွားခြင်း၊ တောတွင်းခြေရာခံလိုက်ခြင်း၊ ရှေ့ဆောင်တီထွင်လုပ်ကိုင်ခြင်းစသော လုပ်ငန်းများကို လုပ်ဆောင်ကြရသည်။ ကင်းထောက်တို့၏ ဆောင်ပုဒ်မှာ "အစဉ်အသင့်" ဟူ၍ဖြစ်သည့်အတိုင်း မည်သည့်အရေးပေါ်ကိစ္စတာဝန်ကိုမဆို ဖြတ်ထိုးဉာဏ်ဖြင့် လျင်မြန်စွာ ဖြေရှင်းဆောင်ရွက်ကြရသည်။ "အစဉ်အသင့်"ဟူသည့် အင်္ဂလိပ်ဘာသာ "Be prepared"ကို မြန်မာမှုပြုထားခြင်းဖြစ်သည်။

ကင်းထောက်လုလင်တို့သည် သစ္စာအဓိဋ္ဌာန် သုံးချက်ဖြစ်သော တိုင်းပြည် နှင့် အမျိုးဘာသာ သာသနာကို စောင့်ရှောက်ရန်၊ သူတစ်ပါးကို အမြဲကူညီ ရန်နှင့် ကင်း ထောက်ကျင့်ဝတ်စည်းကမ်းတို့ကိုလိုက်နာရန် သစ္စာပြုရပါသည်။ ကျင့်ဝတ်စည်းကမ်း ၁၀ ချက်မှာ ယုံကြည်ခံထိုက်ခြင်း၊ သစ္စာရှိခြင်း၊ ကူညီခြင်း၊ ခင်မင်ခြင်း၊ ယဉ်ကျေးခြင်း၊ ကြင်နာခြင်း၊ အမိန့်နာခံခြင်း၊ ပျူငှာခြင်း၊ ခြိုးခြံချွေတာခြင်းနှင့် ရဲရင့်ခြင်း တို့ဖြစ်သည်။ အမေရိကန်တို့က သန့်ရှင်းခြင်းနှင့် ရိုသေလေးစားခြင်းတို့ကို ထပ်တိုးထားပါသည်။ ကင်းထောက် ဆောင်ပုဒ်မှာ အစဉ်အသင့် (Be Prepared) ဖြစ်ပြီး၊ ကြွေးကြော်သံ (Slogan) မှာ နေ့စဉ်ပြုဖွယ် တစ်ခု ကောင်းစွာပြုရန် (One good turn a day) ဖြစ်ပါသည်။

၂၀၁၄ ခုနှစ် ဇူလိုင်လတွင် ဟောင်ကောင်၌ ကျင်းပခဲ့သည့် (၃၅) ကြိမ်မြောက် ကမ္ဘာ့အမျိုးသမီးညီလာခံတွင် မြန်မာနိုင်ငံအား ကမ္ဘာ့ကင်းထောက်အဖွဲ့ဝင်အဖြစ် လက်ခံခဲ့ပါသည်။ ကမ္ဘာ့အမျိုးသမီးကင်းထောက်အဖွဲ့ကို ကမ္ဘာ့ဒေသကြီးငါးခု ဖြစ်သည့် အာဖရိက၊ အာရပ်၊ အာရှ-ပစိဖိတ်၊ ဥရောပနှင့် Western Hemisphereဒေသတို့ဖြင့် ဖွဲ့စည်းထားသည်။

ထိုသို့ လက်ခံနိုင်ရေးအတွက် မြန်မာအမျိုးသမီး ကင်းထောက်များအား ကမ္ဘာ့ ကင်းထောက်အဖွဲ့က မြန်မာနိုင်ငံသို့ လာရောက်၍ အကဲဖြတ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ခဲ့သည်။ (၃၅) ကြိမ်မြောက် ကမ္ဘာ့အမျိုးသမီးကင်းထောက်ညီလာခံ တွင် အဖွဲ့ဝင်နိုင်ငံသစ်အဖြစ် လျှောက်ထားခဲ့ကြသည့် နိုင်ငံသုံးနိုင်ငံမှာ တောင် ဆူဒန်၊ ဆွီဒင်နှင့် ကူရာကာအိုကျွန်းစုတို့ ဖြစ်ကြသည်။

## မြန်မာနိုင်ငံရှိ အာဆီယံအမွေအနှစ်ဆိုင်ရာ ဥယျာဉ်ခြောက်ခု

၁။ ခါကာဘိုရာဇီ အမျိုးသားဥယျာဉ်
၂။ အင်းတော်ကြီးတောရိုင်းတိရစ္ဆာန်ဘေးမဲ့တော
၃။ အလောင်းတော်ကဿပအမျိုးသားဥယျာဉ်
၄။ အင်းလေးကန်တောရိုင်းတိရစ္ဆာန်ဘေးမဲ့တော
၅။ မိန်းမလှကျွန်းတောရိုင်းတိရစ္ဆာန်ဘေးမဲ့တော
၆။ လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်

## နိုင်ငံတကာရေဝပ်ဒေသ ထိန်းသိမ်းရေးအဖွဲ့အစည်း (Ramsar Covention)၏ အသိအမှတ်ပြု မြန်မာ့ရေဝပ်ဒေသ (Ramsar Site)ငါးနေရာ

၁။ မိုးယွန်းကြီးအင်း တောရိုင်းတိရစ္ဆာန်ဘေးမဲ့တော(၂၀၁၄)
၂။ အင်းတော်ကြီးတောရိုင်းတိရစ္ဆာန်ဘေးမဲ့တော(၂၀၁၆)
၃။ မိန်းမလှကျွန်းတောရိုင်းတိရစ္ဆာန်ဘေးမဲ့တော(၂၀၁၇)
၄။ မုတ္တမပင်လယ်ကွေ့၏ မြောက်ဘက်ပိုင်းဒေသ(၂၀၁၇)
၅။ အင်းလေးကန်(၂၀၁၈)

## မြန်မာနိုင်ငံမှ ကမ္ဘာ့အမွေအနှစ် စာရင်းဝင်ဒေသများ

**ဟန်လင်း၊ ဗိဿနိုးနှင့် သရေခေတ္တရာမြို့ဟောင်း**

မြန်မာနိုင်ငံ ပျူရှေးဟောင်းသုံးမြို့အား ကမ္ဘာ့အမွေအနှစ်စာရင်းဝင်အဖြစ် ၂၀၁၄ ခုနှစ် ဇွန် ၂၂ ရက်တွင် ကာတာနိုင်ငံ ဒိုဟာမြို့၌ ကျင်းပသည့် (၃၈)ကြိမ် မြောက် ကမ္ဘာ့အမွေအနှစ် ကော်မတီအစည်းအဝေး 38th Session of the World Heritage Committee (Doha 2014) က အတည်ပြုသတ်မှတ်လိုက်ကြောင်း သိရသည်။

ဤကမ္ဘာ့အမွေအနှစ်အဖြစ် သတ်မှတ်ခံရမှုသည် မြန်မာနိုင်ငံအတွက် ပထမဆုံးအကြိမ် ကမ္ဘာ့အဆင့်သတ်မှတ်ခံရမှုဖြစ်ပြီး မြန်မာ့ယဉ်ကျေးမှု အဆင့်အတန်းမြင့်မားစွာ တည်ရှိမှုကို ကမ္ဘာကလက်ခံပြီး ထိန်းသိမ်းစောင့်ရှောက်မှုကို ကမ္ဘာ့အဆင့် သတ်မှတ်ချက်များနှင့်အညီ ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း သိရသည်။

မြန်မာနိုင်ငံအနေဖြင့် ၁၉၉၄ ခုနှစ်၊ အောက်တိုဘာ ၄ ရက်က ပျူမြို့ဟောင်းသုံးမြို့၊ မြောက်ဦး၊ ပြဒါးလင်းဂူ၊ အင်းလေးကန်၊ မင်းကွန်းဒေသ၊ မန္တလေး၊ အင်းဝ၊

ဟံသာဝတီဟူသည့် ရှေးဟောင်းနေရာဒေသရှစ်ခုအား အဆိုပြုအမွေအနှစ်အဖြစ် တင်သွင်းခဲ့သည်။

အဆိုပါ အဆိုပြုအမွေအနှစ် ရှစ်ခုအနက် မြို့ပြယဉ်ကျေးမှု အစောဆုံးထွန်းကားခဲ့ခြင်း၊ ထေရဝါဒဗုဒ္ဓဘာသာ အစောဆုံးထွန်းကားခဲ့သည့် ရှေးမြို့ဟောင်းအဖြစ် ထင်ရှားစွာ ကြွင်းကျန်နေခဲ့ခြင်း၊ ပုဂံခေတ်အားလက်ရာမြောက်မှု ယဉ်ကျေးမှုအဆင့်မြင့်မားမှုကို ပေါက်ဖွားလာအောင် မျိုးစေ့ချပေးခဲ့ခြင်းတို့၏ အကောင်းဆုံးပြယုဂ်ဖြစ်သော ဟန်လင်း၊ ဗိဿနိုး၊ သရေခေတ္တရာ ပျူမြို့ဟောင်းသုံးမြို့အား Serial Nomination အဖြစ် ကမ္ဘာ့အမွေအနှစ်စာရင်းတင်သွင်းရန် ၂၀၀၈ ခုနှစ်မှ စတင်ဆောင်ရွက်ခဲ့ပြီး ၂၀၁၁ ခုနှစ် ဇူလိုင်လတွင် UNESCO World Hertiage Center နှင့် ဆက်သွယ်ဆောင်ရွက်ခဲ့ကြောင်း သိရှိရသည်။

ပျူမြို့ဟောင်းသုံးမြို့သည် လွန်ခဲ့သည့်နှစ်ပေါင်း ၂၀၀၀ ကျော်က စတင်ဖွံ့ဖြိုးခဲ့သည့် မြန်မာနိုင်ငံ၏ အစောဆုံးမြို့ပြများဖြစ်ခြင်း၊ လွန်စွာရှေးကျပြီး ကြံ့ခိုင်မှုအားနည်းနေခြင်း၊ မြေပေါ်အမွေအနှစ်အထောက်အထားကြွင်းကျန်မှုနည်းပါးနေခြင်း၊ မြန်မာများပင်လျှင် ပျူခေတ်အမွေအနှစ်၏ အရေးပါမှုတန်ဖိုးရှိမှုကို ဂဃနဏသိသူ နည်းပါးခြင်းတို့ကြောင့် အမြန်ဆုံးကာကွယ်ထိန်းသိမ်းရန် လိုအပ်နေပြီဖြစ်သည့် ရှေးဟောင်းမြို့များဖြစ်ခြင်းတို့ကြောင့် ဦးစားပေး၍ ကမ္ဘာ့အမွေအနှစ်တင်သွင်းရန် ရွေးချယ်ခဲ့ခြင်းဖြစ်သည်။

ကမ္ဘာ့အမွေအနှစ်ကော်မတီသို့ တင်ပြခဲ့သော Nominational Dossier အား ICOMOS က စိစစ်ခဲ့ရာ အချို့အားနည်းချက်၊ ယူဆမှုမှားယွင်းမှုများကြောင့် Defes ဟု သတ်မှတ်ခဲ့ခြင်းဖြစ်သဖြင့် မြန်မာနိုင်ငံက ကမ္ဘာ့အမွေအနှစ်အဖွဲ့သို့ Pyu Com အနေဖြင့် ပြန်လည်ရှင်းလင်းတင်ပြခဲ့ခြင်း၊ ကမ္ဘာ့အမွေအနှစ် ကော်မတီဝင် ၂၁ နိုင်ငံနှင့်လည်း အပြန်အလှန်ဆွေးနွေးညှိနှိုင်းခဲ့ခြင်းတို့ကြောင့် ယခုအစည်းအဝေးတွင် UNESCO ၏အားပေးမှုနှင့် ကမ္ဘာ့အမွေအနှစ်ကော်မတီဝင် ၂၁ နိုင်ငံ၏ ထောက်ခံမှုများကြောင့် ကမ္ဘာ့အမွေအနှစ်စာရင်းဝင်အဖြစ် သတ်မှတ်အတည်ပြုနိုင်ခဲ့ခြင်းဖြစ်ကြောင်း သိရသည်။ UNESCO ၏ ထုတ်ပြန်ချက်တွင် ဟန်လင်း၊ ဗိဿနိုးနှင့် သရေခေတ္တရာတို့သည် လွန်ခဲ့သောနှစ် ၂၀၀၀ ကျော်မှစတင်၍ အရှေ့တောင်အာရှဒေသအတွင်း ဗုဒ္ဓဘာသာပျံ့နှံ့ခဲ့သည်ကို သက်သေပြလျက်ရှိကြောင်း၊ ထို့အပြင် ယင်းမြို့ဟောင်းများသည် စီးပွားရေး၊ လူမှုရေး မြို့တော်များ ဖြစ်ခဲ့ကြောင်း၊ အဆိုပါခေတ်များအတွင်း ဆန်းသစ်သော နည်းပညာများဖြစ်သည့် အရင်းအမြစ်စီမံခန့်ခွဲမှု၊ အရည်ဖိအားသုံး အတတ်ပညာ၊ စိုက်ပျိုးရေးပညာ၊ အုတ်ဖုတ်ပညာနှင့် ပန်းပဲဆိုင်ရာ အတတ်ပညာတို့ဖြင့် တီထွင်ဆန်းသစ်မှုများ ပြုလုပ်နိုင်ခဲ့ကြောင်း၊ ကောင်းမွန်သော မြို့ပြစီမံကိန်းနှင့် အဆောက်အအုံဆောက်လုပ်ခြင်းတို့သည် အရှေ့တောင်အာရှ

ဒေသအတွင်း စံပြအဖြစ် ရပ်တည်နိုင်ခဲ့ကြောင်း၊ မြန်မာနိုင်ငံယဉ်ကျေးမှုဝန်ကြီးဌာနသည် အီတလီ ငွေကြေးထောက်ပံ့သော စီမံကိန်းတစ်ခုမှတစ်ဆင့် ယူနက်စကို၏ ထောက်ပံ့ကူညီမှုရယူပြီး ယခုကဲ့သို့ ရှေးဟောင်းအမွေအနှစ်စာရင်းဝင်အောင် ဆောင်ရွက်နိုင်ခဲ့ခြင်း ဖြစ်ပါသည်။

ပုဂံမြို့ဟောင်း

မြန်မာနိုင်ငံ၏ ရှေးအကျဆုံးမြို့တော်များအနက်မှ တစ်ခုဖြစ်သော ပုဂံမြို့ကို ကမ္ဘာ့ကုလသမဂ္ဂပညာရေး၊ သိပ္ပံနှင့် ယဉ်ကျေးမှုဆိုင်ရာအဖွဲ့ (UNESCO) မှ မြန်မာ့ဘုရားပုထိုးမြို့တော်ပုဂံကို ကမ္ဘာ့အမွေအနှစ်ဝင်ဒေသတစ်ခုအဖြစ် ၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ၆ ရက်တွင် စာရင်းသွင်းဖော်ပြခဲ့ပါသည်။

အဇာဘိုင်ဂျန်နိုင်ငံ၊ ဘာကူမြို့၌ ကျင်းပပြုလုပ်သော (၄၃)ကြိမ်မြောက် ကမ္ဘာ့အမွေအနှစ်ကော်မတီညီလာခံ အစည်းအဝေး၌ The International Council on Monuments and Sites (ICOMOS) ၏ ထောက်ခံမှုဖြင့် ပုဂံယဉ်ကျေးမှု အမွေအနှစ်ဒေသအား ကမ္ဘာ့အမွေအနှစ်စာရင်းဝင်ဒေသအဖြစ် တင်သွင်းနိုင်ရန် ဆွေးနွေးရာတွင် UNESCO မှ သဘောတူကြေညာချက်ထုတ်ပြန်လိုက်ခြင်း ဖြစ်ပါသည်။

၁၉၉၅ ခုနှစ်တွင် ပုဂံကို ကမ္ဘာ့အမွေအနှစ်ဝင်ဒေသတစ်ခုအဖြစ် စာရင်းသွင်းနိုင်ရန် ပထမဆုံးအကြိမ်အဖြစ် ကြိုးပမ်းဆောင်ရွက်ခဲ့ကြသော်လည်း ယင်းအဆိုပြုချက်ကို ပယ်ချခြင်းခံခဲ့ရသည်။

၂၀၁၄ ခုနှစ်၊ ဇွန်လ ၂၂ ရက်တွင် ကျင်းပပြုလုပ်ခဲ့သော (၃၈)ကြိမ်မြောက် ကမ္ဘာ့အမွေအနှစ်ကော်မတီညီလာခံ အစည်းအဝေး၌ စာရင်းသွင်းဖော်ပြခြင်း ခံခဲ့ရသော ပျူရှေးဟောင်းမြို့တော်များဖြစ်သည့် ဟန်လင်း၊ ဗိဿနိုး၊ သရေခေတ္တရာမြို့များနောက်ပိုင်း ပုဂံသည် မြန်မာနိုင်ငံ၏ ဒုတိယမြောက် ကမ္ဘာ့အမွေအနှစ်ဝင်ဒေသဖြစ်လာခဲ့ပါသည်။ ပုဂံမြို့တော်၌ ၉ ရာစုနှောင်းပိုင်း သန့်ရှင်းမွန်မြတ်သော ရှေးဟောင်းဘုရားပုထိုးများ ၂၀၀၀ ကျော်ခန့် ကိန်းဝပ်သပ္ပာယ်နေကြောင်းကို ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန၏ ဖော်ပြချက်အရ သိရှိရသည်။

## မြန်မာနိုင်ငံ၏ ကမ္ဘာ့မှတ်တမ်းအမွေအနှစ်လေးခု

၁။ မဟာလောကမာရဇိန် ကုသိုလ်တော်ကျောက်စာ(ပိဋကတ်သုံးပုံကျောက်စာ ၇၂၉ ချပ်) ၂၀၁၃ ခုနှစ်

၂။ အလောင်းမင်းတရား ရွှေပေလွှာ (၂၀၁၅ ခုနှစ်)

၃။ ရာဇကုမာရ်ကျောက်စာ (မြစေတီကျောက်စာ) (၂၀၁၅ ခုနှစ်)

၄။ ဘုရင့်နောင်မင်း ခေါင်းလောင်းတော် (၂၀၁၇ ခုနှစ်)

## မြန်မာနိုင်ငံတွင် ပထမဆုံးယူနက်စကို၏ ဇီဝအဝန်းနယ်မြေဖြစ်လာသည့် အင်းလေးကန်ဒေသ

ပြင်သစ်နိုင်ငံ ပါရီမြို့တွင် ၂၀၁၅ ခုနှစ် ဇွန် ၈ ရက်မှ ၁၂ ရက်အထိ ကျင်းပလျက်ရှိသည့် (၂၇)ကြိမ်မြောက် ကုလသမဂ္ဂပညာရေး၊ လူမှုရေးနှင့် ယဉ်ကျေးမှုဆိုင်ရာအဖွဲ့(ယူနက်စကို)၏ လူသားနှင့်ဇီဝအဝန်းနယ်မြေ အပြည်ပြည်ဆိုင်ရာပူးပေါင်းဆောင်ရွက်မှု ကောင်စီအစည်းအဝေး၌ ရှမ်းပြည်နယ် တောင်ကြီးခရိုင်ညောင်ရွှေမြို့နယ်ရှိ အင်းလေးကန်ဒေသကို မြန်မာနိုင်ငံ၏ ပထမဆုံးဇီဝအဝန်းနယ်မြေ (Biosphere Reserve)အဖြစ် သတ်မှတ်ခဲ့ကြောင်းသိရသည်။

အင်းလေးကန်ဒေသသည် မြန်မာနိုင်ငံရှိ သဘာဝကုန်းတွင်းရေကန်များအနက် ဒုတိယအကြီးဆုံးကန်လည်းဖြစ်သည်။ အင်းလေးကန်၏ မူလရေပြင်နယ်နိမိတ်မှာ တဖြည်းဖြည်း ရေပြင်ဧရိယာကျဉ်းမြောင်းလာပြီး ရေတိမ်ကောမှု၊ နုန်းပို့ချမှု၊ ရာသီဥတုဖောက်ပြန်မှု၊ လူဦးရေတိုးပွားနေထိုင်လာမှုနှင့် ရေဝေရေလဲဒေသများတွင် သစ်တောပြုန်းတီးမှုများကြောင့် အင်းလေကန်ထိန်းသိမ်းရေးလုပ်ငန်းများကို ၂၀၁၀ ခုနှစ်မှ စတင်ကာ စီမံချက်များ ချမှတ်ဆောင်ရွက်ခဲ့သည်။

အင်းလေးကန်သည် ရှမ်းပြည်နယ်(တောင်ပိုင်း) တောင်ကြီးခရိုင် ညောင်ရွှေမြို့နယ်တွင် တည်ရှိပြီး အလျား ၂၂ ကီလိုမီတာ၊ အနံ ၁၁ ကီလိုမီတာခန့် ကျယ်ဝန်းပြီး ပင်လယ်ရေမျက်နှာပြင်အထက် ကီလိုမီတာ ၁၅၀၀ ခန့်တွင် တည်ရှိနေသည့် ကုန်းတွင်း ရေချိုအိုင်ဖြစ်သည်။ အင်းလေးကန်အတွင်းသို့ တာယောချောင်း၊ သန်းတောင် ချောင်း၊ အင်းတိမ်ချောင်း၊ သလဲဦးချောင်းတို့ စီးဝင်ပြီး တောင်ဘက်ရှိ ကယား ပြည်နယ်သို့ ဘီလူးချောင်းအဖြစ် စီးဝင်ခြင်းဖြစ်သည်။

အင်းလေးကန်ဒေသ၏ ဇီဝအဝန်းနယ်မြေအဖြစ် ဧရိယာဟက်တာ ၄၈၉၇၂၁ ကို လွှမ်းခြုံမှုရှိပြီး ငှက်မျိုးစိတ် ၂၇၀၊ ငါး ၄၃ မျိုး၊ လိပ်သုံးမျိုး၊ လိပ်ပြာ ၉၄ မျိုး၊ ကုန်းနေရေနေသတ္တဝါ ၃၄ မျိုး ကျက်စားနေထိုင်လျက်ရှိပြီး ဆေးဖက်ဝင်အပင် ၅၂၇ မျိုးနှင့် သစ်ခွ ၁၃၅ မျိုးတို့ ရှင်သန်ပေါက်ရောက်လျက်ရှိရာ ဒေသလည်းဖြစ်သည်။

ယူနက်စကို၏ လူသားနှင့် ဇီဝအဝန်းနယ်မြေ အစီအစဉ်ကို ၁၉၇၂ ခုနှစ် တွင် စတင်ခဲ့ပြီး ကမ္ဘာလုံးဆိုင်ရာ လူသားနှင့်ဇီဝအဝန်း ကွန်ရက်ကို လူသားနှင့် သဘာဝပတ်ဝန်းကျင်တို့အကြား ဆက်နွှယ်မှုပိုမိုတိုးတက်လာစေရန် ရည်ရွယ်၍ ၁၉၇၆ ခုနှစ်တွင် စတင်အကောင်အထည်ဖော် ဆောင်ရွက်ခဲ့ခြင်းဖြစ်သည်။

ကမ္ဘာ့နိုင်ငံအသီးသီးရှိ သဘာဝပတ်ဝန်းကျင်နှင့် ဂေဟစနစ်များ၊ ဇီဝမျိုးစုံမျိုးကွဲများ သိရှိမှုအခြေအနေထူးခြားကောင်းမွန်သည့် နေရာဒေသများတွင် လူသား

များ၏ ယှဉ်တွဲနေထိုင်မှုနှင့်အတူ ထိန်းသိမ်းစောင့်ရှောက်ရေး၊ ဖွံ့ဖြိုးတိုးတက်ရေးနှင့် အုပ်ချုပ်ထောက်ပံ့ရေးဆိုင်ရာလုပ်ငန်းကြီး (၃)ရပ်တို့ကို ဟန်ချက်ညီစွာ ပေါင်းစပ်ဆောင်ရွက်နိုင်ရန် ဇီဝအဝန်းနယ်မြေ (Biosphere Reserve)များအဖြစ် သတ်မှတ်ထိန်းသိမ်းနိုင်ရန် ဆောင်ရွက်သည့် အစီအစဉ်လည်း ဖြစ်သည်။

ယင်းသို့ သတ်မှတ်နိုင်ခဲ့ခြင်းကြောင့် အင်းလေးကန်ဒေသ၏ ဇီဝမျိုးစုံမျိုးကွဲ ထိန်းသိမ်းခြင်း၊ ဒေသခံပြည်သူတို့၏ လူမှုစီးပွားရေးမြှင့်တင်ခြင်း၊ ဒေသတွင်းယဉ်ကျေးမှုအမွေအနှစ်များ ထိန်းသိမ်းခြင်း၊ လူသားနှင့် သဘာဝပတ်ဝန်းကျင်ဆက်နွှယ်မှု ညီညွတ်မျှတစွာ တိုးတက်လာစေရန် ထိန်းညှိစီမံအုပ်ချုပ်မည့်စနစ်များ ချမှတ်ဆောင်ရွက်စေခြင်းတို့ကို အရှိန်မြှင့်တင်ဆောင်ရွက်ရင်း မြန်မာနိုင်ငံတွင် ပထမဆုံး ယူနက်စကို၏ ဇီဝအဝန်းနယ်မြေသစ်ဖြစ်လာသည်။

**ဇီဝအဝန်းနယ်မြေနှင့် ရမ်ဆာရေဝပ်ဒေသအဖြစ် အင်းတော်ကြီးကန်ဒေသအား သတ်မှတ်**

ပြင်သစ်နိုင်ငံ ပါရီမြို့ယူနက်စကို အဖွဲ့ချုပ်ရုံး၌ ၂၀၁၇ ခုနှစ် ဇွန် ၁၂ ရက်မှ ၁၅ ရက်အထိ ကျင်းပသည့် ၂၉ ကြိမ်မြောက် လူသားနှင့် ဇီဝအဝန်းနယ်မြေ နိုင်ငံ တကာ ပူးပေါင်းဆောင်ရွက်ရေး ကော်မတီအစည်းဝေးတွင် ကချင်ပြည်နယ်အတွင်းရှိ အင်းတော်ကြီးကန်ဒေသအား ယူနက်စကိုအဖွဲ့ကြီး၏ လူသားနှင့် ဇီဝအဝန်းနယ်မြေ အစီအစဉ် (UNESCO Man and the Biosphere Reserve Programme– MAB) အောက်ရှိ ကမ္ဘာ့ဇီဝအဝန်းနယ်မြေများကွန်ရက်အတွင်း ပါဝင်သည့် ဇီဝအဝန်းနယ်မြေ တစ်ခုအဖြစ် အတည်ပြုသတ်မှတ်ခဲ့သည်။

အင်းတော်ကြီးကန်သည် ထူးခြားသည့် ဂေဟနစ်များနှင့် ဇီဝမျိုးစုံမျိုးကွဲ ကြွယ်ဝမှုတို့ကြောင့် ၂၀၀၃ ခုနှစ်တွင် အာဆီယံအမွေအနှစ်ဥယျာဉ်တစ်ခုအဖြစ်လည်းကောင်း၊ ကမ္ဘာ့အဆင့်အရေးပါသည့် ငှက်မျိုးစိတ်များကြွယ်ဝမှုနှင့် အခြားထူးခြားသည့် ရေဝပ်ဒေသအင်္ဂါရပ်များ ရှိခြင်းတို့ကြောင့် ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်နေ့တွင် ရမ်ဆာရေဝပ်ဒေသ (Ramsar Site) အဖြစ်လည်းကောင်း သတ်မှတ်ခံခဲ့ရသည်။

**ကမ္ဘာ့အကြီးဆုံး ရုပ်တော်မူဘုရားဖြစ်သည့် လေးကျွန်းစကြာရုပ်တော်မူ မြတ်စွာဘုရားကြီး**

မုံရွာမြို့နယ် ခတက္ကန်တောင်ရွာ၊ မဟာဗောဓိတစ်ထောင်ကျောင်းတိုက်ရှိ လေးကျွန်းစကြာရုပ်တော်မူ မြတ်စွာဘုရားကြီးသည် အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ ပထမမဟာဗောဓိတထောင် ဆရာတော်ဘုရားကြီး ဘဒ္ဒန္တနာရဒ ဆရာတော်တည်ထား

ပူဇော်ခဲ့ပြီး ဥဘဏ်တော် ၄၂၄ ပေမြင့်သည့် ကမ္ဘာ့အကြီးဆုံးရပ်တော်မူ ဘုရားကြီး ဖြစ်သည်။

အထပ်ပေါင်း ၃၃ ထပ်ဖြင့် တည်ဆောက်ထားရှိပြီး အောက်ဆုံးထပ်တွင် ဆရာတော်ဘုရားကြီး၏ ပုံတော်ကို ပတ္တမြားရတနာတို့ဖြင့် စီခြယ်ပေးထားသည်။ ရပ်တော်မူဘုရားကြီးတွင် ၃၁ ဘုံကို အစဉ်အတိုင်းထားရှိတော်မူပြီး အပါယ်လေးဘုံ၊ လူ့ဘုံ၊ နတ်ပြည်ခြောက်ထပ်၊ ဗြဟ္မာ့ဘုံနှစ်ဆယ်တို့ကို ပန်းချီဆေးရေးတို့ဖြင့် ခြယ်မှုန်း ပူဇော်ထားသည်။

## ကမ္ဘာ့အကြီးဆုံးလျောင်းတော်မူဘုရားကြီး

မြန်မာနိုင်ငံ မုဒုံမြို့ ဝင်းစိန်တောရကျောင်းရှိ ကမ္ဘာ့အကြီးဆုံး လျောင်းတော်မူ ဘုရားကြီးကို ၁၉၉၃ ခုနှစ် မတ်လက လုပ်ငန်းစတင်ခဲ့ပြီး ၂၀၁၁ ခုနှစ်က ပြီးစီးခဲ့ကာ အလျားအားဖြင့် ပေ ၆၀၀ ရှိကြောင်း၊ လျောင်းတော်မူဘုရားကြီး၏ အတွင်းပိုင်း၌ အခန်းပေါင်းများစွာ ပါဝင်ပြီး အချို့ပန်းချီလက်ရာများနှင့် ပန်းပုလက်ရာများမှာ ဗုဒ္ဓဝင်အကြောင်းအရာများကို ခြယ်မှုန်းထားခြင်းဖြစ်ပါသည်။

## သမိုင်းအတွက် အရေးကြီးဆုံးနေရာဖြစ်သည့် ဝန်ကြီးများရုံး (အတွင်းဝန်ရုံး)

ရန်ကုန်မြို့၊ ဗိုလ်တထောင်မြို့နယ်၊ သိမ်ဖြူလမ်းရှိ ဝန်ကြီးများရုံး (အတွင်းဝန် ရုံး)ကို ၁၉၀၅ ခုနှစ်က မြန်မာကျပ်ငွေ ၂ ဒသမ ၅ သန်းဖြင့် အကုန်အကျခံ တည် ဆောက်ခဲ့ပြီး ၂၀ ရာစုအစောပိုင်း မြို့ပြအခင်းအကျင်းကို အာရှတိုက်အတွင်း မပျက် မယွင်း တွေ့မြင်နိုင်သေးသော မြို့ပြရှုခင်းကို ပိုင်ဆိုင်ရာ ရန်ကုန်၏ သမိုင်းဝင် မြို့လယ်ဇရိယာအတွင်းတည်ရှိသည့် မြန်မာနိုင်ငံ၏ အရေးအကြီးဆုံးသော မြို့ပြ အဆောက်အအုံတစ်လုံးဖြစ်သည်။

ထို့ပြင် လွတ်လပ်သော ဒီမိုကရေစီနိုင်ငံတစ်ခုအဖြစ် ပေါ်ပေါက်လာရေးအတွက် ဒုတိယကမ္ဘာစစ်အပြီး၌ နိုင်ငံ့ခေါင်းဆောင်များ ကြိုးပမ်းအားထုတ်ခဲ့ကြသည့် နေရာ၊ ဒီမိုကရက်တစ်မြန်မာလူ့ဘောင်အတွက် ဖွဲ့စည်းပုံအခြေခံဥပဒေစတင်ရေးဆွဲရာ နေရာ၊ မြန်မာ့ပထမဆုံး တိုင်းပြုပြည်ပြုလွှတ်တော်ကျင်းပခဲ့ရာနေရာ၊ ၂၀ ရာစုအစပိုင်း တွင် ရွေးကောက်ခံ အစိုးရအဖွဲ့စတင်ရုပ်လုံးပေါ်ခဲ့ရာနေရာ၊ ၁၉၄၇ ခုနှစ်တွင် နိုင်ငံ့ ခေါင်းဆောင်ကြီးများလုပ်ကြံခံရသည့်နေရာ၊ ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်တွင် အင်္ဂလိပ်အစိုးရထံမှ လွတ်လပ်ရေးကို ကြေညာရယူပေးခဲ့သည့်နေရာ၊ မြန်မာ့ လွတ်လပ်ရေးကို ဦးဆုံးထုတ်ပြန်ကြေညာခဲ့ရာနေရာနှင့် လွတ်လပ်ပြီး ယဉ်ကျေးမှု

မျိုးစုံ ထွန်းကားရာ ဒီမိုကရေစီနိုင်ငံအဖြစ် မွေးဖွားပေးခဲ့ရာ အထင်ကရနေရာဖြစ်၍ မြန်မာနိုင်ငံ၏သမိုင်းတွင် အလွန်အရေးပါရာနေရာတစ်ခုလည်း ဖြစ်သည်။

၁၉၄၇ ခုနှစ်တွင် နိုင်ငံ့ခေါင်းဆောင်ကြီး လုပ်ကြံခံခဲ့ရသည့် အထိမ်းအမှတ်ကမ္ပည်းကျောက်တိုင်နှင့် ၁၉၄၈ ခုနှစ် မြန်မာနိုင်ငံလွတ်လပ်ရေးကို ဦးဆုံးထုတ်ပြန်ကြေညာခဲ့ရာ အလယ်ကွက်လပ်ရှိ အထိမ်းအမှတ်အလံတိုင်လည်း တည်ရှိပါသည်။ ဝန်ကြီးများရုံးသို့ ၁၄-၁၁-၂၀၁၄ ရက်နေ့တွင် အမေရိကန်သမ္မတအိုဘားမားမှ အဆောက်အအုံအား လှည့်ပတ်လေ့လာခဲ့ပါသည်။

## ရန်ကုန်မြို့ပြအမွေအနှစ်အဖြစ် အပြာရောင်ကမ္ပည်းပြားတပ်ဆင်မှုများ

အပြာရောင်ကမ္ပည်းပြားတပ်ဆင်ခြင်းသည် ရန်ကုန်မြို့ပြ အမွေအနှစ် ထိန်းသိမ်းစောင့်ရှောက်ရေးအဖွဲ့က လုပ်ဆောင်နေသည့် စီမံချက်တစ်ခုဖြစ်ပြီး ရန်ကုန်မြို့ပြသမိုင်းကြောင်းတွင် အရေးပါခဲ့သည့် အဆောက်အအုံနှင့် လူပုဂ္ဂိုလ်များကို အထိမ်းအမှတ်ပြုရန် ရည်ရွယ်ခြင်းဖြစ်ပါသည်။ ယင်းအစီအစဉ်ကို အကောင်အထည်ဖော်ရန်အတွက် Royal Phillips Corporation မှ အမေရိကန် ဒေါ်လာ ၇၅၀၀၀ ကို ထောက်ပံ့ပေးထားခြင်းဖြစ်သည်။

ရန်ကုန်မြို့တော်အတွင်း သမိုင်းနှင့်ဆက်စပ်သော ရှေးဟောင်းအဆောက်အအုံများကို ရန်ကုန်မြို့ပြအမွေအနှစ် ထိန်းသိမ်းစောင့်ရှောက်ရေးအဖွဲ့က ယင်းအဆောက်အအုံ၏ သမိုင်းကြောင်းများ၊ အမည်များ၊ ထူးခြားဖြစ်စဉ်များကို အပြာရောင်ကမ္ပည်းပြားများပေါ်၌ မြန်မာ-အင်္ဂလိပ်နှစ်ဘာသာဖြင့် ရေးထိုးတပ်ဆင်ထားပြီး ပထမဆုံးကမ္ပည်းပြားကို ရန်ကုန်မြို့တော်ခန်းမ၌ ၈-၈-၂၀၁၄ ရက်နေ့က တပ်ဆင်ထားရှိသည်။ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ ထုတ်ပြန်ထားသည့် စာရင်းများအရ ရန်ကုန်မြို့တော် ရှေးဟောင်းအဆောက်အအုံပေါင်း ၁၈၉ လုံးရှိပြီး မြို့တော်ခန်းမ၌ ကမ္ပည်းတပ်ဆင်ခြင်းမှာ ပထမဆုံးဖြစ်သည်။

### မြို့တော်ခန်းမ (ပထမမြောက် ၈-၈-၂၀၁၄)

မြို့တော်ခန်းမအဆောက်အအုံသည် ၁၈၈၆ ခုနှစ်မှစ၍ မြူနီစီပါယ်အုပ်ချုပ်မှုရုံးစိုက်ရာနေရာဖြစ်ခဲ့ပြီး မူလအနောက်တိုင်းလက်ရာတွင် မြန်မာဗိသုကာဟန်ပေါင်းစပ်ဆောက်လုပ်ထားသည့် ပထမဆုံးမြို့ပြ အဆောက်အအုံဖြစ်ကာ ဗိသုကာပညာရှင်စည်သူဦးတင်ဦး၏ လက်ရာဖြစ်သည်။

ရန်ကုန်မြို့တော်ခန်းမအဆောက်အအုံသည် လုံလောက်သည့် သမိုင်းအချက်အလက်များရှိပြီး ဗိသုကာပိုင်းအရလည်း ထင်ရှားသောကြောင့် ရန်ကုန်မြို့တော်ခန်းမကို မြို့ပြအမွေအနှစ်အဖြစ် သတ်မှတ်ပေးလိုက်ခြင်းဖြစ်သည်။

**ရောဂတီဘဏ်(ဒုတိယမြောက် ၂၀၁၄)**

မြို့တော်ခန်းမနှင့်ကပ်လျက် ယခင်ရိုးကုမ္ပဏီ၊ ထို့နောက်သန်းခေါင်းစာရင်းရုံးချုပ်၊ မျက်မှောက်ခေတ်ရောဂတီဘဏ်ဖြစ်လာသည့် အဆောက်အအုံဖြစ်ပါသည်။ မူလ–ရိုးကုန်တိုက်(၁၉၀၈–၁၉၁၀)သည် အာရှတိုက်၏ အကြွယ်ဝဆုံးကုန်တိုက်များအနက် တစ်ခုဖြစ်ခဲ့သည်။ ၂၀၀၆ ခုနှစ်မတိုင်မီအထိ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဦးစီးရုံးအဖြစ်လည်း အသုံးပြုခဲ့သည်။

**အာမေးနီးယန်းဘုရားကျောင်း (တတိယမြောက် ၁–၁၀–၂၀၁၄)**

ရန်ကုန်မြို့ ဗိုလ်အောင်ကျော်လမ်းနှင့်ကုန်သည်လမ်းထောင့်ရှိ The Armenian Apostolic Church of St.John Baptist အာမေးနီးယန်းဘုရားကျောင်းကို ၁၈၆၂ ခုနှစ်တွင် တည်ဆောက်ခဲ့ခြင်းဖြစ်ပြီး ရန်ကုန်မြို့၌ အာမေးနီးယန်းလူမျိုးများ၏ နောက်ဆုံးကျန်ရှိသော နှစ်ပေါင်း ၁၅၀ ကျော်ကြာ သမိုင်းဝင်အမွေအနှစ် အဆောက်အအုံတစ်ခုအဖြစ် မှတ်တမ်းတင်ရေးထိုးနိုင်ခဲ့ပြီဖြစ်သည်။

**ရန်ကုန်ဗဟိုမီးသတ်မျှော်စင် (စတုတ္ထမြောက် ၁၆–၁၀–၂၀၁၄)**

၁၉၁၂ ခုနှစ်က တည်ဆောက်ပြီးစီးခဲ့သော ရန်ကုန်ဗဟိုမီးသတ်မျှော်စင်နှင့် အတူရှိသော မီးသတ်အဆောက်အအုံကြီးအား ရန်ကုန်မြို့ပြအမွေအနှစ် ထိန်းသိမ်းစောင့်ရှောက်ရေးအဖွဲ့(YHT)က စတုတ္ထမြောက်အပြာရောင်ကမ္ပည်းဆိုင်းဘုတ်တပ်ဆင်ခြင်း အခမ်းအနားကို အောက်တိုဘာ ၁၆ ရက်က ကျောက်တံတားမြို့နယ် ဆူးလေဘုရားလမ်းရှိ ဗဟိုမီးသတ်မျှော်စင် မျက်နှာစာ၌ ကျင်းပခဲ့သည်။

ရန်ကုန်မြို့၏ ပထမဆုံးမီးသတ်တပ်ဖွဲ့ကို ၁၈၈၃ ခုနှစ်တွင် စတင်ဖွဲ့စည်းခဲ့သည်။ ယခင်က မီးငြိမ်းသတ်ရာတွင် လူအားဖြင့် ရေငင်ငြိမ်းသတ်ခဲ့ရာမှ မြင်းဖြင့်ဆွဲသော ရေနွေးငွေ့သုံးအင်ဂျင်ဖြင့် မီးငြိမ်းသတ်သည့်စနစ်ကို ထိုနှစ်မှာပင် ပြောင်းလဲအသုံးပြုခဲ့သည်။ ၁၈၉၀ ပြည့်နှောင်းပိုင်းတွင် ရေပေးဝေမှု ပိုမိုကောင်းမွန်လာပြီး အုတ်အဆောက်အအုံများ ပေါ်ပေါက်လာခြင်းကြောင့်လည်း မီးလောင်မှုများ လျော့ကျခဲ့သည်။

ဗိသုကာလက်ရာကောင်းတစ်ခုဖြစ်ပြီး ပေ ၁၀၀ မြင့် မျှော်စင်ကြီးပါရှိသော

မီးသတ်အဆောက်အအုံကို ၁၉၁၂ ခုနှစ်က တည်ဆောက်ခဲ့ခြင်းဖြစ်ပြီး အက်ဒွပ်ခေတ် ဗိသုကာလက်ရာဖြစ်သည်။ ထိုမျှော်စင်သည် သုံးထပ်အဆောက်အအုံတစ်ခုဖြစ်သည်။ ရန်ကုန်မြို့တွင် မူလအသုံးပြုသည့်ပုံစံအတိုင်း ဆက်လက်အသုံးပြုနေခြင်းဖြစ်ပြီး သက်တမ်းအားဖြင့် ၁၀၂ နှစ်ရှိခဲ့ပြီဖြစ်သည်။

**ရန်ကုန်စာတိုက်ကြီး (ပဥ္စမမြောက် ၂၉-၅-၂၀၁၅)**

လူသားတို့၏ သမိုင်းအဆင့်ဆင့် ပြောင်းလဲတိုးတက်လာပြီးနောက် မြန်မာနိုင်ငံတွင်လည်း ဗြိတိသျှကိုလိုနီ၏ ပထမကျူးကျော်စစ်ကာလ ၁၈၂၇ ခုနှစ်တွင် ပထမဆုံးစာတိုက်ကို စစ်တွေမြို့တွင် ဖွင့်လှစ်နိုင်ခဲ့သည်။ အဓိကဆက်သွယ်ရေးမှာ အင်္ဂလိပ်တို့ သိမ်းပိုက်ထားသည့် မြန်မာနိုင်ငံတောင်ပိုင်းစွန်းနှင့် ကိုလိုနီနိုင်ငံများအချင်းချင်း ပေးပို့နိုင်ရန်အတွက် ရည်ရွယ်ခဲ့ပုံရသည်။ ထို့နောက် ၁၈၅၂ ခုနှစ်သို့ ရောက်သောအခါ မြန်မာနိုင်ငံ၏ ဒုတိယမြောက်စာတိုက်ဖြစ်သော ပဲခူးစာတိုက်ကို အင်္ဂလိပ်တို့က ဖွင့်လှစ်ခဲ့ပြီး ၁၈၅၄ ခုနှစ်တွင် ကမ်းနားလမ်းနှင့် ၃၂ လမ်းထောင့်တွင် ရန်ကုန်စာတိုက်ကြီးကို စတင်ဖွင့်လှစ်နိုင်ခဲ့သည်။

အရှေ့တိုင်းသားတို့အကြိုက် စုလစ်မွမ်းချွန်များကို သံတို့ဖြင့်တန်ဆာဆင်ထားပြီး အနုသုခုမလက်ရာမြောက် ရန်ကုန်စာတိုက်ကြီးမှာ ၁၉၃၀ ပြည့်နှစ်တွင် ငလျင်ဒဏ်ကို ပြင်းထန်စွာခံစားခဲ့ရပြီးနောက် ယခုလက်ရှိဗိုလ်အောင်ကျော်လမ်းနှင့် ကမ်းနား လမ်းထောင့်တွင်ရှိသည့် Bulloch Brothers & Co ကုန်သွယ်လုပ်ငန်းရုံးနေရာတွင် ယနေ့မြင်တွေ့နေရသည့် ရန်ကုန်စာတိုက်ကြီးကို ၁၉၃၀ ပြည့်လွန်နှစ်တွင် ပြန်လည် ဖွင့်လှစ်ထားခဲ့ခြင်းဖြစ်သည်။

ရန်ကုန်စာတိုက်ကြီးသည် ကမ်းနားလမ်းနှင့် ဗိုလ်အောင်ကျော်လမ်းထောင့်တွင် တည်ရှိပြီး ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ ရှေးဟောင်းအမွေအနှစ် အဆောက်အအုံများစာရင်းဝင် အဆောက်အအုံတစ်ခုလည်းဖြစ်သည်။

**၈၅ နှစ်သက်တမ်းရှိ မြန်မာ့လယ်ယာဖွံ့ဖြိုးရေးဘဏ် (ဆဋ္ဌမမြောက် ၁၇-၆-၂၀၁၅)**

ကိုလိုနီခေတ် ထင်ရှားသည့်ဘဏ်များအနက် ရန်ကုန်မြို့ပန်းဆိုးတန်းလမ်းမကြီး၏ အောက်ဆုံးဘလောက်တွင် ဗိသုကာလက်ရာများဖြင့် ခမ်းနားစွာတည်ဆောက်ထားသော ဂရင်းဒလေဘဏ်သည်လည်း တစ်ခုအပါအဝင်ဖြစ်သည်။

အဆိုပါ အဆောက်အအုံသည် ဂရင်းဒလေဘဏ်၏ ရန်ကုန်ဘဏ်ခွဲဖြစ်ပြီး ကိုလိုနီခေတ်တွင် မြန်မာအပါအဝင် ဗြိတိသျှ-အိန္ဒိယတို့တွင် ယင်းဘဏ်မှာ အကြီးဆုံးဘဏ်ကြီးတစ်ခု ဖြစ်ခဲ့သည်။ အောင်မြင်သောစီးပွားရေးလုပ်ငန်းတစ်ခုဖြစ်ခြင်း

ကြောင့် ဆန်းသစ်သည့် ကိုလိုနီခေတ် ဗိသုကာလက်ရာများကို မြင်တွေ့ရပြီး အပြောက်အမွမ်းများဖြင့် လက်ရာမြောက်တည်ဆောက်ထားခဲ့ခြင်းဖြစ်ကြောင်း ရန်ကုန်မြို့ပြအမွေအနှစ်ထိန်းသိမ်းစောင့်ရှောက်ရေးအဖွဲ့မှမှတ်တမ်းတင်ထားသည်။

၁၉၉၆ ခုနှစ်တွင် နဂိုမူလရည်ရွယ်ရင်းဖြစ်သည့် ဘဏ်အဖြစ်သို့ ပြန်လည်အသုံးပြုပြီး မြန်မာ့စက်မှုလက်မှုဖွံ့ဖြိုးရေးဘဏ်နှင့်မြန်မာ့လယ်ယာဖွံ့ဖြိုးရေးဘဏ် အဖြစ်လည်းကောင်း၊ လက်ရှိတွင် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန လက်အောက်ရှိ မြန်မာ့လယ်ယာဖွံ့ဖြိုးရေးဘဏ်အဖြစ်လည်းကောင်း အသုံးပြုလျက်ရှိသည်။

**နှစ်ပေါင်း ၁၀၀ ကျော်သက်တမ်းရှိ ဗဟိုပုံနှိပ်စက်ရုံ (သတ္တမမြောက် ၉-၈-၂၀၁၅)**

စကော့လူမျိုး ဗိသုကာ ဂျွန်ဘော့ဂ်ဒီဇိုင်းရေးဆွဲခဲ့ကာ ၁၉၁၉ ခုနှစ်က စတင်တည်ဆောက်ခဲ့ပြီး ၁၉၂၂ ခုနှစ်တွင် ပြီးစီးခဲ့သည့် ဗြိတိသျှအစိုးရ၏ သန်းခေါင်စာရင်းနှင့် ပြန်တမ်းများကို ပုံနှိပ်ခဲ့ရာ အဆောက်အအုံတစ်ခုဖြစ်သော ရန်ကုန်မြို့ ဗိုလ်တထောင် မြို့နယ် သိမ်ဖြူလမ်း အမှတ် ၂၂၈ ရှိ ယခုပြန်ကြားရေးဝန်ကြီးဌာန၏ ဗဟိုပုံနှိပ်စက်ရုံကို ရန်ကုန်မြို့ပြ အမွေအနှစ်အထိမ်းအမှတ် အပြာရောင်ကမ္ပည်း တပ်ဆင်ပေးခဲ့သည်။

အဆိုပါအဆောက်အအုံကို လွတ်လပ်ရေးရရှိပြီးအချိန်နှင့် ဆိုရှယ်လစ်ခေတ်တို့တွင် ဗဟိုပုံနှိပ်စက်ရုံအဖြစ် ထပ်မံတိုးချဲ့ခဲ့ပြီး ဝန်ကြီးဌာနများ၊ ဘုတ်အဖွဲ့များနှင့် ကော်ပိုရေးရှင်းများက မှာယူသည့်စာအုပ်၊ စာတမ်းလိုအပ်ချက်များကို ပြည့်မီအောင် ရိုက်နှိပ်ပေးခဲ့သည်။ ပုံနှိပ်ရေးနှင့်စာအုပ်ထုတ်ဝေရေးလုပ်ငန်း ဖွဲ့စည်းပြီးနောက် ခေတ်မီပုံနှိပ်စက်များမှာယူ၍ ယနေ့တိုင် ပုံနှိပ်ထုတ်ဝေလျက်ရှိသော်လည်း မူလလက်ရာမပျက် အခိုင်အခံ့ တည်ရှိနေဆဲ အဆောက်အအုံတစ်ခု ဖြစ်သည်။

**လောကနတ်အဆောက်အအုံ (အဋ္ဌမမြောက် ၁၈-၉-၂၀၁၅)**

ရန်ကုန်မြို့သူ မြို့သားများအားလုံးအခေါ်အရ လောကနတ်အဆောက်အအုံဟု သိရှိရပြီး လွန်ခဲ့သည့် ရာစုတစ်ခုတွင်မူ ယင်းအဆောက်အအုံကို ဆိုဖဲရ်ဟု ခေါ်ဝေါ်ခဲ့ကြသည်။

ဖော်ရိန်းမိတ်ဟု အလွယ်တကူခေါ်ဝေါ်ခဲ့ကြသည့် အချိန်ကာလတွင် ကိုလိုနီခေတ် မတိုင်မီကာလတွင် အလွန်ရေပန်းစားခဲ့ပြီး ကိုလိုနီခေတ်အရောက် လူတန်းစားခွဲခြားမှုများသည် ပိုမိုခေတ်စားလာခဲ့ရာတွင် ပြယုဂ်တစ်ခုအဖြစ် ယင်းအဆောက်အအုံကြီးတွင် သံဝေဂရစရာများစွာကို တွေ့ရှိရသည်။

နှစ်ပေါင်း ၁၀၀ ကျော်က မန်ချက်စတာမြို့မှ တင်သွင်းမှာယူကာ ခင်းကျင်းထားသည့် ကြမ်းခင်းကျောက်ပြားများသည် ယနေ့မြင်တွေ့ရသည့် ခေတ်မီအဆောက်အအုံကြီးများမှ ကြမ်းခင်းများကဲ့သို့ တောက်ပြောင်မှုမရှိတော့သော်လည်း သမိုင်း၏ယဉ်ကျေးမှုတစ်ရပ်ကို ဖော်ညွှန်းနိုင်ခဲ့ပြီဖြစ်သည်။

ယင်းအဆောက်အအုံကို ၁၉၆၀ ခုနှစ်တွင် ဘဂ္ဂဒက်မြို့မှ ပြောင်းရွှေ့လာခဲ့သည့် ဂျူးလူမျိုးကုန်သည်အိုင်းဇက်ဆိုဖဲရ် ဒီဇိုင်းရေးဆွဲပေးခဲ့ပြီး ရန်ကုန်ရောက် ဗြိတိသျှနှင့် အနောက်တိုင်းသားများ၏ အဆောက်အအုံများတည်ဆောက်ခြင်း ဆိုင်ရာ လက်စွဲတော် နာမည်ကျော် ဗိသုကာပညာရှင် သောမတ်ဆွေးလ်က တည်ဆောက်ပေးခဲ့ခြင်းဖြစ်ကြောင်း၊ ရန်ကုန်မြို့ပြအမွေအနှစ် ထိန်းသိမ်းစောင့်ရှောက်ရေးအဖွဲ့၏ သတင်းထုတ်ပြန်ချက်အရ သိရှိရသည်။

ကိုလိုနီခေတ်တစ်လျှောက် လူမျိုးစုံ၊ ယဉ်ကျေးမှုမျိုးစုံ၊ ဘာသာတရားမျိုးစုံ အတူယှဉ်တွဲနေထိုင်သည့်အားလျော်စွာ လောကနတ်အဆောက်အအုံသည် ရန်ကုန်မြို့၏ အရေးပါဆုံးသော စီးပွားရေးအချက်အချာနေရာများအနက် တစ်ခုလည်း ဖြစ်ခဲ့သည်။

ယခင် အီဂျစ်ဆေးပြင်းလိပ်များ၊ မြူးနစ်ဘီယာနှင့်အင်္ဂလန်မှ ချုပ်ချဉ်စသည့် ဖိမ်ခံပစ္စည်းများ လာရောက်ဝယ်ယူရာ နေရာတစ်ခုလည်းဖြစ်ပြီး Bank of Burma နှင့် The China Mutual Life Insurance Company အပါအဝင် ဝင်ကြေးနှင့် အာမခံလုပ်ငန်းကြီးများရုံးစိုက်ရာ တစ်ခုလည်းဖြစ်သည့်အပြင် ရိုက်တာကြေးနန်းကုမ္ပဏီ၊ ဂျာမန်လူမျိုးဓာတ်ပုံပညာရှင်တစ်ဦး၏ ဓာတ်ပုံတိုက်၊ ဂရိသားရေကုန်သည်နှင့် ဖိလစ်ပိုင်လူမျိုး ဆံပင်ညှပ်ဆရာတို့ပါ အခြေစိုက်ခဲ့သည့်အတွက် ယခုခေတ် အခေါ်အဝေါ်အရ စူပါစင်တာတစ်ခု အဆင့်ပင်ဖြစ်နိုင်ကြောင်း ခန့်မှန်းရသည်။

၁၉၃၀ ပြည့်လွန်နှစ်များတွင် အဆိုပါအဆောက်အအုံကို အိန္ဒိယစူရတီကုန်သည်မိသားစုက ဝယ်ယူခဲ့ပြီး ရန်ဒါရီးယားအဆောက်အအုံအဖြစ် အမည်ပြောင်းလဲခေါ်ဝေါ်ခဲ့သေးသည်။ ဒုတိယကမ္ဘာစစ်အပြီးတွင် အစိုးရက လွှဲပြောင်းရယူပြီးနောက် အပေါ်ဆုံးထပ်တွင် သစ်တောရေးရာဌာနနှင့် မြေညီထပ်တို့တွင် ယခင်အမှတ်(၁)စက်မှုဝန်ကြီးဌာနက ဖွင့်လှစ်သည့် အစိုးရကုန်စုံဆိုင်အပါအဝင် ဌာနများစွာ၏ ရုံးခန်းများအခြေစိုက်ရာလည်းဖြစ်ခဲ့သည်။

၁၉၇၁ ခုနှစ်တွင် လောကနတ်ပန်းချီပြခန်းကို ပထမထပ်တွင် တည်ထောင်ဖွင့်လှစ်နိုင်ခဲ့ပြီး ယင်းအဆောက်အအုံကိုလည်း ပြခန်းနာမည်အတိုင်း လောကနတ်ဟုသာ ခေါ်ဝေါ်ခဲ့ကြသည်။ လောကနတ်ပြခန်းသည် မြန်မာနိုင်ငံရှိ အစောဆုံး ခေ

တ်ပြိုင်ပန်းချီအနုပညာလက်ရာများကို ပြသရာ ပြခန်းများအနက် တစ်ခုဖြစ်ပြီး ပြခန်းကို စတင်တည်ထောင်သူများသည် မြန်မာ့ရိုးရာပန်းချီပညာရှင်တစ်ဦးဖြစ်သူ လှရှိန်၊ ခင်မောင်(ဘဏ်)နှင့် နာမည်ကျော်ပန်းချီဆရာပေါ်ဦးသက်တို့ပင် ဖြစ်သည်။

**အင်းစိန်ဂျီတီအိုင်ကျောင်း (နဝမမြောက်၂၀၁၅)**

အင်းစိန်ဂျီတီအိုင်ကျောင်းကြီး၏ အတိတ်ကို လေ့လာကြည့်သည့်အခါ ၁၈၉၅ ခုနှစ်၊ မေ ၁ ရက်တွင် မြို့မကျောင်းလမ်းခြံအမှတ်(၂၉၇)တွင် စတင်ဖွင့်လှစ်သော အစိုးရပိုင်စက်မှုလက်မှုကျောင်းကြီးမှ စတင်ခဲ့ခြင်းဖြစ်သည်ဟု သိရသည်။

ဝိတိုရိယခေတ် ဗိသုကာလက်ရာများအတိုင်း ခိုင်ခံ့ခြင်း၊ ထုထည်ကြီးမားခြင်း၊ အနုသုခုမလက်ရာများဖြင့် မှန်ကူကွက်များ၊ ပြတင်းများနှင့် အခန်းတံခါးမကြီးများကို လှပရိုးစင်းစွာခြယ်သထားပြီး အခန်းတိုင်းသည် လေဝင်လေထွက်ကောင်းမွန်ခြင်း၊ နေရောင်ကောင်းစွာ ရရှိခြင်းတို့အပြင် အောက်ခံအခင်းအကျင်းမှာလည်း အခန်း၏ အနေအထားနှင့် လိုက်လျောညီထွေစွာ စီစဉ်ထားသည်ကို မြင်တွေ့ရသည်။

**မဟာဗန္ဓုလပန်းခြံ (ဒသမမြောက်နှင့် ၁၁ ခုမြောက် ၂၁-၁၂-၂၀၁၅)**

ဒသမမြောက်နှင့် ၁၁ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ ကျောက်တံတားမြို့နယ် မဟာဗန္ဓုလလမ်းနှင့် ကုန်သည်လမ်းအကြားရှိ မဟာဗန္ဓုလ ပန်းခြံ၌ တပ်ဆင်ခဲ့သည်။

အဆိုပါပန်းခြံသည် သမိုင်းဝင်ဆူးလေစေတီတော်၊ မြို့တော်ခန်းမတို့၏ ရှေ့၌ ရှိကာ ရန်ကုန်မြို့သမိုင်းတစ်လျှောက်အရေးပါသည့် အခန်းကဏ္ဍမှပါဝင်ခဲ့ပြီး မြို့နေ ပြည်သူလူထုအတွက်လည်း အရေးကြီးသည့်နေရာတစ်ခုဖြစ်ခဲ့သည်။

၁၈၅၂ ခုနှစ် ဗြိတိသျှတို့ ရန်ကုန်မြို့ပြပုံစံ ရေးဆွဲသည့်အခါ ဤနေရာကို မြေလွတ်အဖြစ်ထားရှိခဲ့ပြီး တန့်ခ်စကွဲယားဟု လူသိများခဲ့သည်။ ၁၈၆၇-၁၈၆၈ ခုနှစ်တွင် ရွှံ့ထူထပ်လျက်ရှိသော နေရာဖြစ်နေပြီး မြေဖို့ကာ ပြည်သူများအနားယူ သည့် နေရာအဖြစ် ပြောင်းလဲခဲ့သည်။ ထိုစဉ်က ဗြိတိသျှလက်အောက်ခံ မြန်မာနိုင်ငံ၏ ကော်မရှင်နာအမည်ကို အစွဲပြု၍ ဖိုက်စကွဲယားဟု အမည်ပေးခဲ့သည်။

၂၀၁၂ ခုနှစ် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီက ပြန်လည် ပြုပြင်ခဲ့ပြီး Royal Phillips Corporation ကလည်း ပန်းခြံအတွင်း မီးအလင်းပေး စနစ်များ တပ်ဆင်ပေးခဲ့သည်။ ယခုအခါ မဟာဗန္ဓုလပန်းခြံသည် နိုင်ငံတကာ ဧည့်သည်များနှင့် မြို့ခံပြည်သူများလာရောက် အပန်းဖြေရာနေရာတစ်ခု ဖြစ်လာခဲ့ပြီ ဖြစ်သည်။

**ကုန်သည်လမ်းအဆောက်အအုံ (၁၂ ခုမြောက် ၂၉-၄-၂၀၁၆)**

၁၂ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ ကျောက်တံတားမြို့နယ် ကုန်သည်လမ်းရှိ ကိုလိုနီခေတ် နှစ်ထပ်အဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။

အဆိုပါအဆောက်အအုံသည် သက်တမ်းနှစ်တစ်ရာကျော်ကြာမြင့်ခဲ့ပြီဖြစ်ပြီး ၂၀၁၅ ခုနှစ် နိုဝင်ဘာလတွင် ပြန်လည်ထိန်းသိမ်းမွမ်းမံမှု စတင်ပြုလုပ်ခဲ့သည်။

**အိန္ဒိယသံရုံးအဆောက်အအုံ (၁၃ ခုမြောက် ၃၀-၅-၂၀၁၆)**

၁၃ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ ကျောက်တံတားမြို့နယ် ကုန်သည်လမ်းရှိ အိန္ဒိယသံရုံးအဆောက်အဦတွင် တပ်ဆင်ခဲ့သည်။

အဆိုပါအဆောက်အအုံသည် ရန်ကုန်တွင် ပထမဆုံးအိန္ဒိယယဉ်ကျေးမှုအမွေအနှစ်အဆောက်အအုံဖြစ်သည်။ မူလအဆောက်အအုံကို ၁၉၁၄ ခုနှစ်တွင် ကိုလ်ကတ္တား အခြေစိုက်အာမခံအဖွဲ့ဖြစ်သည့် Oriental Life အာမခံကုမ္ပဏီရုံးအဖြစ် တည်ဆောက် ခဲ့ခြင်းဖြစ်သည်။ ၁၉၅၇ ခုနှစ်မှစတင်၍ အိန္ဒိယသံရုံးအဖြစ် ဖွင့်လှစ်ခဲ့ပြီး မူလအဆောက်အအုံကို ၁၉၉၉-၂၀၀၀ ခုနှစ်တွင် ပြန်လည်ပြင်ဆင်မွမ်းမံခဲ့သည်။

**မာမက်ယေရှု ဂျူးဘုရားကျောင်း (၁၄ ခုမြောက် ၅-၆-၂၀၁၆)**

၁၄ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ ပန်းဘဲတန်းမြို့နယ်ရှိ မာမက်ယေရှုဂျူးဘုရားကျောင်းအဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။

မူလက ၁၈၅၄ ခုနှစ်တွင် အဆိုပါအဆောက်အအုံကို သစ်သားအဆောက်အဦ အဖြစ် တည်ဆောက်ခဲ့ပြီး ၁၈၉၃-၁၈၉၆ ခုနှစ်တွင် မူလအဆောက်အအုံကို ပြန်လည်ပြင်ဆင်ခဲ့သည်။ နှစ်တစ်ရာကျော်သက်တမ်းရှိပြီဖြစ်ပြီး မြန်မာနိုင်ငံရှိ ဂျူးဘာသာဝင်တို့၏ အထွဋ်အမြတ်ထားရာ အဆောက်အအုံတစ်ခုလည်း ဖြစ်သည်။

**ရန်ကုန်ခရစ်ယာန်အမျိုးသမီးကလျာဏယုဝအသင်း (YWCA) အဆောက်အအုံ(၁၅ ခုမြောက် ၂၈-၁၀-၂၀၁၆)**

၁၅ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ ဗိုလ်တထောင်မြို့နယ် ဘိုကလေးဈေးလမ်းရှိ ရန်ကုန်ခရစ်ယာန် အမျိုးသမီးကလျာဏယုဝအသင်း (YWCA) အဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။

အဆိုပါအဆောက်အအုံကို ၁၉၀၂ ခုနှစ်တွင် ရန်ကုန်ခရစ်ယာန်အမျိုးသမီး ကလျာဏယုဝအသင်း (YWCA) ရုံးအဆောက်အအုံအဖြစ် စတင်တည်ဆောက်ခဲ့သည်။ ၁၉၂၁ ခုနှစ်တွင် အဆောက်အအုံကို ထပ်မံတိုးချဲ့ပြင်ဆင်ခဲ့သည်။

**ဗိုလ်ချုပ်အောင်ဆန်းဈေးအဆောက်အဦ (၁၆ ခုမြောက် ၂၀-၁-၂၀၁၇)**

၁၆ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ ဗိုလ်ချုပ်အောင်ဆန်းလမ်း (ယခင်ကော်မရှင်နာလမ်း) ပေါ်ရှိ ဗိုလ်ချုပ်အောင်ဆန်းဈေးအဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။

အဆိုပါအဆောက်အအုံကို ၁၉၂၆ ခုနှစ်ကတည်းက ဖွင့်လှစ်ခဲ့ပြီး ရန်ကုန်မြို့နေပြည်သူများအတွက် နောက်ဆုံးပေါ်ဖက်ရှင်ပစ္စည်းများ၊ အနုပညာပစ္စည်းများ၊ အမှတ်တရပစ္စည်းများနှင့် ဖိမ်ခံပစ္စည်းများကို တစ်နေရာတည်းတွင် ရရှိနိုင်သည့်နေရာ ဖြစ်ခဲ့သည်။ ယနေ့ခေတ်တွင် ရန်ကုန်မြို့ခံများသာမက နိုင်ငံတကာခရီးသွားများကိုပါ ဆွဲဆောင်နိုင်သည့် နေရာတစ်ခုဖြစ်သည်။

**စိန့်ပေါလ်အထက်တန်းကျောင်း (၁၇ ခုမြောက် ၂-၃-၂၀၁၇)**

၁၇ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ ဗိုလ်တထောင်မြို့နယ် အနော်ရထာလမ်းနှင့် သိမ်ဖြူလမ်းထောင့်ရှိ စိန့်ပေါလ်အထက်တန်းကျောင်းအဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။

အဆိုပါအဆောက်အဦသည် ရှေးကျသည့် ၁၉ ရာစုနှစ် ခရစ်ယာန်ဘုရားရှိခိုးကျောင်းတစ်ခုဖြစ်ပြီး မြန်မာနိုင်ငံတွင်အကြီးဆုံး ရိုမန်ကက်သလစ် ဘုရားရှိခိုးကျောင်းဖြစ်သည့် စိန့်မေရီဘုရားရှိခိုးကျောင်းနှင့် ကပ်လျက် တည်ရှိသည်။

**ရန်ကုန်စတော့အိတ်ချိန်း (၁၈ ခုမြောက် ၁၆-၅-၂၀၁၇)**

၁၈ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ ဆူးလေဘုရားလမ်းနှင့် ကုန်သည်လမ်းထောင့်ရှိ ရန်ကုန်စတော့အိတ်ချိန်းအဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။

အဆိုပါအဆောက်အအုံကို ၁၉၃၉ ခုနှစ် မတ်လတွင် အပြီးသတ် တည်ဆောက်ခဲ့ပြီး အိန္ဒိယအရန်ဘဏ်အဆောက်အအုံအဖြစ် အသုံးပြုခဲ့သည်။ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၉ ရက်နေ့တွင် နိုင်ငံ၏ ပထမဆုံးရန်ကုန်စတော့အိတ်ချိန်းအဖြစ် ဖွင့်လှစ်ခဲ့သည်။

**ရန်ကုန်ဆေးရုံကြီး (၁၉ ခုမြောက် ၂၄-၁၀-၂၀၁၇)**

၁၉ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့လယ်ရှိ ရန်ကုန်ဆေးရုံကြီးအဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။

ရန်ကုန်မြို့၏ ပထမဆုံးသော အထွေထွေရောဂါကု ဆေးရုံကြီးကို ပြည်သူ့လုပ်ငန်းဌာန အုပ်ချုပ်မှုအင်ဂျင်နီယာ ဟင်နရီဟိုနေးဖောက်စ်က ဒီဇိုင်းရေးဆွဲခဲ့ပြီး

၁၉၀၄ ခုနှစ်တွင် စတင်ဆောက်လုပ်ကာ ၁၉၀၉ ခုနှစ်တွင် ပြီးစီးခဲ့သည်။ ယင်းခေတ်က နောက်ဆုံးပေါ်နည်းပညာသုံး ကျန်းမာရေးအသုံးအဆောင်များဖြစ်သည့် ခွဲစိတ်ခန်း အတွက် လျှပ်စစ်ဓာတ်အားအသုံးပြုမှု၊ မေ့ဆေးနှင့် ထုံဆေးအခန်း စသည်တို့ကို ထည့်သွင်း တည်ဆောက်ခဲ့သည်။ ဆက်လက်ပြီး အုပ်ချုပ်မှုဆိုင်ရာ အခန်းများနှင့် အခြားလိုအပ်သည့် ဖွဲ့စည်းမှုများ တည်ဆောက်ရာ စုစုပေါင်း ရူပီးငွေ လေးသန်းခန့် ကုန်ကျခဲ့သည်။ ၁၉၁၁ ခုနှစ်တွင် ခုတင် ၃၄၂ လုံးဆံ့ ဆေးရုံကြီးအဖြစ် စတင် ဖွင့်လှစ်ခဲ့သည်။

**ရန်ကုန်တိုင်းဒေသကြီးတရားရုံး (၂၀ ခုမြောက် ၂၄-၁၁-၂၀၁၇)**

၂၀ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့၊ ကျောက်တံတား မြို့နယ်၊ ပန်းဆိုးတန်းလမ်းပေါ်ရှိ ရန်ကုန်တိုင်းဒေသကြီး တရားရုံးအဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။

ယင်းအဆောက်အအုံကို ၁၉၀၅ ခုနှစ်တွင် စတင်ဆောက်လုပ်ခဲ့ပြီး ၁၉၁၁ ခုနှစ်တွင် ပြီးစီးခဲ့ကာ ရူပီးငွေ ၂၄ သိန်း ၅ သောင်း ရှိခဲ့သည်။ အဆောက်အအုံဒီဇိုင်း ကို အိန္ဒိယအစိုးရ ဗိသုကာအကြံပေး ဂျိမ်းရန်ဆမ် (၁၈၆၅-၁၉၄၄)က ဒီဇိုင်းရေးဆွဲ ခဲ့ပြီး ရန်ကုန်ဆေးရုံကြီးကို တည်ဆောက်သည့် အိန္ဒိယပိုင် ဘက်ဂ်ချီကုမ္ပဏီက တည်ဆောက်ခဲ့သည်။ ယင်းအဆောက်အအုံသည် လျှပ်စစ်ဓာတ်အား အစောဆုံး အသုံးပြုသည့် အဆောက်အအုံဖြစ်ခဲ့ကာ ရန်ကုန်မြို့အား လျှပ်စစ်ဓာတ်အားအသုံးပြု မှုကို မိတ်ဆက်ပေးသည့် အဆောက်အအုံဖြစ်ခဲ့သည်။

**အထက(၁)ဒဂုံ (၂၁ ခုမြောက် ၂၂-၁-၂၀၁၈)**

၂၁ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့၊ ဒဂုံမြို့နယ်ရှိ အထက (၁) ဒဂုံကျောင်းအဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။

အဆိုပါ သုံးထပ်ကျောင်းဆောင်ကို ဗစ်တိုးရီးယားစတိုင်ဖြင့် တည်ဆောက် ထားသည်။ ဒုတိယကမ္ဘာစစ်နှင့် ဖက်ဆစ်ဂျပန်ခေတ်တွင် ကျောင်းကို ခြောက်နှစ် ကြာမျှ ပိတ်ထားခဲ့ရပြီး ဗမာ့လွတ်လပ်ရေးတပ်မတော်ရုံးဖြစ်ခဲ့သည်။ ၁၉၄၇ ခုနှစ်တွင် ကျောင်းပြန်ဖွင့်ခဲ့ပြီး ၁၉၅၂ ခုနှစ် ဖေဖော်ဝါရီလ ၂၀ ရက်နေ့တွင် နိုင်ငံတော်သမ္မတ စဝ်ရွှေသိုက်က မက်သဒစ်အင်္ဂလိပ်အထက်တန်းကျောင်းအဖြစ် နာမည်ပြောင်းခဲ့ သည်။ အထက (၁) ဒဂုံအဖြစ် နာမည်ပြောင်းခဲ့ပြီးနောက် ၁၉၈၆ မှ ၁၉၉၈ အကြား ကျောင်းဝင်းအတွင်း ကျောင်းဆောင်သစ်များ တိုးချဲ့ဆောက်လုပ်ခဲ့သည်။

## ရန်ကုန်တိရစ္ဆာန်ဥယျာဉ်ရှိ ကျားလှောင်ရုံ (၂၂ ခုမြောက် ၁၄–၁၀–၂၀၁၈)

၂၂ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့၊ တိရစ္ဆာန်ဥယျာဉ်ရှိ ကျားလှောင်ရုံတွင် တပ်ဆင်ခဲ့သည်။ ရန်ကုန်တိရစ္ဆာန်ဥယျာဉ်သည် အရှေ့တောင်အာရှတွင် သက်တမ်းအရင့်ဆုံးဖြစ်ပြီး ကမ္ပည်းပြားတပ်ဆင်ခဲ့သည့် ကျားလှောင်ရုံသည် ၁၉၁၅ ခုနှစ်က တည်ဆောက်ထားခဲ့ပြီး သက်တမ်း ၁၀၄ နှစ် ရှိနေပြီဖြစ်သည်။ ၎င်းအဆောက်အအုံကို ၁၉၀၆ ခုနှစ်တွင် မြန်မာနိုင်ငံသို့ အလည်အပတ် ရောက်ရှိလာသည့် ဝေလမင်းသားနှင့် ကြင်ရာတော်တို့က ဖွင့်လှစ်ပေးခဲ့သည်။

## အထက (၂) ဒဂုံ (၂၃ ခုမြောက် ၁၈–၁၁–၂၀၁၈)

၂၃ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့၊ ဒဂုံမြို့နယ်ရှိ အထက (၂) ဒဂုံတွင် တပ်ဆင်ခဲ့သည်။ အဆိုပါကျောင်းအဆောက်အအုံအား ၁၉၂၀ ခုနှစ် ကိုလိုနီခေတ်ပညာရေးစနစ်ကို ဆန့်ကျင်သည့်အနေဖြင့် ၁၉၂၇ ခုနှစ်တွင် တည်ဆောက်ခဲ့ပြီး မြို့မအထက်တန်းကျောင်းအဖြစ် လူသိများသည်။ အမျိုးသားပညာရေးစနစ်ကို စတင်တည်ထောင်ခဲ့သည့် အထိမ်းအမှတ်ပြယုဂ်များထဲမှ တစ်ခုဖြစ်သည်။ ကျောင်း၏ အနောက်တိုင်းပုံစံလိပ်ခုံးများနှင့် မြန်မာ့ရိုးရာ ဗိသုကာလက်ရာများကြောင့် ထင်ရှားသည်။ ဗြိတိသျှအစိုးရလက်ထက်တွင် လူချမ်းသာအနည်းစုပေါ်ကိုသာ အားထားပြီး သာမန်ပြည်သူများနှင့် အလှမ်းဝေးသည့် ကိုလိုနီခေတ်ပညာရေးစနစ်ကို ဆန့်ကျင်သည့် အမျိုးသားလှုပ်ရှားမှုအနေဖြင့် ဆောက်လုပ်ခဲ့သည့် ဒုတိယမြောက်ကျောင်းဖြစ်သည်။ မြို့မကျောင်းသည် ခေတ်အဆက်ဆက် မျိုးဆက်သစ်များကို မွေးထုတ်ပေးနိုင်ခဲ့ပြီး ၎င်းတို့ထဲတွင် မြန်မာ့သမိုင်းထဲမှ ထင်ရှားသူများ ပါဝင်သည်။

## အထက (၁) လမ်းမတော် (၂၄ ခုမြောက် ၁–၁၂–၂၀၁၈)

၂၄ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ လမ်းမတော်မြို့နယ်ရှိ အထက (၁) လမ်းမတော် ကျောင်းအဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။ မူလက စိန့်ဂျွန်းကောလိပ်အဖြစ် လူသိများထင်ရှားကာ ၁၈၆၄ ခုနှစ်တွင် တည်ထောင်ခဲ့ပြီး လက်ရှိနေရာသို့ ၁၈၆၉ ခုနှစ်တွင် ပြောင်းရွှေ့ခဲ့သည်။ ဆရာမှတ်ကြီးဟု ထင်ရှားသည့် ဒေါက်တာ ဂျေအီးမာ့ခ်စ်က ပထမဆုံးကျောင်းအုပ်အဖြစ် တာဝန်ယူခဲ့သည်။ အစောပိုင်းကာလများတွင် ယောကျ်ားလေးကျောင်းအဖြစ်သာ ဖွင့်လှစ်ခဲ့ပြီး ၁၉၈၁–၁၉၈၂ ပညာသင်နှစ်မှ စတင်ကာ မိန်းကလေးများ စတင်လက်ခံခဲ့သည်။ ထို့အပြင် စိန့်ဂျွန်း (ခေါ်) အထက (၁) လမ်းမတော်တွင် ရွှေရိုး (ခေါ်) ဆရာဂျိန်းစ် ဂျော့ချ်

စကောက်၏ ဘောလုံးသင်ပြပေးမှုဖြင့် မြန်မာကျောင်းသားများ ဘောလုံးနှင့် စတင်ရင်းနှီးခွင့်ရခဲ့သည်။ ရဲဘော်သုံးကျိပ်အဖွဲ့ဝင်တစ်ဦးဖြစ်သည့် သခင်ကျော်စိန်၊ သခင်မြ၊ ဆရာကြီး မင်းသုဝဏ်၊ ဗိုလ်မိုးညိုအစရှိသည့် နယ်ပယ်အသီးသီးတွင် ထူးချွန်သည့် ပညာရှင်များ မွေးထုတ်ပေးခဲ့ပြီး နောင်နှစ်ပေါင်းများစွာအထိ မြန်မာ နိုင်ငံ၏ ရှေ့ဆောင်ပညာရေးအဖွဲ့အစည်း ဖြစ်လာခဲ့သည်။

**ဗိုလ်အောင်ကျော်လမ်း (၂၅ ခုမြောက် ၂၀-၁၂-၂၀၁၈)**

၂၅ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့၊ ဗိုလ်တထောင်မြို့နယ်ရှိ ဗိုလ်အောင်ကျော်လမ်းတွင် တပ်ဆင်ခဲ့သည်။ ၁၃၀၀ ပြည့်အရေးတော်ပုံအတွင်း ကျောင်းသားများ ဆန္ဒပြကြစဉ် ၁၉၃၈ ဒီဇင်ဘာ ၂၀ ရက်နေ့၌ ကျောင်းသား ခေါင်းဆောင် ကိုအောင်ကျော်သည် ထိုလမ်းပေါ်တွင် ပုလိပ်များ၏ ရိုက်နှက်မှုကြောင့် ဒဏ်ရာပြင်းစွာရခဲ့ပြီး ကျဆုံးခဲ့သည်။ ယခင်က စပတ်လမ်းဟု ခေါ်ဆိုခဲ့ရာမှ ၁၉၅၆ ခုနှစ်တွင် ဗိုလ်အောင်ကျော်လမ်းဟု ပြောင်းလဲခေါ်ဆိုစေခဲ့သည်။ ဗိုလ်အောင်ကျော်လမ်းတွင် ဝန်ကြီးများရုံး (ယခင်အတွင်းဝန်ရုံး)၊ မြန်မာနိုင်ငံဗဟိုစာတိုက်ကြီး၊ စိန့်မေရီဘုရားရှိခိုးကျောင်းစသည့် ထင်ရှားသည့် ရှေးဟောင်းအဆောက်အအုံများ ရှိသည်။

**အထက (၁) ပုဇွန်တောင် (၂၆ ခုမြောက် ၂၀-၁၂-၂၀၁၈)**

၂၆ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့၊ ပုဇွန်တောင်မြို့နယ်ရှိ အထက (၁) ပုဇွန်တောင်ကျောင်းအဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။ ၎င်းအဆောက်အအုံကို ၁၉၁၇ ခုနှစ်တွင် စတင်တည်ဆောက်ခဲ့ပြီး ၁၉၁၈ တွင် ဖွင့်လှစ်ခဲ့သည်။

**စထရင်းဟိုတယ် (၂၇ ခုမြောက် ၇-၂-၂၀၁၉)**

၂၇ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့၊ ကမ်းနားလမ်းရှိ စထရင်းဟိုတယ်တွင် တပ်ဆင်ခဲ့သည်။ ယင်းဟိုတယ်သည် ၁၉၀၁ ခုနှစ်တွင် စတင်လည်ပတ်ခဲ့ပြီး ကမ္ဘာစစ်ကြီးနှစ်ကြိမ်ဖြစ်ပွားချိန်တွင်လည်း ကြံ့ကြံ့ခိုင် ရပ်တည်ခဲ့သည်။ နာမည်ကျော် အာမေးနီးယားဟိုတယ်လုပ်ငန်းရှင် ဆာကီးစ်ညီအစ်ကိုနှစ်ဦးက တည်ထောင်ခဲ့ပြီး ရန်ကုန်မြို့ရှိ သက်တမ်းအရင့်ဆုံး ဟိုတယ်ဖြစ်သည်။ ထို့အပြင် အပြာရောင်ကမ္ပည်းပြားတပ်ဆင်ခြင်းခံရသည့် ပထမဆုံးဟိုတယ်လည်း ဖြစ်သည်။

### ဖြိုတိသျှသံရုံးအဆောက်အအုံ (၂၈ ခုမြောက် ၂၆–၂–၂၀၁၉)

၂၈ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့၊ ကျောက်တံတားမြို့နယ် ကမ်းနားလမ်းရှိ ဗြိတိသျှသံရုံးအဆောက်အအုံတွင် တပ်ဆင်ခဲ့သည်။ ယခုဗြိတိသျှ သံရုံးနှင့် ဗြိတိသျှကောင်စီအဖြစ် အသုံးပြုလျက်ရှိသော ယင်းအဆောက်အအုံကို မူလက ဂလပ်စ်ဂိုအခြေစိုက် ရန်ကုန်ရုံးခွဲအဖြစ် ၁၉၀၀ ပြည့်နှစ်တွင် တည်ဆောက် ခဲ့ပြီး ၁၉၄၈ ခုနှစ်တွင် ဗြိတိသျှသံရုံးအဖြစ် စတင်အသုံးပြုခဲ့သည်။ အဆိုပါ အဆောက် အအုံသည် ရန်ကုန်ကမ်းနားလမ်းတစ်လျှောက်ရှိ သက်တမ်းအရင့်ဆုံး အဆောက် အအုံများတွင် တစ်ခုအပါအဝင်ဖြစ်သည်။

### ဗဟိုအမျိုးသမီးဆေးရုံကြီး (၂၉ ခုမြောက် ၂၈–၃–၂၀၁၉)

၂၉ ခုမြောက် အပြာရောင် ကမ္ပည်းပြားကို ရန်ကုန်မြို့၊ လမ်းမတော်မြို့နယ်ရှိ ဗဟိုအမျိုးသမီးဆေးရုံကြီး (ယခင်ဒပ်ဖရင်ဆေးရုံ) ၌ တပ်ဆင်ခဲ့သည်။ ၎င်းဆေးရုံ ကြီးသည် ၁၈၉၇ ခုနှစ်တွင် အိန္ဒိယဘုရင်ခံချုပ် လော့ဒပ်ဖရင်၏ ကြင်ရာတော် လေဒီဒပ်ဖရင်၏ ရန်ပုံငွေဖြင့် မတည်ဆောက်လုပ်ခဲ့ပြီး သက်တမ်း ၁၂၂ နှစ်ရှိနေပြီ ဖြစ်သည်။ ဆေးရုံကြီးကို လေဒီဒပ်ဖရင်ကိုယ်စား မြန်မာနိုင်ငံ ဒုတိယဘုရင်ခံ၏ဇနီး လေဒီဖရိုင်ရာက အုတ်မြစ်ချပေးခဲ့သည်။ ထို့နောက် ၁၈၉၈ ခုနှစ်တွင် ဒပ်ဖရင်ဆေးရုံ အဖြစ် စတင်အသုံးပြုခဲ့ကာ ၁၉၂၇ ခုနှစ်တွင် အေဆောင်၊ ၁၉၂၉ ခုနှစ်တွင် ဘီဆောင်နှင့် စီဆောင်တို့ကို ထပ်မံတိုးချဲ့တည်ဆောက်ခဲ့သည်။

### ပဲခူးကလပ် (၃၀ ခုမြောက် ၃၀–၅–၂၀၁၉)

၃၀ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့၊ ဒဂုံမြို့နယ်၊ စကားဝါ လမ်းရှိ ပဲခူးကလပ်တွင် တပ်ဆင်ခဲ့သည်။ ၎င်းကလပ်ကို ၁၈၇၁ ခုနှစ်တွင် ကန်နတိုမင် ဧရိယာ၌ စတင်ဖွင့်လှစ်ခဲ့ပြီး လက်ရှိနေရာသို့ ၁၈၈၂ ခုနှစ်တွင် ပြောင်းရွှေ့ခဲ့သည်။ အဆိုပါ အဆောက်အအုံသည် အဆောင်အားလုံးကို ကျွန်းသားအပြည့်ဖြင့် တည်ဆောက်ထားသည့် ကိုလိုနီခေတ် သက်တမ်းရင့်လက်ရာတစ်ခု ဖြစ်သည်။ ဒုတိယကမ္ဘာစစ်ကာလတွင် ဂျပန်စစ်တပ်၏ ကလပ်အဖြစ် အသုံးပြုခဲ့ပြီး စစ်ပြီး ခေတ်တွင် မြန်မာလူမျိုးများ ပထမဆုံးအသင်းဝင်ခွင့် ရရှိခဲ့သည်။

### Rosewood Yangon ဟိုတယ်အဖြစ် ပြန်လည်ပြုပြင်ထားသော ယခင် ရန်ကုန်တိုင်း ဒေသကြီး စုပေါင်းရုံးအဆောက်အအုံ (၃၁ ခုမြောက် ၄–၈–၂၀၁၉)

အဆောင်အအုံသမိုင်းကြောင်းနှင့် ယဉ်ကျေးမှုအရ ၃၁ ခုမြောက် အပြာရောင် ကမ္ပည်းပြားတပ်ဆင်ခြင်းခံရသည့် အဆိုပါအဆောက်အအုံသည် ကျောက်တံတား

မြို့နယ် ဆူးလေဘုရားလမ်းနှင့် ကမ်းနားလမ်းထောင့် ဘဏ်လမ်းတို့နှင့်အပြိုင် တည်ရှိသည်။ ရန်ကုန်တိုင်းဒေသကြီး စုပေါင်းအဆောင်အအုံကို တရားရုံးသစ်အဖြစ် ၁၉၂၇ ခုနှစ်မှ ၁၉၃၁ ခုနှစ်အတွင်း ဆောက်လုပ်ခဲ့သည်။ ၁၈၆၈ ခုနှစ်ကတည်းက တည်ရှိခဲ့သော ခရိုင်တရားရုံးများနှင့် အစိုးရရုံးများ အဆောက်အအုံကို အစားထိုး တည်ဆောက်ခဲ့ခြင်း ဖြစ်သည်။

တရားရုံးသစ်ဆောက်လုပ်ရာတွင် ထိုစဉ်က မြန်မာနိုင်ငံ ဘုရင်ခံ ဆာဟားကုတ် ဘတ်တလာက ၁၉၂၇ ခုနှစ် မတ်လ ၃ ရက်နေ့တွင် အုတ်မြစ်ချခဲ့သည်။ ဗိသုကာ ပညာရှင် သောမတ်စ်အိုလီဖန့်ဖော်စတာက ပုံစံရေးဆွဲခဲ့ပြီး အာရှတွင် သံမဏိပေါင် များဖြင့် တည်ဆောက်ခဲ့သည့် ပထမဆုံးအဆောက်အအုံတစ်ခုဖြစ်သည်။ ဆစ်ဒနီမြို့ရှိ နာမည်ကျော် Harbour Bridge ဆောက်လုပ်ရာတွင် အသုံးပြုခဲ့သည့် Doorman & Long ကုမ္ပဏီထုတ် အမျိုးအစားတူ သံမဏိပေါင်များကို အသုံးပြုခဲ့သည်။ ထိုစဉ်က ပုလိပ်မင်းကြီးရုံးအဖြစ်လည်း ထင်ရှားသည်။

### ရန်ကုန်တက္ကသိုလ်၏ သစ်ပုတ်ပင်ကြီး (၃၂ ခုမြောက် ၇-၉-၂၀၁၉)

ရန်ကုန်မြို့၏ အမွေအနှစ်တစ်ခုဖြစ်သော ရန်ကုန်တက္ကသိုလ်ကြီး၏ သစ်ပုတ်ပင်ကြီးကို ၃၂ ခုမြောက် အပြာရောင်ကမ္ပည်းပြား တပ်ဆင်ခဲ့သည်။ ၁၉၂၀ ပြည့်နှစ်မှစတင်၍ ရန်ကုန်တက္ကသိုလ်ကို ဖွင့်လှစ်ခဲ့သည်မှာ ၂၀၂၀ ပြည့်နှစ်တွင် နှစ် (၁၀၀) ပြည့်ပြီဖြစ်ရာ ရန်ကုန်တက္ကသိုလ်တည်ဆောက်မှု ရေးဆွဲစဉ်ကပင် သစ်ပုတ် ပင်ကြီးမှာ တည်ရှိလျက်ရှိသောကြောင့် နှစ်ပေါင်း (၁၀၀) ကျော် သက်တမ်းရှိသော ရန်ကုန်တက္ကသိုလ်ကြီး၏ အထိမ်းအမှတ်သင်္ကေတ အမွေအနှစ်တစ်ခုလည်း ဖြစ်ပါသည်။

ရန်ကုန်တက္ကသိုလ်ရှိ သစ်ပုတ်ပင်ကြီးသည် သက်တမ်းရင့် ရွက်ကြွေအဖိုပင်ကြီး တစ်ပင်ဖြစ်ကာ ရုက္ခဗေဒအမည်မှာ Tetramelesnudiflora.R.Br (Datiscaceae) ဖြစ်၍ ရန်ကုန်မြို့၏ အထင်ရှားဆုံးသစ်ပင်ကြီးများအနက် နှစ်ပေါင်းရာကျော် သက်တမ်းရင့် သစ်ပင်တစ်ပင်အဖြစ် ကျန်ရှိနေခြင်းဖြစ်သည်။

### Yangon Excelsior Hotel စတီးဘရားသားဟိုတယ် (၃၃ ခုမြောက် ၂၈-၉-၂၀၁၉)

၃၃ ခုမြောက် မြို့ပြအမွေအနှစ် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပတ်လမ်းတွင် တည်ရှိသည့် ယခင်စတီးဘရားသား ကုမ္ပဏီတွင် တပ်ဆင်ပါသည်။

ယခင်စတီးဘရားသားကုမ္ပဏီကို ကိုလိုနီခေတ် ၁၉၃၀ ပြည့်နှစ်ခန့်က တည်ဆောက်ခဲ့ပြီး ဆန်စပါးနှင့်သစ်ရောင်းဝယ်ရေး ကုမ္ပဏီတစ်ခုဖြစ်ခဲ့သည်။

ယခုအခါ အခန်း ၇၄ ခန်းပါ အဆင့်မြင့်ဟိုတယ်အဖြစ် ၂၀၁၈ ခုနှစ်တွင် ပြန်လည်ပြင်ဆင်ပြီး Yangon Excelsior Hotel အဖြစ်ဖွင့်လှစ်ခဲ့ပြီး မူလလက်ရာများ ပြင်ဆင်ထိန်းသိမ်းထားသည်။

**မြန်မာအမျိုးသားလေကြောင်းရုံးချုပ် (၃၄ ခုမြောက် ၁-၁၁-၂၀၁၉)**

ရန်ကုန်မြို့ ကျောက်တံတားမြို့နယ် ကမ်းနားလမ်းတွင် တည်ရှိသည့် မြန်မာအမျိုးသားလေကြောင်းရုံးချုပ် ယခင်ဘုံဘေဘားမား ကုန်သွယ်ရေးကော်ပိုရေးရှင်းလီမီတက်ရုံးချုပ်၌ မြို့ပြအမွေအနှစ်အထိမ်းအမှတ်အဖြစ် ရန်ကုန်မြို့၏ (၃၄) ခုမြောက် အပြာရောင်ကမ္ပည်းပြား တပ်ဆင်ခဲ့သည်။

မြန်မာအမျိုးသားလေကြောင်း ရုံးချုပ်အဆောက်အအုံကို ကိုလိုနီခေတ်က မြန်မာနိုင်ငံမှ ကျွန်းသစ်များ အများဆုံးတင်ပို့ခဲ့သည့် ဘုံဘေဘားမား ကုန်သွယ်ရေးကော်ပိုရေးရှင်း လီမီတက်က ရုံးချုပ်အဖြစ် အသုံးပြုခဲ့သည်။ ဘုံဘေဘားမားကုန်သွယ်ရေးကော်ပိုရေးရှင်းသည် မြန်မာ့ကိုလိုနီခေတ်သမိုင်းတွင် အရေးပါသောနေရာမှ ပါဝင်ခဲ့ပြီး မြန်မာနိုင်ငံအား ဗြိတိသျှတို့ ကျူးကျော်၍ ကိုလိုနီပြုခြင်းတွင်လည်း အဓိကကျခဲ့သည်။

ကော်ပိုရေးရှင်းကို မူလက မြန်မာနိုင်ငံမှ ဘုံဘေသို့ လက်ဖက်တင်ပို့ရန် Wallace Bros & Co အဖြစ်စတင်တည်ထောင်ခဲ့ပြီး ၁၈၆၃ ခုနှစ်တွင် ဘုံဘေဘားမား ကုန်သွယ်ရေးကော်ပိုရေးရှင်းအဖြစ် ဖွဲ့စည်းခဲ့သည်။ ကော်ပိုရေးရှင်းသည် အထက်မြန်မာနိုင်ငံတွင် သစ်ထုတ်ယူခွင့်ကို မင်းတုန်းမင်းထံမှ ရရှိခဲ့သော်လည်း သီပေါမင်းလက်ထက်တွင် သစ်ကိစ္စအငြင်းပွားရာမှ တတိယ အင်္ဂလိပ်-မြန်မာ ကျူးကျော်စစ်ဖြစ်ပွားခဲ့ကာ ကုန်းဘောင်မင်းဆက် အဆုံးသတ်ခဲ့ရသည်။

ဘုံဘေဘားမားကော်ပိုရေးရှင်း၏ မူလအဆောက်အအုံနေရာတွင် လက်ရှိအဆောက်အအုံကို ၁၉၁၅ ခုနှစ်က တည်ဆောက်ခဲ့သည်။ မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးနောက် ဘုံဘေဘားမားကုန်သွယ်ရေးကော်ပိုရေးရှင်းကို ပြည်သူပိုင်ပြုခဲ့ကာ အဆောက်အအုံကို ပြည်ထောင်စုမြန်မာနိုင်ငံ လေကြောင်းသယ်ယူပို့ဆောင်ရေးအဖွဲ့က ဝယ်ယူအသုံးပြုခဲ့သည်။ လေကြောင်းလိုင်းကို ၁၉၄၈ ခုနှစ် စက်တင်ဘာ ၁၅ ရက်တွင် ဖွဲ့စည်းကာ ၁၉၇၂ ခုနှ့စ်တွင် မြန်မာ့လေကြောင်းအဖြစ် အမည်ပြောင်းလဲ၍ နိုင်ငံတကာခရီးစဉ်များကို ၁၉၅၀ ခုနှစ်မှ ၁၉၉၃ ခုနှစ်အထိ ပြေးဆွဲခဲ့သည်။ ၂၀၁၄ ခုနှစ်တွင် မြန်မာအမျိုးသားလေကြောင်းအဖြစ် အမည်ခံပြောင်းကာ ပြည်တွင်းခရီးစဉ်များကို အဆင့်မြင့် ပြေးဆွဲခဲ့ပြီး နိုင်ငံတကာခရီးစဉ်များကို ၂၀၁၅ ခုနှစ်တွင် ပြန်လည်ပြေးဆွဲခဲ့သည်။

**အထက(၁) ပန်းဘဲတန်း ( ၃၅ ခုမြောက် ၁-၁၁-၂၀၂၀)**

၃၅ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ ပန်းဘဲတန်းမြို့နယ် ရွှေတိဂုံဘုရားလမ်းရှိ (ယခင် စိန့်မေရီ Diocesan မိန်းကလေး အထက်တန်းကျောင်း) အမှတ်(၁) အခြေခံပညာအထက်တန်းကျောင်း ပန်းဘဲတန်းတွင် တပ်ဆင်ခဲ့သည်။ အဆိုပါအဆောက်အဦကို အင်္ဂလန် ခရစ်ယာန်အသင်းတော်၏ သာသနာပြု သိက္ခာတော်ရ ဆရာတော် ဒေါက်တာ ဂျေအီးမက်ခ်က ၁၈၆၆ ခုနှစ်တွင် ကျောင်းအဖြစ် တည်ထောင်ခဲ့ပြီး ရန်ကုန်မြို့ရှိ မိန်းကလေးကျောင်းများထဲတွင် အစောဆုံး တစ်ကျောင်း ဖြစ်သည်။ ၁၉၆၅ ခုနှစ်တွင် နိုင်ငံပိုင်ကျောင်းအဖြစ် ပြောင်းလဲခဲ့သည်။

**အင်းယားလိတ်ဟိုတယ် (၃၆ ခုမြောက် ၁၈-၂-၂၀၂၀)**

၃၆ ခုမြောက် အပြာရောင်ကမ္ပည်းပြားကို ရန်ကုန်မြို့ မရမ်းကုန်းမြို့နယ်ရှိ အင်းယားလိတ်ဟိုတယ်တွင် တပ်ဆင်ခဲ့သည်။ အဆိုပါ အဆောက်အဦသည် ၁၉၅၈ ခုနှစ်မှ၁၉၆၂ခုနှစ်ကြားတည်ဆောက်ခဲ့ပြီးစစ်ပြီးခေတ်ခေတ်မီအဆောက်အဦများထဲမှ ပြယုဂ်တစ်ခုဖြစ်သည်။ ထို့အပြင် ဆိုဗီယက်ပြည်ထောင်စုမှ မြန်မာအစိုးရအား ပေးအပ်ခဲ့သည့် လက်ဆောင်များထဲမှ တစ်ခုဖြစ်သည်။

## မြန်မာနိုင်ငံမှ ဖလေဘ့ရင့်နိုက်တင်ဂေးလ်ဆုရရှိသူများ

ဖလေဘ့ရင့်နိုက်တင်ဂေးလ်ဆုဆိုသည်မှာသဘာဝကြောင့်ဖြစ်သောဘေးအန္တရာယ်များကြောင့်သော်လည်းကောင်း၊ လူ့ပယောဂကြောင့်ဖြစ်သော ဘေးအန္တရာယ်များကြောင့်သော်လည်းကောင်း၊ ဒဏ်ရာရနေသူ၊ ဖျားနာနေသူ၊ မသန်စွမ်းဖြစ်နေသူ ပြည်သူများကို သက်စွန့်ဆံဖျားကူညီကယ်ဆယ်ပြုစုသူ သို့မဟုတ် လူထုကျန်းမာရေး သို့မဟုတ် သူနာပြု အသိပညာဆိုင်ရာကိစ္စများတွင် စံပြုထိုက်လောက်အောင် ဦးစီး ဦးဆောင်ကာ တီထွင်ဖန်တီးလုပ်ဆောင်သူ သူနာပြုများအတွက်ရည်ရွယ်ကာ အပြည်ပြည်ဆိုင်ရာ ကြက်ခြေနီကော်မတီနှင့် အပြည် ပြည်ဆိုင်ရာကြက်ခြေနီနှင့် လခြမ်းနီအသင်းများက ဦးဆောင်ချီးမြှင့်သော ဆုဖြစ်သည်။ ၁၉၁၂ ခုနှစ်တွင် စတင် ချီးမြှင့်ခဲ့သော ယင်းဆုမှာ သူနာပြုများအတွက် ကမ္ဘာ့အမြင့်ဆုံးဖြစ်ပြီး ၂၀၁၅ ခုနှစ် အထိ ၁၄၄၉ ဦးကို ရွေးချယ်ချီးမြှင့်သည်။

ထိုဆုကို နှစ်နှစ်တွင် တစ်ကြိမ်၊ တစ်ကြိမ်လျှင် တစ်ကမ္ဘာလုံး၌ ၃၆ ဦး ချီးမြှင့် ရန်နှင့် စံပြသူနာပြုဆရာမကြီး ဖလ်ရင့်နိုက်တင်ဂေး၏ မွေးနေ့ ၁၂ရက်နေ့တွင် ချီးမြှင့်ရန် ဆုံးဖြတ်ခဲ့သည်။

ထိုဆုတံဆိပ်ပေါ်တွင် "ဖလော့ရင့်နိုက်တင်ဂေးလ် ၁၉၁၀ ပြည့်နှစ် အမှတ်တရ" စာတန်းနှင့် ဖလော့ရင့်နိုက်တင်ဂေး ပုံပါပြီး အခြားတစ်ဖက်အလယ်တွင် ဆုရသူ၏ အမည်နှင့် ဆုတံဆိပ်အပ်နှင်းခြင်းခံရသည့် နေ့စွဲကိုရေးထိုးထားသည်။ ဆုတံဆိပ်ကို ရွှေ၊ ငွေနှင့်ပြုလုပ်ထားပြီး ကြက်ခြေနီအမှတ်အသားကို ပန်းနွယ်များ ရစ်ပတ်ထား၍ အနီနှင့် အဖြူရောင်ဖဲပြားတွင် ချိတ်ဆွဲထားသည့် ဆုတံဆိပ်နှင့်အတူ သားရေစက္ကူတွင် ရိုက်နှိပ်ထားသော ဂုဏ်ပြုစာလွှာကိုပါ ပူးတွဲပေးအပ်ချီးမြှင့်ခြင်း ဖြစ်သည်။

## မြန်မာနိုင်ငံမှ ပထမဆုံး "ဖလော့ရင့်နိုက်တင်ဂေးလ်"ဆုရှင် – ဗိုလ်မှူးဒေါ်ခင်အုန်းမြ (၁၉၂၂–၂၀၀၉)

ဒုတိယကမ္ဘာစစ်အတွင်း စစ်ပြေးဒုက္ခသည်များအား ဘေးကင်းအောင် ပြောင်းရွှေ့ပေးပြီး နေ့မအားညမနားပြုစုခြင်း၊ ဒဏ်ရာရဗမာ့လွတ်လပ်ရေးတပ်မတော်သားများအားပြုစုခြင်း၊ ဂျပန်တော်လှန်ရေးတွင် တိုင်း(၄)ဆေးတပ်ဖွဲ့နှင့် ၎င်းရဲဘော်များအား ပြုစုခဲ့ခြင်းတို့ကြောင့် ၁၉၆၃ ခုနှစ်တွင် သူနာပြုဆရာမကြီး ဗိုလ်မှူးဒေါ်ခင်အုန်းမြက မြန်မာနိုင်ငံ၏ ပထမဆုံးဆုရှင်အဖြစ် ကမ္ဘာနှင့်ရင်ပေါင်တန်း၍ ဆုရရှိခဲ့သည်။

ဆရာမကြီးကို အဖရှေ့နေကြီး ဦးဦးဖေ၊ အမိဒေါ်ခင်တို့မှ ၁၂၈၄ ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၁၁ ရက် (၁၉၂၂ ခုနှစ် အောက်တိုဘာ ၁၆ ရက်တွင် ရှမ်းပြည်နယ်မြောက်ပိုင်း၊ နမ္မတူမြို့တွင် မွေးဖွားခဲ့သည်။

## မြန်မာနိုင်ငံမှ ဒုတိယမြောက် "ဖလော့ရင့်နိုက်တင်ဂေးလ်"ဆုရှင် – အထက်တန်းသူနာပြုဆရာမကြီး ဒေါ်အမ်ယော်နမ်

ရှမ်းပြည်နယ်မြောက်ပိုင်းတွင် မြန်မာ့တပ်မတော်စစ်ကြောင်း ဒဏ်ရာရရဲဘော်များနှင့် အရပ်သူအရပ်သားများအား သက်စွန့်ဆံဖျား ပြုစုခြင်းကြောင့် ၁၉၉၃ ခုနှစ်တွင် သူနာပြုဦးစီးအရာရှိ ဒေါ်အမ်ယော်နမ်က မြန်မာနိုင်ငံအတွက် ဒုတိယအကြိမ် ဆုတံဆိပ်ရှင်အဖြစ် လက်ခံရယူခဲ့ခြင်းဖြစ်သည်။

ဆရာမကြီးကို အဘဦးအမ်လုပ်ကောင်း၊ အမိဒေါ်အယ်နန်းတောင်တို့မှ ၁၉၄၄ ခုနှစ်၊ နိုဝင်ဘာ ၂၃ ရက်တွင် မြစ်ကြီးနားမြို့၌ မွေးဖွားခဲ့သည်။

## မြန်မာနိုင်ငံမှတတိယမြောက် "ဖလော့ရင့်နိုက်တင်ဂေးလ်"ဆုရှင် – သားဖွားဆရာမကြီး ဒေါ်သိန်းရီ

စစ်ကိုင်းတိုင်းဒေသကြီး ဖောင်းပြင်မြို့တွင် မီးလောင်နေသော နေအိမ်အတွင်းမှ

အသက်ရှစ်နှစ်အရွယ် ကလေးငယ်အား စွန့်စွန့်စားစား ကယ်တင်ခဲ့သည့်အတွက် ၂၀၀၁ ခုနှစ်တွင် သားဖွားဆရာမ ဒေါ်သိန်းရီက (၃၈)ကြိမ်မြောက် "ဖလော့ရင့်နိုက်တင်ဂေးလ်"ဆုရှင်အဖြစ် ရရှိခဲ့သည်။

ဆရာမကြီးကို အဘဦးထွန်းစိန်၊ အမိဒေါ်နန်းလိပ်တို့မှ ၁၉၅၁ ခုနှစ်၊ အောက်တိုဘာ ၅ ရက်တွင် ရှမ်းပြည်နယ်၌ မွေးဖွားခဲ့သည်။

**မြန်မာနိုင်ငံမှ စတုတ္ထမြောက် "ဖလော့ရင့်နိုက်တင်ဂေးလ်"ဆုရှင် – ဦးစနိုင်နိုင်ထွန်း**

(၄၅)ကြိမ်မြောက် ဖလော့ရင့်နိုက်တင်ဂေးလ်ဆုကို မြန်မာနိုင်ငံမှ ဦးစနိုင်နိုင်ထွန်း အပါအဝင် နိုင်ငံပေါင်း ၁၈ နိုင်ငံမှ သူနာပြု ၃၆ ဦးရရှိခဲ့သည်။

ဦးစနိုင်နိုင်ထွန်းသည် ၂၀၀၈ ခုနှစ်တွင် ဖြစ်ပေါ်ခဲ့သော နာဂစ်မုန်တိုင်းကာလအတွင်း မိမိတာဝန်ကျရာ ဟိုင်းကြီးကျွန်းရှိ မုန်တိုင်းဒဏ်သင့်ပြည်သူများအား ဘေးကင်းရာသို့ ကူညီရွှေ့ပြောင်းပေးခြင်း၊ ရှေးဦးသူနာပြုပေးခြင်းတို့ကို သက်စွန့်ဆံဖျား စွမ်းစွမ်းတမံ ဆောင်ရွက်ခဲ့သောကြောင့် အဆိုပါဆုကို ဆွတ်ခူးရရှိခဲ့ခြင်းဖြစ်သည်။

## အလျား၊ အကျယ်အဝန်း၊ ထုထည်နှင့် အလေးချိန်ယူနစ်များ

### အလျားအတိုင်းအတာယူနစ်များ

**ဗြိတိသျှစနစ်**

| | | |
|---|---|---|
| ၁၂ လက်မ | = | ၁ ပေ |
| ၃ ပေ | = | ၁ ကိုက် |
| ၂၂ ကိုက် | = | ၁ သံကြိုး |
| ၁၀ သံကြိုး | = | ၁ ဖာလုံ |
| ၈ ဖာလုံ | = | ၁ မိုင် |
| ၁၇၆၀ ကိုက် | = | ၁ မိုင် |
| ၅၂၈၀ ပေ | = | ၁ မိုင် |

**မက်ထရစ်စနစ်**

| | | |
|---|---|---|
| ၁၀ မီလီမီတာ | = | ၁ စင်တီမီတာ |
| ၁၀ စင်တီမီတာ | = | ၁ ဒက်စီမီတာ |

| | | | |
|---|---|---|---|
| ၁၀ | ဒက်စီမီတာ | = | ၁ မီတာ |
| ၁၀ | မီတာ | = | ၁ ဒက်ကာမီတာ |
| ၁၀ | ဒက်ကာမီတာ | = | ၁ ဟက်တိုမီတာ |
| ၁၀ | ဟက်တိုမီတာ | = | ၁ ကီလိုမီတာ |
| ၁၀၀ | စင်တီမီတာ | = | ၁ မီတာ |
| ၁၀၀၀ | မီတာ | = | ၁ ကီလိုမီတာ |

ဆက်စပ်မှု

| | | | |
|---|---|---|---|
| ၁ | လက်မ | = | ၂.၅၄ စင်တီမီတာ |
| ၁ | ပေ | = | ၃၀.၄၈ စင်တီမီတာ |
| ၁ | ကိုက် | = | ၀.၉၁၄၄ မီတာ |
| ၁ | ဖာလုံ | = | ၂၀၁.၁၆၈ မီတာ |
| ၁ | မိုင် | = | ၁.၆၀၉ ကီလိုမီတာ |
| ၁ | မီလီမီတာ | = | ၀.၀၃၉၃၇ လက်မ |
| ၁ | စင်တီမီတာ | = | ၀.၃၉၃၇ လက်မ |
| ၁ | ဒက်စီမီတာ | = | ၃.၉၃၇ လက်မ |
| ၁ | မီတာ | = | ၃၉.၃၇ လက်မ |
| ၁ | ဒက်ကာ | = | ၃၉၃.၇ လက်မ |
| ၁ | ဟက်တိုမီတာ | = | ၃၂၈.၀၈၃၃ ပေ |
| ၁ | ကီလိုမီတာ | = | ၀.၆၂၁၃၇ မိုင် |

**အကျယ်အဝန်းယူနစ်များ**

**ဗြိတိသျှစနစ်**

| | | | |
|---|---|---|---|
| ၁၄၄ | စတုရန်းလက်မ | = | ၁ စတုရန်းပေ |
| ၉ | စတုရန်းပေ | = | ၁ စတုရန်းကိုက် |
| ၄၈၄၀ | စတုရန်းကိုက် | = | ၁ ဧက |
| ၆၄၀ | ဧက | = | ၁ စတုရန်းမိုင် |

**မက်ထရစ်စနစ်**

| | | | |
|---|---|---|---|
| ၁၀၀ | စတုရန်းမီလီမီတာ | = | ၁ စတုရန်းစင်တီမီတာ |
| ၁၀၀ | စတုရန်းစင်တီမီတာ | = | ၁ စတုရန်းဒက်စီမီတာ |

| | | |
|---|---|---|
| ၁၀၀ စတုရန်းဒက်စီမီတာ | = | ၁ စတုရန်းမီတာ |
| ၁၀၀ စတုရန်းမီတာ | = | ၁ စတုရန်းဒက်ကာမီတာ |
| ၁၀၀ စတုရန်းဒက်ကာမီတာ | = | ၁ စတုရန်းဟက်တိုမီတာ |
| ၁၀၀ စတုရန်းဟက်တိုမီတာ | = | ၁ စတုရန်း ကီလိုမီတာ |

**ဆက်စပ်မှု**

| | | |
|---|---|---|
| ၁စတုရန်းလက်မ | = | ၆.၄၅၁၆ စတုရန်းစင်တီမီတာ |
| ၁စတုရန်းပေ | = | ၀.၀၉၂၉ စတုရန်းမီတာ |
| ၁စတုရန်းကိုက် | = | ၀.၈၃၆၁ စတုရန်းမီတာ |
| ၁ဧက | = | ၀.၄၀၄၇ ဟက်တာ |
| ၁စတုရန်းမိုင် | = | ၂၅၈.၉၉၈၈ ဟက်တာ |
| | = | ၂.၅၉ စတုရန်းကီလိုမီတာ |

## ထုထည်တိုင်းတာမှုယူနစ်များ

**ဗြိတိသျှစနစ်**

| | | |
|---|---|---|
| ၁၇၂၈ ကုဗလက်မ | = | ၁ ကုဗပေ |
| ၂၇ ကုဗပေ | = | ၁ ကုဗကိုက် |

**ယူနစ်စနစ်**

| | | |
|---|---|---|
| ၁၀၀၀ ကုဗမီလီမီတာ | = | ၁ ကုဗစင်တီမီတာ |
| ၁၀၀၀ ကုဗစင်တီမီတာ | = | ၁ ကုဗဒက်စီမီတာ |
| ၁၀၀၀ ကုဗဒက်စီမီတာ | = | ၁ ကုဗမီတာ |
| ၁၀၀၀ ကုဗမီတာ | = | ၁ ကုဗဒက်ကာမီတာ |
| ၁၀၀၀ ကုဗဒက်ကာမီတာ | = | ၁ ကုဗဟက်တိုမီတာ |

**ဆက်စပ်မှု**

| | | |
|---|---|---|
| ၁ ကုဗလက်မ | = | ၁၆.၃၈၇ ကုဗစင်တီမီတာ |
| ၁ ကုဗပေ | = | ၀.၀၂၈၃ ကုဗမီတာ |
| ၁ ကုဗကိုက် | = | ၀.၇၆၄၆ ကုဗမီတာ |
| ၁ ကုဗစင်တီမီတာ | = | ၀.၀၆၁ ကုဗလက်မ |
| ၁ ကုဗဒက်စီမီတာ | = | ၀.၀၃၅၃ ကုဗပေ |
| ၁ ကုဗမီတာ | = | ၁.၃၀၈ ကုဗကိုက် |

| | | | |
|---|---|---|---|
| ၁ | ကုဗဒက်ကာမီတာ | = | ၁၃၀၈ ကုဗကိုက် |
| ၁ | ကုဗဟက်တိုမီတာ | = | ၁,၃၀၈,၀၀၀ ကုဗကိုက် |

**ဝင်ဆံ့မှုပမာဏယူနစ်များ**

| | | | | | |
|---|---|---|---|---|---|
| ၁ | မီလီလီတာ | = | ၀.၀၆၁ ကုဗလက်မ | | |
| ၁ | စင်တီလီတာ | = | ၁၀ မီလီလီတာ | = | ၀.၆၁၀၃ ကုဗလက်မ |
| ၁ | ဒက်စီလီတာ | = | ၁၀ စင်တီလီတာ | = | ၆.၁၀၂၅ ကုဗလက်မ |
| ၁ | လီတာ | = | ၁၀ ဒက်စီလီတာ | = | ၆၁.၀၂၅ ကုဗလက်မ |
| ၁ | ဒက်ကာလီတာ | = | ၁၀ လီတာ | = | ၆၁၀.၂၅ ကုဗလက်မ |
| ၁ | ဟက်တိုလီတာ | = | ၁၀ ဒက်ကာလီတာ | = | ၆၁၀၂.၅၅ ကုဗလက်မ |
| ၁ | ကီလိုလီတာ | = | ၁၀ ဟက်တိုလီတာ | = | ၃၅.၃၁၆ ကုဗပေ |
| | | = | ၂၆၄.၁၅၈ ဂါလန် | | |

**အလေးချိန်စနစ်ယူနစ်များ**

**ရှေးရိုးဗြိတိသျှပေါင်ချိန်စနစ်**

| | | | |
|---|---|---|---|
| ၁ | ပေါင် | = | ၁၆ အောင်စ |
| ၁ | စတုံ | = | ၁၄ ပေါင် |
| ၁ | တန် | = | ၂၂၄၀ ပေါင် |

မက်ထရစ်စနစ်

| | | | |
|---|---|---|---|
| ၁ | စင်တီဂရမ် | = | ၁၀ မီလီဂရမ် |
| ၁ | ဒက်စီဂရမ် | = | ၁၀ စင်တီဂရမ် |
| ၁ | ဂရမ် | = | ၁၀ ဒက်စီဂရမ် |
| ၁ | ဒက်ကာဂရမ် | = | ၁၀ ဂရမ် |
| ၁ | ဟက်တိုဂရမ် | = | ၁၀ ဒက်ကာဂရမ် |
| ၁ | ကီလိုဂရမ် | = | ၁၀ ဟက်တိုဂရမ် |
| ၁ | မက်ထရစ်တန် (အမေရိကန်သုံး) | = | ၁၀၀၀ ကီလိုဂရမ် |

**ဆက်စပ်မှု**

| | | | |
|---|---|---|---|
| ၁ | ပေါင် | = | ၄၅၃.၅၉၃၄ ဂရမ် = ၀.၄၅၃၆ ကီလိုဂရမ် |

| | | |
|---|---|---|
| ၁ တန် | = | ၁.၁၂ မက်ထရစ်တန် (အမေရိကန်သုံး) |
| ၁ ကီလိုဂရမ် | = | ၂.၂၀၄၆ ပေါင် |
| ၁ မက်ထရစ်တန် | = | ၂၂၀၄.၆၂ ပေါင် |

## မှတ်သားဖွယ်ရာဆောင်ပုဒ်များ

၁။ တပ်မတော်သည် အမျိုးသားရေးကို ဘယ်တော့မှ သစ္စာမဖောက်။
The Tatmadaw shall never betray national interests.

၂။ တပ်မတော်အင်အားရှိမှ တိုင်းပြည်အင်အားရှိမည်။
Only when the tatmadaw is strong will the nation be strong.

၃။ ပြည့်အင်အားသည် ပြည်တွင်းမှာသာရှိသည်။
The strength of the nation lies only within.

၄။ နယ်ချဲ့လက်ပါးစေအလိုမရှိ။
Down with minion of Colonialism.

၅။ တိုင်းရင်းသားအချင်းချင်းလေးစားပါ။ ချစ်ခင်ပါ။ တန်းတူရည်တူ ဆက်ဆံပါ။
Keep up respect, fraternity and equality among nationalities.

၆။ သင့်ကြောင့် ပြည်ထောင်စုမပြိုကွဲပါစေနှင့်။
Don't let the Union disintegrate because of you.

၇။ တည်ငြိမ်မှုသည် ပဓာန။
Tranquality is primary.

၈။ လွတ်လပ်မှုသည် ထာဝရ။
Independence is for perpetuity.

၉။ ဒီမိုကရေစီ၏ဆန့်ကျင်ဘက်သည် မင်းမဲ့စရိုက်။
The opposite of democracy is anarchy.

၁၀။ တရားဥပဒေစိုးမိုးမှ ပြည်သူ့ဘဝ အေးချမ်းရ။
With Law prevailing people's life will be at peace.

၁၁။ ပြည်ထောင်စုမပြိုကွဲရန် ဒို့ရည်သန် စီမံအားထုတ် ဒို့အလုပ်။
To prevent disintegration of the union is our aim, so shall we strive.

၁၂။ စည်းကမ်းရှိမှ တိုးတက်မည်။
Only when there is discipline will there be progress.

၁၃။ ဘယ်သူခွဲခွဲ ဒို့မကွဲ အမြဲစည်းလုံးမည်။
No matter who tries to divide us we will always united.

၁၄။ စည်းလုံးခြင်းသည်အင်အား။
Unity is strength.

၁၅။ လွတ်လပ်ရေးကို ကာကွယ်ပါ။
Safeguard National independence.

၁၆။ တပ်မတော်ဖြိုခွဲမည့်အကြံ ဒို့လက်မခံ။
We reject any scheme to break up the Tatmadaw.

၁၇။ တပ်မတော်ဖြိုခွဲသူ ဒို့ရန်သူ။
Anyone who tries to break up the Tatmadaw is our enenmy.

၁၈။ ပြည်ထောင်စုစိတ်ဓာတ်သည် မှန်ကန်သော မျိုးချစ်စိတ်ဓာတ်ဖြစ်သည်။
Only Union Spirit is the true patriotism.

၁၉။ တည်ငြိမ်အေးချမ်းမှ တိုင်းပြည်ဖွံ့ဖြိုးတိုးတက်မည်။
Only with stability and peace will the nation develop.

## အသက်မွေးဝမ်းကျောင်းတက္ကသိုလ်များ၊ တက္ကသိုလ်/ကောလိပ်များနှင့် အစိုးရသင်တန်းကျောင်းများ

၁။ ပြည်ထောင်စုတိုင်းရင်းသားလူမျိုးများ ဖွံ့ဖြိုးရေးတက္ကသိုလ် (ရန်ကုန်)
၂။ ပြည်ထောင်စုတိုင်းရင်းသားလူမျိုးများ ဖွံ့ဖြိုးရေးတက္ကသိုလ် (စစ်ကိုင်း)
၃။ ဆေးတက္ကသိုလ်-၁ (ရန်ကုန်) (Institute of Medicine–1 –Yangon)
၄။ ဆေးတက္ကသိုလ်-၂ (ရန်ကုန်) (Institute of Medicine–2 –Yangon)
၅။ ဆေးတက္ကသိုလ် (မကွေး) (Institute of Medicind– Magway)
၆။ ဆေးဝါးတက္ကသိုလ် (ရန်ကုန်) (Institute of Pharmacy– Yangon)
၇။ ဆေးဘက်ဆိုင်ရာနည်းပညာတက္ကသိုလ် (Institute of Medical Techonology)
၈။ သူနာပြုတက္ကသိုလ် (ရန်ကုန်) (University of Nursing– Yangon)
၉။ စိုက်ပျိုးရေးတက္ကသိုလ်(ရေဆင်း–နေပြည်တော်)
၁၀။ မြန်မာနိုင်ငံလေကြောင်းနှင့် အာကာသပညာတက္ကသိုလ်(MyanmarAeros pace Engineering University)

၁၁။ မွေးမြူရေးဆိုင်ရာဆေးတက္ကသိုလ် (ရေဆင်း–နေပြည်တော်)
၁၂။ မြန်မာ့လေကြောင်းအကယ်ဒမီ (Myanmar Aviation Academy)
၁၃။ မြန်မာနိုင်ငံရေကြောင်းပညာတက္ကသိုလ် (Myanmar Maritime University)
၁၄။ မြန်မာနိုင်ငံကုန်သွယ်ရေကြောင်းကောလိပ် (Myanmar Mercantile Marine College)
၁၅။ သစ်တောတက္ကသိုလ် (ရေဆင်း–နေပြည်တော်)
၁၆။ ကွန်ပျူတာတက္ကသိုလ် (ရန်ကုန်) (University of Computer Sciences)
၁၇။ ရန်ကုန်နည်းပညာတက္ကသိုလ် (Yangon Technology University– YTU)
၁၈။ ရတနာပုံနည်းပညာတက္ကသိုလ် (ရတနာပုံဆိုက်ဘာစီးတီး) (Yadanapon Technology University)
၁၉။ နိုင်ငံခြားဘာသာစကားတက္ကသိုလ် (University of Foreign Languages)
၂၀။ သမဝါယမတက္ကသိုလ် (စစ်ကိုင်း) (Co–operative University– Sagaing)
၂၁။ သမဝါယမတက္ကသိုလ် (သန်လျင်) (Co–operative University– Thanlyin)
၂၂။ အမျိုးသားယဉ်ကျေးမှုနှင့် အနုပညာတက္ကသိုလ် (ရန်ကုန်) (University of Culture–Yangon)
၂၃။ အမျိုးသားယဉ်ကျေးမှုနှင့် အနုပညာတက္ကသိုလ် (မန္တလေး) (University of Culture–Mandalay)
၂၄။ ဗဟိုဝန်ထမ်းတက္ကသိုလ် (ဖောင်ကြီး–ရန်ကုန်)(Central Institute of Service)
၂၅။ ဗဟိုဝန်ထမ်းတက္ကသိုလ် (ဖောင်ကြီး–ပြင်ဦးလွင်)(Central Institute of Service)
၂၆။ သူနာပြုနှင့်သားဖွားသင်တန်းကျောင်းများ
၂၇။ သဘာဝဘေးအန္တရာယ်စီမံခန့်ခွဲမှုသင်တန်းကျောင်း
၂၈။ စက်မှုသင်တန်းကျောင်း(ဆင်တဲ) (Technical High School)

**ပညာရေးကောလိပ်များ**

၁။ ကျောက်ဖြူပညာရေးကောလိပ်
၂။ စစ်ကိုင်းပညာရေးကောလိပ်
၃။ တောင်ကြီးပညာရေးကောလိပ်
၄။ တောင်ငူပညာရေးကောလိပ်
၅။ ထားဝယ်ပညာရေးကောလိပ်
၆။ ပခုက္ကူပညာရေးကောလိပ်

၇။ ပုသိမ်ပညာရေးကောလိပ်
၈။ ပြည်ပညာရေးကောလိပ်
၉။ ဘားအံပညာရေးကောလိပ်
၁၀။ ဘိုကလေးပညာရေးကောလိပ်
၁၁။ မကွေးပညာရေးကောလိပ်
၁၂။ မော်လမြိုင်ပညာရေးကောလိပ်
၁၃။ မုံရွာပညာရေးကောလိပ်
၁၄။ မန္တလေးပညာရေးကောလိပ်
၁၅။ မိတ္ထီလာပညာရေးကောလိပ်
၁၆။ မြစ်ကြီးနားပညာရေးကောလိပ်
၁၇။ မြောင်းမြပညာရေးကောလိပ်
၁၈။ ရန်ကင်းပညာရေးကောလိပ်
၁၉။ လှည်းကူးပညာရေးကောလိပ်
၂၀။ သင်္ဃန်းကျွန်းပညာရေးကောလိပ်
၂၁။ လားရှိုးပညာရေးကောလိပ်
၂၂။ လွိုင်ကော်ပညာရေးကောလိပ်

**အစိုးရနည်းပညာကောလိပ်၊ စက်မှုလက်မှုသိပ္ပံနှင့် နည်းပညာအထက်တန်းကျောင်းများ**

အစိုးရစက်မှုလက်မှုသိပ္ပံ(GTI) ၂၅ ခုမှာ ပူတာအို၊ ဟားခါး၊ မော်လမြိုင်၊ သံတွဲ၊ ကျောက်ဖြူ၊ ရွှေပြည်သာ၊ အင်းစိန်၊ မန္တလေး၊ ကျောက်ပန်းတောင်း၊ ကျောက်ဆည်၊ ပြင်ဦးလွင်၊ ကန့်ဘလူ၊ ခန္တီး၊ ဂန့်ဂေါ၊ ချောက်၊ ရေနံချောင်း၊ သရက်၊ မကွေး၊ လက်ပံတန်း၊ ဝါးခယ်မ၊ လပွတ္တာ၊ ကျိုက်လတ်မြို့တို့ ဖြစ်သည်။

အစိုးရနည်းပညာကောလိပ် ၃ ခုမှာ မိုးညှင်း၊ မြင်းခြံနှင့် ရွှေဘိုတို့တွင် တည်ရှိပြီး စက်မှုအထက်တန်းကျောင်း (THS) တစ်ခုမှာ ကော့သောင်း၌ တည်ရှိသည်။ အစိုးရနည်းပညာအထက်တန်းကျောင်း (၃၄ ကျောင်း) တည်ရှိရာမြို့များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် –

| | | | |
|---|---|---|---|
| ၁။ ပူတာအို | ၁၀။ လားရှိုး | ၁၉။ တောင်ငူ | ၂၈။ ပင်းပတ် |
| ၂။ မြစ်ကြီးနား | ၁၁။ ပင်လုံ | ၂၀။ စစ်တွေ | ၂၉။ မြင်းခြံ |
| ၃။ ဗန်းမော် | ၁၂။ တောင်ကြီး | ၂၁။ ဟသ်ာတ | ၃၀။ ချောင်းဦး |
| ၄။ ခန္တီး | ၁၃။ ကျိုင်းတုံ | ၂၂။ မအူပင် | ၃၁။ ရွှာမ |

## ရည်ရွယ်ချက်

၂။ နိုင်ငံတော်ကာကွယ်ရေး၊ လုံခြုံရေးတာဝန်များတွင် တပ်မတော်၏ဦးဆောင်မှုဖြင့် ဆောင်ရွက်သွားရန်၊ စစ်မှုထမ်းဟောင်းအဖွဲ့ဝင်အချင်းချင်း မိသားစုများကို ကူညီဆောင်ရွက်နိုင်ရန်၊ နိုင်ငံတော်တည်ဆောက်ရေးလုပ်ငန်းများတွင် အခြားသော မိတ်ဖက်အဖွဲ့အစည်းများနှင့်အတူ ပါဝင်ကူညီဆောင်ရွက်သွားရန်တို့ ဖြစ်သည်။

## ဖွဲ့စည်းပုံ

၃။ စစ်မှုထမ်းဟောင်းအဖွဲ့သည် ဗဟိုစည်းရုံးရေးကော်မတီဝင်များ၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ပြည်နယ်/တိုင်းစစ်မှုထမ်းဟောင်း ကြီးကြပ်ရေးအဖွဲ့(၁၉)ဖွဲ့၊ ခရိုင်စစ်မှုထမ်းဟောင်း ကြီးကြပ်ရေးအဖွဲ့(၆၅)ဖွဲ့နှင့် မြို့နယ်စစ်မှုထမ်းဟောင်းအဖွဲ့စည်းရုံးရေးကော်မတီ(၃၀၄)ဖွဲ့တို့ကို ဖွဲ့စည်းလှုပ်ရှားဆောင်ရွက်လျက်ရှိသည်။

## အဖွဲ့ဝင်အဖြစ် လျှောက်ထားခြင်း

၄။ အောက်ပါအချက်အလက်များနှင့်ကိုက်ညီသူ စစ်မှုထမ်းဟောင်းများသည် မိမိဆန္ဒအလျောက် စစ်မှုထမ်းဟောင်းအဖွဲ့တွင် အဖွဲ့ဝင်အဖြစ် သတ်မှတ်ထားသည့်နည်းလမ်းအတိုင်း လျှောက်ထားနိုင်သည် -

(က) လွတ်လပ်ရေးမရမီကာလ၊ လွတ်လပ်ရေးကြိုးပမ်းစဉ်ကာလနှင့် လွတ်လပ်ရေးရပြီးကာလတို့တွင် ဖွဲ့စည်းတည်ထောင်ခဲ့သည့် စစ်တပ် သို့မဟုတ် တပ်မတော်တွင် တပ်မတော်သားအဖြစ် ထမ်းဆောင်ခဲ့သူ၊

(ခ) မြန်မာနိုင်ငံစစ်မှုထမ်းဟောင်းအဖွဲ့ ဥပဒေပြဋ္ဌာန်းချက်များ၊ ဗဟိုကောင်စီနှင့် ဗဟိုအမှုဆောင်အဖွဲ့က အခါအားလျော်စွာ ထုတ်ပြန်သည့် လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းချက်များနှင့် ညွှန်ကြားချက်များကို လိုက်နာရန် ကတိပြုသူ၊

(ဂ) စစ်မှုထမ်းဟောင်းအဖွဲ့က ပေးအပ်သော တာဝန်နှင့် ဝတ္တရားများကို ထမ်းဆောင်ရန် ကတိပြုသူ၊

(ဃ) နိုင်ငံရေးပါတီတစ်ခုခု၏ ပါတီဝင်မဟုတ်သူ၊

(င) တည်ဆဲဥပဒေတစ်ရပ်ရပ်အရ မတရားအသင်းအဖြစ် ကြေညာခြင်းခံရသည့် သို့မဟုတ် နိုင်ငံတော်အား လက်နက်ကိုင်ဆန့်ကျင်တိုက်ခိုက်သည့် အသင်းအဖွဲ့တစ်ခုခုတွင် မပါဝင်ခဲ့သူ၊

( စ ) တပ်ထွက်လက်မှတ်အရ ကောင်းမွန်စွာ ထွက်ခွင့်ရရှိသူ၊
(ဆ) နယ်ဘက်ဆိုင်ရာတွင် အကျင့်စာရိတ္တကြောင့် ပြစ်ဒဏ်ကျခံရခြင်း မဟုတ်သူ၊
( ဇ ) ဆေးစစ်ချက်အရ ရူးသွပ်သူ၊ စိတ်ရောဂါခံစားရခြင်း မဟုတ်သူ၊
( ဈ ) တပ်မတော်အိမ်ထောင်စုဝင်အငြိမ်းစားလစာဆက်လက်ခံစားခွင့်ရှိသူ များလည်း စစ်မှုထမ်းဟောင်းအဖွဲ့ဝင်အဖြစ် လျှောက်ထားနိုင်သည်။

**တည်နေရာ**

၅။ မြန်မာနိုင်ငံစစ်မှုထမ်းဟောင်းအဖွဲ့သည် ဒက္ခိဏသီရိမြို့နယ်၊ နေပြည်တော်တွင်တည်ရှိသည်။ ဆက်သွယ်ရန်ဖုန်းနံပါတ်မှာ ၀၆၇-၃၀၇၉၁ ဖြစ်သည်။

## ဒေါ်ခင်ကြည်ဖောင်ဒေးရှင်း

**စတင်ဖွဲ့စည်းသည့်ကာလ**

၁။ ဒေါ်ခင်ကြည်ဖောင်ဒေးရှင်း (Daw Khin Kyi Foundation)ကို နိုင်ငံတော်၏ အတိုင်ပင်ခံပုဂ္ဂိုလ် ဒေါ်အောင်ဆန်းစုကြည်၏မိခင် ဒေါ်ခင်ကြည်အမှတ်တရအဖြစ် ၂၀၁၂ ခုနှစ်တွင် စတင်ဖွဲ့စည်းတည်ထောင်ခဲ့ပါသည်။

**ရည်ရွယ်ချက်**

၂။ မြန်မာနိုင်ငံတွင်းရှိ ပြည်သူများ၊ အထူးသဖြင့် ဖွံ့ဖြိုးတိုးတက်မှု အနည်းဆုံးဒေသများရှိ ပြည်သူများ၏ ကျန်းမာရေး၊ ပညာရေးနှင့် လူနေမှုအဆင့်အတန်းများကို မြှင့်တင်ပေးနိုင်ရန် ရည်ရွယ်၍ ဒေါ်ခင်ကြည်ဖောင်ဒေးရှင်းကို ဖွဲ့စည်းထားပါသည်။

**ဖောင်ဒေးရှင်း၏ ဦးဆောင်မှုအခန်းကဏ္ဍ**

၃။ ဒေါ်ခင်ကြည်ဖောင်ဒေးရှင်းသည် ဖောင်ဒေးရှင်းနာယက ဒေါ်အောင်ဆန်းစုကြည်၏ ဦးဆောင်မှုကို ခံယူပြီး လုပ်ငန်းကြီးကြပ်မှုကော်မတီ၏ စီမံခန့်ခွဲမှုများဖြင့် အခြားမိတ်ဖက်အဖွဲ့အစည်းများနှင့် ပူးပေါင်း၍ ဖောင်ဒေးရှင်းလုပ်ငန်းများကို ဆောင်ရွက်လျက်ရှိပါသည်။

**ဖောင်ဒေးရှင်း၏ လုပ်ငန်းဆောင်ရွက်မှုများ**

၄။ ဒေါ်ခင်ကြည်ဖောင်ဒေးရှင်းသည် ပြည်တွင်းပြည်ပမှ အေဂျင်စီများ၊ အဖွဲ့အစည်းများနှင့် ပူးပေါင်း၍ အသင်း၏ ရည်ရွယ်ချက်များကို အကောင်အထည်ဖော်

ဆောင်ရွက်လျက်ရှိပါသည်။ လက်ရှိတွင် ဖောင်ဒေးရှင်းလုပ်ငန်းများအနေဖြင့် ရွှေ့လျား စာကြည့်တိုက်လုပ်ငန်းများဆောင်ရွက်ခြင်းနှင့် လူငယ်များ အလုပ်အကိုင်အခွင့် အလမ်းတိုးတက်စေရေးအတွက် ဟိုတယ်ဝန်ဆောင်မှုသင်တန်းများ ဖွင့်လှစ်ခြင်း တို့ကို အဓိကဆောင်ရွက်လျက်ရှိပါသည်။ ထို့ပြင် အခြားလုပ်ငန်းများအနေဖြင့် ပြည်သူ့နီတိပညာပေးသင်တန်းများ ဖွင့်လှစ်ပို့ချခြင်း၊ အင်္ဂလိပ်စကားပြောသင်တန်းများ ဖွင့်လှစ်သင်ကြားပေးခြင်း၊ စာပေဟောပြောပွဲများ ကျင်းပခြင်းတို့ကိုလည်း အခါအားလျော်စွာ ဆောင်ရွက်လျက်ရှိပါသည်။

**တည်နေရာ**

၄။ အမှတ် ၆၀၊ တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့တွင် ဖွင့်လှစ်ထားသည်။ ဆက်သွယ်ရန်ဖုန်းနံပါတ်မှာ ၀၉-၄၅၀၆၉၂၉၂၉၊ ၀၉-၂၅၄ ၃၈၉၉၅၉ တို့ဖြစ်သည်။

## မြန်မာနိုင်ငံ မူးယစ်ဆေးဝါးဆန့်ကျင်ရေးအသင်း

**စတင်ဖွဲ့စည်းသည့်ရက်**

၁။ ၁၂-၁၀-၁၉၉၄

**ရည်ရွယ်ချက်**

၂။ မြန်မာနိုင်ငံမူးယစ်ဆေးဝါးဆန့်ကျင်ရေးအသင်း၏ ရည်ရွယ်ချက်မှာ အောက်ပါအတိုင်းဖြစ်သည် -

(က) မြန်မာနိုင်ငံတွင် ကျရောက်လျက်ရှိသော မူးယစ်ဆေးစွဲရောဂါ အန္တရာယ်ကို နိုင်ငံတော်အစိုးရက အမျိုးသားရေးအသွင်ဖြင့် တားဆီးကာကွယ်လျက်ရှိရာ အသင်းအဖွဲ့တစ်ရပ်အနေဖြင့် နိုင်ငံတော်အစိုးရ၏ လုပ်ငန်းများအား အထောက်အကူပြုပံ့ပိုးရန်၊

( ခ ) မူးယစ်ဆေး အကြောထဲထိုးသွင်းသူများ၌ ခုခံအားကျဆင်းမှု ရောဂါ လျင်မြန်စွာ ကူးစက်လျက်ရှိရာ ဘက်ပေါင်းစုံမှ ဝိုင်းဝန်းပါဝင်၍ ထိရောက်စွာ တားဆီးကာကွယ်နှိမ်နင်းနိုင်ရန်နှင့် နှောင့်နှေးကြန့်ကြာမှုမရှိဘဲ ဆောလျင်စွာဆောင်ရွက်ရန်လိုအပ်နေသည့်အလျောက် ဤအသင်းသည် အင်အားတစ်ရပ်အနေဖြင့် ပါဝင်ဆောင်ရွက်ရန်၊

( ဂ ) အသင်း၏ရည်မှန်းချက်များကို အောင်မြင်စွာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**ဖွဲ့စည်းပုံ**

၃။ မြန်မာနိုင်ငံမူးယစ်ဆေးဝါးဆန့်ကျင်ရေးအသင်းကို ဥက္ကဋ္ဌ(၁)ဦး၊ ဒုတိယဥက္ကဋ္ဌ (၂)ဦး၊ အတွင်းရေးမှူး(၁)ဦး၊ တွဲဖက်အတွင်းရေးမှူး (၂) ဦး၊ ဘဏ္ဍာရေးမှူး၊ စာရင်းစစ်၊ သတင်းပြန်ကြားရေးမှူး အပါအဝင် စုစုပေါင်း(၁၉) ဦးတို့ဖြင့် ဖွဲ့စည်းထားသည်။ တစ်နိုင်ငံလုံး အတိုင်းအတာဖြင့် ဖွဲ့စည်းထားရှိသော မူးယစ်ဆေးဝါးဆန့်ကျင်ရေးအသင်းများမှာ –

(က) တိုင်းဒေသကြီးအဆင့် (၈) သင်း၊

( ခ ) ပြည်နယ်အဆင့် (၉) သင်း၊

( ဂ ) ခရိုင်အဆင့် (၃၁) သင်း၊

(ဃ) မြို့နယ်အဆင့် (၁၅၂) သင်း။

**အသင်းဝင်အဖြစ် လျှောက်ထားခြင်း**

၄။ မြန်မာနိုင်ငံ မူးယစ်ဆေးဝါးဆန့်ကျင်ရေးအသင်းဝင်ဖြစ်ရန် အောက်ပါအချက်များ လိုအပ်ပါသည် –

(က) လူမှုရေးစိတ်ပါဝင်စားသူ၊

( ခ ) နိုင်ငံရေးပါတီဝင်အဖြစ်မှ ကင်းရှင်းသူ၊

( ဂ ) စိတ်မနှံ့သူနှင့် သာသနာ့ဝန်ထမ်းမဟုတ်သူ၊

(ဃ) မူးယစ်ဆေးဝါးပပျောက်ရေးလုပ်ငန်းများကို အသိစိတ်ဓာတ်ဖြင့် ပါဝင်ဆောင်ရွက်လိုသူ၊

( င ) နိုင်ငံတော်နှင့် အသင်းကြီးမှ ပေးအပ်သော တာဝန်များကို ထမ်းဆောင်နိုင်သူ။

**တည်နေရာ**

၅။ အမှတ်–၃၇(G)၊ မြေကွက်အမှတ် (၁/ဗ)၊ ကျွန်းတောလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့တွင် ဖွင့်လှစ်ထားသည်။ ဆက်သွယ်ရန်ဖုန်းနံပါတ်မှာ ၀၁–၅၀၂၈၉၂၊ ၅၀၂၈၉၃ တို့ဖြစ်သည်။

## မြန်မာနိုင်ငံ ပန်းချီ ပန်းပု အစည်းအရုံး

**စတင်ဖွဲ့စည်းသည့်ရက်**

၁။ ၁၈–၇–၁၉၉၂ ရက်နေ့တွင် မြန်မာနိုင်ငံ ရိုးရာပန်းပညာရှင်များ အစည်းအရုံး

အဖြစ် စတင်ဖွဲ့စည်းခဲ့သည်။ ၂၈-၄-၂၀၁၃ ရက်နေ့တွင် ယဉ်ကျေးမှုဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် မြန်မာနိုင်ငံ ပန်းချီပန်းပုအစည်းအရုံးအဖြစ် ပြောင်းလဲဖွဲ့စည်းခဲ့သည်။

**ရည်ရွယ်ချက်**

၂။ မြန်မာနိုင်ငံ ပန်းချီပန်းပုအစည်းအရုံး၏ ရည်ရွယ်ချက်မှာ အောက်ပါအတိုင်းဖြစ်သည် -

(က) ခေတ်မီ၍ ဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော် တည်ဆောက်ရာတွင် တစ်တပ်တစ်အားဖြင့် ပါဝင်ဆောင်ရွက်ရန်၊

( ခ ) ရိုးရာပန်းပညာရှင်များကိုစုစည်း၍ ပညာရှင်များ၏ ဘဝမြှင့်တင်ရေးလုပ်ငန်းများ ဆောင်ရွက်ရန်၊

( ဂ ) မြန်မာ့ပန်း(၁၀)မျိုး ပညာရပ်များခေတ်နှင့်အညီတိုးတက်ဖွံ့ဖြိုးပြီး နိုင်ငံတကာ နယ်ပယ်တွင် ထင်ရှားပေါ်လွင်မှု ရှိလာစေရန်၊

(ဃ) တိုင်းကျိုးပြည်ပြု လက်ရာမွန်များကို ဖော်ထုတ်ထိန်းသိမ်းပြီး ရိုးရာယဉ်ကျေးမှု အမွေအနှစ် ပန်း(၁၀)မျိုးပညာများကို မျိုးဆက်သစ်များသို့ လက်ဆင့်ကမ်းရန်။

**ဖွဲ့စည်းပုံ**

၃။ မြန်မာနိုင်ငံ ပန်းချီပန်းပုအစည်းအရုံးကို ဥက္ကဋ္ဌတစ်ဦး၊ ဒုတိယ ဥက္ကဋ္ဌ နှစ်ဦး၊ အတွင်းရေးမှူး တစ်ဦး၊ တွဲဖက်အတွင်းရေးမှူးနှစ်ဦးနှင့် အမှုဆောင်အဖွဲ့ဝင် (၂၆) ဦးတို့ဖြင့် ဖွဲ့စည်းဆောင်ရွက်လျက်ရှိသည်။

**အစည်းအရုံးဝင်အဖြစ်လျှောက်ထားခြင်း**

၄။ မြန်မာနိုင်ငံ ပန်းချီပန်းပုအစည်းအရုံးဝင်ဖြစ်ရန် အောက်ပါအချက်များလိုအပ်ပါသည်-

(က) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံသားဖြစ်ရမည်၊

( ခ ) အသက်(၁၈)နှစ်ပြည့်ပြီးသူ ဖြစ်ရမည်၊

( ဂ ) ရိုးရာပန်းပညာ ၁၀ မျိုးအလိုက် ပန်းပညာ တစ်ခုခုကို တတ်ကျွမ်းနားလည်သူ ပညာရှင် (သို့မဟုတ်) ပန်း(၁၀)မျိုးဆိုင်ရာ လုပ်ငန်းတစ်ခုဖြင့် အသက်မွေးဝမ်းကျောင်းပြုသူ ဖြစ်ရမည်၊

(ဃ) သတ်မှတ်ဝင်ကြေး၊ နှစ်စဉ်ကြေးများ မှန်မှန် ပေးသွင်းနိုင်ရမည်၊

( င ) နိုင်ငံရေးပါတီတစ်ခု၏ အဖွဲ့ဝင်မဖြစ်ရ၊ (အမျိုးသားနိုင်ငံရေးကို မဆိုလိုပါ)

( စ ) ပေးအပ်သည့် အစည်းအရုံးတာဝန်များကို ထမ်းဆောင်ရမည်၊

(ဆ) အစည်းအရုံး၏ စည်းကမ်းချက်များကို လိုက်နာရမည်၊

( ဇ ) စိတ်ပေါ့သွပ်ခြင်းမရှိရ၊

( ဈ ) မြို့နယ်ဖြစ်စေ၊ ခရိုင်ဖြစ်စေ၊ တိုင်းဒေသကြီးဖြစ်စေ၊ ဗဟိုဖြစ်စေ၊ အစည်းအရုံး ဥက္ကဋ္ဌ၏ ထောက်ခံမှုရရှိသူ ဖြစ်ရမည်။

## တည်နေရာ

၅။ မြန်မာနိုင်ငံ ပန်းချီပန်းပုအစည်းအရုံးကို အမှတ်(၁၈၂)၊ ဗိုလ်ချုပ်ဈေး အရှေ့ဘက်တန်း၊ ပန်းပဲတန်းမြို့နယ်၊ ရန်ကုန်မြို့တွင် ဖွင့်လှစ်ထားသည်။ ဆက်သွယ်ရန်ဖုန်းနံပါတ်များမှာ ၀၁–၂၈၇၆၀၄၊ ၀၁–၂၄၀၉၆၆ တို့ဖြစ်သည်။

# မြန်မာနိုင်ငံ ရုပ်ရှင်အစည်းအရုံး

## စတင်ဖွဲ့စည်းသည့်ရက်

၁။ ၁၀–၃–၁၉၄၆

## ရည်ရွယ်ချက်

၂။ မြန်မာနိုင်ငံရုပ်ရှင်အစည်းအရုံး၏ ရည်ရွယ်ချက်သည် အောက်ပါအတိုင်း ဖြစ်သည် –

(က) ဒီမိုကရေစီတည်ဆောက်ရာတွင်ရုပ်ရှင်၊ ဗီဒီယို၊ အနုပညာရှင်၊ အတတ်ပညာရှင်များသည် ညီညီညွတ်ညွတ် တစ်တပ်တစ်အား အနေဖြင့် ပါဝင်ဆင်နွှဲရန်၊

( ခ ) ရုပ်ရှင်၊ ဗီဒီယိုလုပ်သားအချင်းချင်း စည်းရုံးညီညွတ်ရန်၊ အကျိုးတူ ခံစားမှုများ မျှတစွာရယူနိုင်ရန်၊ အခြားနိုင်ငံတော်အသိအမှတ်ပြု ထားသော အဖွဲ့အစည်းများကို ကူညီပံ့ပိုးရန်နှင့် ပူးပေါင်းဆောင် ရွက်နိုင်ရန်၊

( ဂ ) ရုပ်ရှင်၊ဗီဒီယိုလုပ်သားများ၏လုပ်ငန်းခွင်ချောမောပြေပြစ်စေရန်၊ အသက်မွေးဝမ်းကျောင်း ဖူလုံမှုတွင် ကူညီရန်နှင့် ရုပ်ရှင်၊ ဗီဒီယို လုပ်သားတို့၏ တရားသောရပိုင်ခွင့်များကို တရားဥပဒေဘောင် အတွင်းမှ တောင်းဆိုနိုင်ရန်။

### ဖွဲ့စည်းပုံ

၃။ မြန်မာနိုင်ငံ ရုပ်ရှင်အစည်းအရုံး ဗဟိုအမှုဆောင်ကော်မတီကို ဥက္ကဋ္ဌ တစ်ဦး၊ ဒုတိယဥက္ကဋ္ဌ သုံးဦး၊ အတွင်းရေးမှူးတစ်ဦး၊ တွဲဖက်အတွင်းရေးမှူး နှစ်ဦး၊ ဘဏ္ဍာရေးမှူး တစ်ဦး၊ စာရင်းစစ် နှစ်ဦး၊ စည်းရုံးရေးမှူး သုံးဦး၊ ပြန်ကြားရေးမှူး သုံးဦး၊ အဖွဲ့ဝင်ခြောက်ဦး စုစုပေါင်းအင်အား (၂၂)ဦးတို့ဖြင့် ဖွဲ့စည်းဆောင်ရွက်လျက်ရှိသည်။ ထို့ပြင် အခြေခံအလွှာ ဆယ်လွှာကိုဖွဲ့စည်း၍ သက်ဆိုင်ရာကော်မတီများဖွဲ့ကာ မြန်မာ့ရုပ်ရှင်လောက ဖွံ့ဖြိုးတိုးတက်ရေးကိုလည်း ဆောင်ရွက်လျက်ရှိသည်။

### တည်နေရာ

၄။ မြန်မာနိုင်ငံရုပ်ရှင်အစည်းအရုံးကို အမှတ် (၁၆)၊ ဝင်္ကဘာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့တွင် ဖွင့်လှစ်ထားသည်။ ဆက်သွယ်ရန်ဖုန်းနံပါတ်မှာ ၀၁-၅၄၄၉၃၆၊ ၀၁-၅၄၉၄၆၃ တို့ဖြစ်သည်။

## မြန်မာနိုင်ငံ သဘင်အစည်းအရုံး

### စတင်ဖွဲ့စည်းသည့်ရက်

၁။ ၂၉-၁၀-၁၉၉၂

### ရည်ရွယ်ချက်

၂။ မြန်မာနိုင်ငံ သဘင်အစည်းအရုံးသည် နိုင်ငံတော်သစ် တည်ဆောက်ရာ၌ သဘင်ပညာရှင်များ နိုးကြားတက်ကြွစွာ ပါဝင်ရေး၊ မြန်မာ့ရိုးရာသုခုမသဘင်အနုပညာများကို ထိန်းသိမ်းဖော်ထုတ်မြှင့်တင်ရေး၊ သဘင်ပညာရှင်များ၏ စည်းရုံးညီညွတ်မှုကို ကျစ်လျစ်ခိုင်မာစွာ တည်ထောင်သွားရေး၊ ပြည်သူ့အကျိုးပြု သဘင်များ ပိုမိုထွန်းကားလာစေရေး၊ သဘင်ပညာရှင်များ၏ လူနေမှုအဆင့်အတန်း ပိုမိုတိုးတက်မြင့်မားလာစေရေး စသည့် ရည်ရွယ်ချက်များ ချမှတ်လျက် အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိသည်။

### ဖွဲ့စည်းပုံ

၃။ မြန်မာနိုင်ငံ သဘင်အစည်းအရုံး ဗဟိုအလုပ်အမှုဆောင်ကော်မတီတွင် ဥက္ကဋ္ဌ၊ အတွင်းရေးမှူးနှင့် ကော်မတီဝင်တို့ဖြင့် ဖွဲ့စည်းထားသည်။

### အဖွဲ့ဝင်အဖြစ်လျှောက်ထားခြင်းနှင့်ရပ်စဲခြင်း

၄။ အောက်ပါအချက်များနှင့် ပြည့်စုံ၍ အမျိုးသားယဉ်ကျေးမှုအနုပညာများ ထိန်းသိမ်းဖော်ထုတ်မြှင့်တင်ပြီး သဘင်အနုပညာရပ်များဖြင့် သရုပ်ဆောင်၊ ကပြ၊ သီဆို၊ တီးမှုတ်၊ ရေးသား၊ ရေးစပ်သူများသည် လူမျိုး၊ ကိုးကွယ်သည့်ဘာသာ၊ အမျိုးသား၊ အမျိုးသမီး အဆင့်ခွဲခြားမှုမရှိဘဲ မိမိဆန္ဒအလျောက် လုပ်ထုံးလုပ်နည်းများနှင့်အညီ သဘင်အဖွဲ့သို့ ဝင်ခွင့်ရှိသည်-

(က) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံသားဖြစ်ရမည်။

( ခ ) အနည်းဆုံးအသက် (၁၅) နှစ် ပြည့်ပြီးသူ ဖြစ်ရမည်။

( ဂ ) သဘင်အစည်းအရုံး၏ ဖွဲ့စည်းပုံအခြေခံစည်းမျဉ်းများကို ယုံယုံကြည်ကြည် လက်ခံ၍ လိုက်နာရန် ကတိပြုသူဖြစ်ရမည်။

(ဃ) သဘင်အစည်းအရုံးမှ ပေးအပ်သော တာဝန်နှင့်ဝတ္တရားများကို မမိုတ်မသုန်ထမ်းဆောင်ရန် ကတိပြုသူဖြစ်ရမည်။

( င ) သဘင်အစည်းအရုံး၏ စည်းကမ်းအရ စုံစမ်းစစ်ဆေးခြင်း၊ အရေးယူအပြစ်ပေးခြင်းများကို ခံယူမည်ဟု ကတိပြုသူဖြစ်ရမည်။

( စ ) သတ်မှတ်ထားသော သဘင်အစည်းအရုံး၏ ဝင်ကြေးကို မပျက်မကွက်ပေးဆောင်ရန် ကတိပြုသူဖြစ်ရမည်။

### တည်နေရာ

၅။ မြန်မာနိုင်ငံသဘင်အစည်းအရုံးကို အမှတ်(၁၃၅)၊ (၂၁)လမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့တွင် ဖွင့်လှစ်ထားသည်။ ဆက်သွယ်ရန် ဖုန်းနံပါတ်များမှာ ၀၁-၃၇၁၅၂၈၊ ၀၁-၂၅၃၇၇၃ တို့ဖြစ်သည်။

## မြန်မာနိုင်ငံ အမျိုးသမီးရေးရာအဖွဲ့ချုပ်

### စတင်ဖွဲ့စည်းသည့်ရက်

၁။ ၈-၁၀-၂၀၀၃

### ရည်ရွယ်ချက်

၂။ မြန်မာနိုင်ငံအမျိုးသမီးရေးရာအဖွဲ့ချုပ်၏ ရည်ရွယ်ချက်မှာ အောက်ပါအတိုင်းဖြစ်သည် -

(က) အေးချမ်းသာယာပြီး ခေတ်မီဖွံ့ဖြိုးတိုးတက်သည့် နိုင်ငံတော်ကြီး တည်ဆောက်ရာတွင် အမျိုးသမီးများ၏ အခန်းကဏ္ဍကို မြှင့်တင်ပေးရန်၊

( ခ ) အမျိုးသမီးများ၏ အခွင့်အရေးများကို ကာကွယ်စောင့်ရှောက်ရန်၊

( ဂ ) အမျိုးသမီးများ၏ ပညာရေး၊ ကျန်းမာရေး၊ စီးပွားရေးစသည်များ ဖွံ့ဖြိုးတိုးတက်စေရန်နှင့် အမျိုးသမီးများ၏ ဘဝလုံခြုံရေးကို ကာကွယ်စောင့်ရှောက်ရန်၊

(ဃ) တိုင်းရင်းသားရိုးရာယဉ်ကျေးမှု ဓလေ့ထုံးစံများကို ပိုမိုမြတ်နိုးတန်ဖိုးထားသည့် စိတ်ဓာတ်မြှင့်တင်ရေးအတွက် လေ့ကျင့်ပျိုးထောင်ပေးရန်၊

( င ) အမျိုးသမီးများအား အကြမ်းဖက်မှုမှကာကွယ်ရေးနှင့် ပြန်လည်ထူထောင်ရေးလုပ်ငန်းများကို စနစ်တကျဆောင်ရွက်ရန်၊

( စ ) အမျိုးသမီးများနှင့် ကလေးသူငယ်များ၊ လူကုန်ကူးမှု လျော့နည်းပပျောက်ရေးအတွက် အမျိုးသားရေးတာဝန်တစ်ရပ်အသွင်ဖြင့် ဆောင်ရွက်နိုင်ရန်၊

(ဆ) အမျိုးသမီးများ၏ အခွင့်အရေးများကို တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံနှင့်အညီ အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် အပြည်ပြည်ဆိုင်ရာအဖွဲ့အစည်းများ၊ ဒေသဆိုင်ရာအဖွဲ့အစည်းများ၊ပြည်တွင်းပြည်ပဆိုင်ရာ အဖွဲ့အစည်းများနှင့် ပူးပေါင်းဆောင်ရွက်ရန်။

## ဖွဲ့စည်းပုံ

၃။ မြန်မာနိုင်ငံအမျိုးသမီးရေးရာအဖွဲ့ချုပ်တွင် ဗဟိုနာယကအဖွဲ့၊ ဗဟိုအမျိုးသမီးရေးရာအဖွဲ့၊ ဗဟိုအလုပ်အမှုဆောင် အဖွဲ့တို့က ဦးဆောင်၍ တိုင်းဒေသကြီး/ပြည်နယ်၊ ခရိုင်၊ မြို့နယ်၊ ရပ်ကွက်၊ ကျေးရွာအလုပ်အမှုဆောင်အဖွဲ့များဖြင့် စည်းရုံးဆောင်ရွက်လျက်ရှိသည်။

## အဖွဲ့ဝင်အဖြစ်လျှောက်ထားခြင်း

၄။ မြန်မာနိုင်ငံအတွင်းရှိ အသက်(၁၀)နှစ်ပြည့်ပြီးသော မြန်မာနိုင်ငံသားအဖြစ် ခံယူထားသည့် မြန်မာအမျိုးသမီးတိုင်းသည် အခြေခံမူ(၅)ရပ်နှင့် ငြိစွန်းမှုမရှိပါက လူမျိုးမရွေး၊ ဘာသာမရွေး အသင်းဝင်အဖြစ် ပါဝင်ဆောင်ရွက်နိုင်ခွင့်ရှိသည်။ ပါဝင်ခွင့်မရနိုင်သည့် အခြေခံမူ(၅)ရပ်မှာ အောက်ပါအတိုင်းဖြစ်သည်–

(က) သာသနာ့ဝန်ထမ်းအမျိုးသမီး၊

( ခ ) စိတ်ပေါ့သွပ်သူ၊

( ဂ ) နိုင်ငံရေးအသင်းအဖွဲ့(သို့)နိုင်ငံရေးပါတီဝင်ထားသူ၊

(ဃ) ငြိမ်ဝပ်ပိပြားမှုဆိုင်ရာ ပြစ်မှုဖြင့်ဖြစ်စေ၊ အကျင့်စာရိတ္တ ပျက်ပြားမှုဆိုင်ရာ ပြစ်မှုဖြင့်ဖြစ်စေ ပြစ်မှုထင်ရှားစီရင်ခြင်းခံရသူ၊

( င ) မတရားအသင်းအဖြစ် ကြေညာခြင်းခံရသည့် အသင်းအဖွဲ့အစည်းသို့မဟုတ် ပါတီတွင်ပါဝင်သူ။

## တည်နေရာ

၅။ မြန်မာနိုင်ငံ အမျိုးသမီးရေးရာအဖွဲ့ချုပ်ကို ရန်အောင်မြင်ဘုရားလမ်း၊ ဒက္ခိဏသီရိမြို့၊ နေပြည်တော်တွင် ဖွင့်လှစ်ထားရှိပါသည်။ ဆက်သွယ်ရန် ဖုန်းနံပါတ်များမှာ ၀၆၇-၄၁၉၁၇၄၊ Fax ၀၆၇-၄၁၉၁၇၉ တို့ ဖြစ်ပါသည်။

# အရန်မီးသတ်တပ်ဖွဲ့

## စတင်ဖွဲ့စည်းသည့်ရက်

၁။ ၁-၁၀-၁၉၆၃

## ရည်ရွယ်ချက်

၂။ နိုင်ငံတော်အတွင်း မီးလောင်ဆုံးရှုံးမှုများ လျော့နည်း ကျဆင်းလာစေရန်နှင့် သဘာဝဘေးအန္တရာယ်များ ကျရောက်လာပါက တတ်စွမ်းနိုင်သမျှ အကူအညီပေးရန်။

## လုပ်ငန်းတာဝန်များ

၃။ အရန်မီးသတ်တပ်ဖွဲ့၏အဓိကတာဝန်ကြီး(၅)ရပ်မှာ-မီးဘေးသတိမူရေး၊ မီးဘေးကြိုတင်တားဆီးကာကွယ်ရေး၊ မီးငြိမ်းသတ်ရေး၊ လူမှုရေးနှင့်နိုင်ငံတော်၏ အရန်အင်အားအဖြစ် ဖွဲ့စည်းလေ့ကျင့်ရေးတို့ပင်ဖြစ်သည်။

## အဖွဲ့ဝင်အဖြစ်လျှောက်ထားခြင်းနှင့် ရပ်စဲခြင်း

၄။ မီးသတ်တပ်ဖွဲ့ဝင်နည်းဥပဒေ (၇၆)၊ အခန်း(၁၉)တွင် အရန်မီးသတ်တပ်သား၊ ဒုတိယတပ်ကြပ်၊ တပ်ကြပ်၊ တပ်ကြပ်ကြီးတို့သည် ယေဘုယျအားဖြင့် အောက်ပါအရည်အချင်းများဖြင့် ပြည့်စုံရမည်ဟု သတ်မှတ်ထားသည် -

(က) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံသားဖြစ်ရမည်၊

( ခ ) လျှောက်ထားသည့်လတွင် အသက် (၁၈) နှစ်အောက် မငယ်စေရ၊

( ဂ ) မီးသတ်လုပ်ငန်းများကို စိတ်ပါဝင်စားသူဖြစ်ရမည်၊

(ဃ) အကျင့်စာရိတ္တကောင်းမွန်၍ ရိုးသားဖြောင့်မတ်ရမည်၊

(င) အကျင့်စာရိတ္တပျက်ယွင်းစေသော မည်သည့်ရာဇဝတ်မှုမျိုးကိုမျှ ကျူးလွန် ခြင်းမရှိစေရ၊
(စ) ကျန်းမာသန်စွမ်းရမည်၊
(ဆ) သက်ဆိုင်ရာကျေးရွာ သို့မဟုတ် မြို့နယ်တွင် နေထိုင်သူ ဖြစ်ရမည်၊
(ဇ) ပြဋ္ဌာန်းထားသော မီးသတ်ကျင့်ဝတ်များကို နားလည်၍ ကောင်းစွာ လိုက်နာဆောင်ရွက်နိုင်သူ ဖြစ်ရမည်၊
(ဈ) မီးသတ်လေ့ကျင့်ခန်းများကို အချိန်မှန် တက်ရောက် လေ့ကျင့်နိုင် ရမည်၊
(ည) လုပ်သားပြည်သူတို့၏ ကြည်ညိုလေးစားခြင်းကို ခံယူရရှိရမည်၊
(ဋ) မီးသတ်လုပ်ငန်းနှင့်တကွ လူမှုဝန်ထမ်း လုပ်ငန်းများတွင် စိတ်ပါ ဝင်စားသူဖြစ်ရမည့်အပြင် ကိုယ်တိုင်ပါဝင် ဆောင်ရွက်ခဲ့ဖူးသူ ဖြစ်ရမည်၊
(ဌ) မိမိအဆင့်အတန်းအလိုက် မီးသတ်ပညာကို ကောင်းစွာ တတ်ကျွမ်း နားလည်ရမည်။

၅။ အရန်မီးသတ်တပ်ဖွဲ့ဝင်တစ်ဦးအား အောက်ပါအကြောင်းတစ်ခုခုကြောင့် တပ်ဖွဲ့ဝင်အဖြစ်မှ ရပ်စဲနိုင်သည် -

(က) အရန်မီးသတ်တပ်ဖွဲ့၏ ပျက်စီးရာပျက်စီးကြောင်းကို ကြံစည်ပြုလုပ် ခြင်း၊
(ခ) ရူးသွပ်ခြင်း သို့မဟုတ် သေဆုံးခြင်း၊
(ဂ) အကျင့်စာရိတ္တပျက်ယွင်းခြင်း၊
(ဃ) အကျင့်စာရိတ္တ ပျက်ယွင်းခြင်းကြောင့် ထောင်ဒဏ်အပြစ်ပေး ခံရခြင်း၊
(င) နည်းဥပဒေ(၇၈)ပါ တာဝန်ဝတ္တရားများကို မိမိအား သက်ဆိုင်ရာမှ တာဝန်ပေးခံရလျက် အကြောင်းလုံလောက်စွာမရှိဘဲ သုံးကြိမ်တိုင် ပျက်ကွက်ခြင်းတို့ဖြစ်သည်။

## မြန်မာနိုင်ငံကြက်ခြေနီအသင်း

**စတင်ဖွဲ့စည်းသည့်ရက်**

၁။ ၁၉၂၀ ပြည့်နှစ်

**ရည်ရွယ်ချက်နှင့်လုပ်ငန်းစဉ်များ**

၂။ မြန်မာနိုင်ငံကြက်ခြေနီအသင်း၏ ရည်ရွယ်ချက်မှာ ဆင်းရဲဒုက္ခ နည်းပါး သက်သာစေရန်ဖြစ်သည်။ ယင်းရည်ရွယ်ချက် အောင်မြင်စေရန်အတွက် ကျန်းမာရေးမြှင့်တင်ရန်၊ ရောဂါဘေးတားဆီးရန်၊ ဘေးဒုက္ခကျရောက်သူများကို ကူညီရန် ဆိုသည့် လုပ်ငန်းစဉ်များကို အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိသည်။

**ဖွဲ့စည်းပုံ**

၃။ မြန်မာနိုင်ငံကြက်ခြေနီအသင်း ဗဟိုကောင်စီကို မြန်မာနိုင်ငံကြက်ခြေနီအသင်း ညီလာခံကိုယ်စားလှယ်များက ရွေးချယ်သော တိုင်းဒေသကြီး/ပြည်နယ်များမှ ကိုယ်စားလှယ်(၁၇)ဦး၊ အစိုးရခန့်အပ်သော ကိုယ်စားလှယ် (၁၀) ဦး၊ ဌာနဆိုင်ရာ ကိုယ်စားလှယ် (၁၃) ဦး စုစုပေါင်း ဗဟိုကောင်စီဝင် (၄၀) ဦးတို့ဖြင့် ဖွဲ့စည်းထားသည်။

၄။ မြန်မာနိုင်ငံကြက်ခြေနီအသင်းတွင် စီမံရေးရာဌာန၊ ဘဏ္ဍာရေးဌာန၊ ကျန်းမာရေးဌာန၊ ဘေးဒုက္ခဆိုင်ရာစီမံအုပ်ချုပ်ရေးဌာန၊ ပြန်ကြားဆက်သွယ်ရေးဌာန၊ သင်တန်းဌာန၊ ဖွံ့ဖြိုးမှုနှင့် ညှိနှိုင်းဆောင်ရွက်မှုယူနစ်နှင့် (Protocol)ယူနစ်တို့ဖြင့် ဖွဲ့စည်းထားသည်။

၅။ တိုင်းဒေသကြီး၊ ပြည်နယ်၊ ခရိုင်၊ မြို့နယ်၊ တက္ကသိုလ်၊ ကြက်ခြေနီအသင်းများတွင် ရာသက်ပန်၊ သာမန်၊ ကျောင်း၊ တပ်ဖွဲ့ဝင်စသည့် အသင်းဝင်အမျိုးအစားများ ခွဲခြားထားရှိသည်။ တိုင်းဒေသကြီး/ပြည်နယ် ကြက်ခြေနီကြီးကြပ်မှုကော်မတီ၊ မြို့နယ် ကြက်ခြေနီ အသင်း၊ တက္ကသိုလ်၊ ကောလိပ်-သိပ္ပံကြက်ခြေနီအသင်းများ ဖွဲ့စည်း ထားပါသည်။ တိုင်းဒေသကြီး/ပြည်နယ်အသီးသီးတွင် တစ်မြို့နယ်လျှင် ကြက်ခြေနီ သူနာပြုတပ်ရင်းတစ်ရင်းစီဖြင့် ဖွဲ့စည်းထားရှိပါသည်။

**အသင်းဝင်အဖြစ်လျှောက်ထားခြင်း**

၆။ ကြက်ခြေနီအသင်းဝင်အဖြစ် လျှောက်ထားရန်အတွက် အသင်းဝင်ပုံစံကို ခရိုင်နှင့် မြို့နယ်အသင်းများတွင် အခမဲ့ တောင်းယူ၍ အသင်းဝင်နိုင်သည်။ အသင်းဝင်ကြေးမှာ ကျပ် ၆၀၀ ဖြစ်သည်။ အသင်းဝင်ရန်အတွက် အောက်ပါအချက်များ

လိုအပ်သည် -

(က) မြန်မာနိုင်ငံသားဖြစ်ရမည်၊
( ခ ) မြန်မာနိုင်ငံသားမဟုတ်လျှင် နိုင်ငံသားမှတ်ပုံတင်ရှိရမည်၊
( ဂ ) အသက်ကန့်သတ်ချက်မရှိ၊
(ဃ) စိတ်ပေါ့သွပ်သူနှင့်ပြစ်မှုကျူးလွန်သူမဖြစ်ရပါ၊
( င ) မြို့နယ်တပ်ရင်းမှူးထောက်ခံချက်ပါရမည်။ သို့မဟုတ် အသင်းဝင်တစ်ဦး၏ ထောက်ခံချက်ပါရမည်။

**တည်နေရာ**

၇။ မြန်မာနိုင်ငံကြက်ခြေနီအသင်းကို ရာဇသင်္ဂဟလမ်းမကြီး၊ ဒက္ခိဏသီရိမြို့၊ နေပြည်တော်တွင် ဖွင့်လှစ်ထားရှိပြီး ဆက်သွယ်ရန်ဖုန်းနံပါတ်များမှာ ၀၆၇-၃၀၃၉၁၁၊ ၄၁၉၀၁၅၊ ၄၁၉၀၁၆၊ ၄၁၉၀၁၇ တို့ ဖြစ်သည်။

## မြန်မာနိုင်ငံစာကြည့်တိုက်အသင်း

**စတင်ဖွဲ့စည်းသည့်ကာလ**

မြန်မာနိုင်ငံစာကြည့်တိုက်အသင်း (Myanmar Library Association-MLA) ကို ၁၉၉၈ ခုနှစ်တွင် စတင်ဖွဲ့စည်းတည်ထောင်ခဲ့ပါသည်။ ၁၉၈၇ ခုနှစ်ကပင် စာကြည့်တိုက်လောကသားများက စုစည်းခဲ့ပြီးနောက် ၁၉၉၀ ပြည့်နှစ်တွင် မြန်မာနိုင်ငံစာကြည့်တိုက်အသင်း ဖြစ်မြောက်ရေးကော်မတီတစ်ရပ်ကို မှတ်ပုံတင်အမှတ် ၁၇၃၁ ဖြင့် တရားဝင်ဖွဲ့စည်းခွင့် ရရှိခဲ့ပါသည်။ အသင်းကြီး၏ ပထမအကြိမ်ညီလာခံကို ၁၉၉၈ ခုနှစ် ဇွန်လ ၂၇ ရက်တွင် ရန်ကုန်တက္ကသိုလ် စိန်ရတုခန်းမကြီးအတွင်း၌ အောင်မြင်စွာကျင်းပခဲ့ပြီး မြန်မာနိုင်ငံစာကြည့်တိုက်အသင်းကြီးကို တရားဝင်ဖွဲ့စည်းနိုင်ခဲ့ကြပါသည်။

**ရည်ရွယ်ချက်**

၂။ အသင်းကြီး၏ ရည်ရွယ်ချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါ သည် -

(က) ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာနရှိ စာကြည့်တိုက်များ ရှင်သန်ဖွံ့ဖြိုးရေး၊
( ခ ) ပညာရေးဝန်ကြီးဌာနအောက်ရှိ တက္ကသိုလ်များတွင် ဖွင့်လှစ်ထားရှိ

သော စာကြည့်တိုက်ပညာဒီပလိုမာသင်တန်းများ၊ ဘွဲ့သင်တန်းများ၊ မဟာဘွဲ့သင်တန်းများ၊ ပါရဂူဘွဲ့သင်တန်းများတွင် နိုင်ငံတကာ အဆင့်မီ ခေတ်မီပညာရပ်များ သင်ကြားလေ့ကျင့်ပျိုးထောင်၍ အောင်မြင်စွာ ရှင်သန်ရပ်တည်နိုင်ရေး။

## ဖွဲ့စည်းပုံ

၃။ ပထမအကြိမ်ညီလာခံတွင် အသင်းကြီး၏ ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း (Constitution)ကို အတည်ပြုပြဋ္ဌာန်းခဲ့ကြပြီး စည်းမျဉ်းနှင့်အညီ အလုပ်အမှုဆောင် ၂၁ ဦးကို ရွေးချယ်ကာ အသင်းဥက္ကဋ္ဌအဖြစ် ယဉ်ကျေးမှုဝန်ကြီးဌာန ယဉ်ကျေးမှု ဗိမာန်ဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ် ဦးခင်မောင်တင် (ဆရာလေး)ကို ရွေးချယ်ခန့်အပ် တာဝန်ပေးခဲ့ပါသည်။ ထို့အပြင် ဂုဏ်ထူးဆောင်နာယကများ၊ ဦးဆောင်နာယကအဖွဲ့၊ အကြံပေးအဖွဲ့နှင့် အလုပ်အမှုဆောင်အဖွဲ့တို့ ဦးဆောင်ပြီး အင်အား ၁၀၀၀ ကျော်ဖြင့် ဖွဲ့စည်းထားရှိပါသည်။ လက်ရှိအသင်းဥက္ကဋ္ဌမှာ ဦးသန်းအောင် ဖြစ်သည်။

## အသင်းဝင်အဖြစ်လျှောက်ထားခြင်း

၄။ အသင်းကြီးတွင် စာကြည့်တိုက်ပညာဘွဲ့ရများ၊ စာကြည့်တိုက်မှူးများက ရာသက်ပန်အသင်းဝင်၊ သာမန်အသင်းဝင်များအဖြစ်ပါဝင်နိုင်ပြီး စာကြည့်တိုက် ဝန်ထမ်းများနှင့် သင်တန်းသားများက အရန်အဖွဲ့ဝင်အဖြစ် ပါဝင်နိုင်ကြသည်။ ရာသက်ပန်နှင့် သာမန်အသင်းဝင်များသည် အလုပ်အမှုဆောင်အဖွဲ့ကို ရွေးကောက် တင်မြှောက်ပိုင်ခွင့်ရှိသကဲ့သို့ ကိုယ်တိုင်လည်းရွေးချယ်ပိုင်ခွင့်ရှိသည်။ စာကြည့်တိုက် ပညာရှင်များမဟုတ်သော်လည်း စာကြည့်တိုက်အကျိုးကို စွမ်းစွမ်းတမံ သယ်ပိုး ဆောင်ရွက်ကြသူများနှင့် အလှူရှင်များကို ဂုဏ်ထူးဆောင်အသင်းဝင်များအဖြစ် ပါဝင်ခွင့်ပြုသည်။

## အသင်း၏ ဦးဆောင်မှုအခန်းကဏ္ဍနှင့် ထူးခြားချက်များ

၅။ အသင်းကြီး၏ ပထမနှင့် ဒုတိယအကြိမ်ညီလာခံမှ ရွေးချယ်တင်မြှောက် ခဲ့သော အလုပ်အမှုဆောင်အဖွဲ့တွင် အစိုးရဝန်ထမ်းစာကြည့်တိုက်ပညာရှင် ၂၀ ဦးနှင့် ဝန်ထမ်းမဟုတ်သော ပြင်ပပညာရှင်တစ်ဦးပါဝင်ဖွဲ့စည်းခဲ့ကာ တတိယနှင့် စတုတ္ထအကြိမ်ညီလာခံမှ ရွေးချယ်တင်မြှောက်ခဲ့ကြသော အလုပ်အမှုဆောင်အဖွဲ့တွင် ပြင်ပပညာရှင်များ လုံးဝပါဝင်ခွင့် မရရှိခဲ့ခြင်းသည် ထူးခြားဝိသေသတစ်ရပ်ပင်

ဖြစ်သည်။ ယခုပြန်လည်ဖွဲ့စည်းသည့် NGO အဖွဲ့အစည်းများတွင် အစိုးရဝန်ထမ်းများ လုံးဝပါဝင်ခွင့်မရှိပေ။ မြန်မာနိုင်ငံစာကြည့်တိုက်အသင်းသည် အရှေ့တောင်အာရှနိုင်ငံများမှ စာကြည့်တိုက်မှူးများအသင်း၏ အဖွဲ့ဝင်ဖြစ်သကဲ့သို့ အပြည်ပြည်ဆိုင်ရာ စာကြည့်တိုက်အသင်းများအဖွဲ့ချုပ် (IFLA– International Federation of Library Association and Institutions)၏ အဖွဲ့ဝင်လည်းဖြစ်ပေသည်။ IFLA တွင် MLA နှင့်အတူ မြန်မာနိုင်ငံအမျိုးသားစာကြည့်တိုက်သည် အဖွဲ့ဝင်ဖြစ်သည်။

**တည်နေရာ**

၅။ မြန်မာနိုင်ငံစာကြည့်တိုက်အသင်း (Myanmar Library Association–MLA) ကို အမျိုးသားစာကြည့်တိုက် (ရန်ကုန်)၊ ရန်ကင်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီးတွင် ဖွင့်လှစ်ထားရှိပါသည်။ ဖုန်းနံပါတ်မှာ ၀၁–၆၆၂၄၇၀ ဖြစ်သည်။

## ကမ္ဘာ့ကုလသမဂ္ဂ

| | | | |
|---|---|---|---|
| ၁။ | စတင်ထူထောင်သည့်နေ့ | = | ၂၄-၁၀-၁၉၄၅ |
| ၂။ | လက်ရှိအဖွဲ့ဝင်နိုင်ငံအရေအတွက် | = | ၁၉၃ နိုင်ငံ |
| ၃။ | အဖွဲ့ဝင်မဟုတ်သည့်နိုင်ငံ | = | ၂နိုင်ငံ(ဟိုလီဆီးနှင့်ပါလက်စတိုင်း) |
| ၄။ | ဌာနချုပ်ရုံးတည်ရှိသည့်နေရာ | = | နယူးယောက်မြို့၊ အမေရိကန်ပြည်ထောင်စု။ |

### ကုလသမဂ္ဂ၏ ရည်ရွယ်ချက်

၁။ တစ်ကမ္ဘာလုံးတွင် ငြိမ်းချမ်းရေး ထိန်းသိမ်းရန်။

၂။ နိုင်ငံအချင်းချင်း ရင်းနှီးချစ်ကြည်စွာ ပေါင်းသင်းဆက်ဆံမှုများ တိုးတက်ဖြစ်ပွားစေရန်။

၃။ လူများအား နေထိုင်မှုအဆင့်အတန်း ပိုမိုကောင်းမွန်စေ၍ ဆင်းရဲခြင်း၊ ရောဂါဖြစ်ပွားခြင်း၊ စာမတတ်ခြင်းတို့ကို ကမ္ဘာပေါ်မှ ပပျောက်စေရန်၊ လူ့ပတ်ဝန်းကျင်ပျက်စီးမှုကို ရပ်တန့်စေရန်နှင့် လူအချင်းချင်း၏ ရပိုင်ခွင့်နှင့် လွတ်လပ်ခွင့်များကို အပြန်အလှန် အရေးထား လေးစားရေးအတွက် အတူတကွ ပူးပေါင်းဆောင်ရွက်ကြစေရန်။

၄။ နိုင်ငံများအား ထိုရည်မှန်းချက်များ ပေါက်ရောက်စေရေး ကူညီပံ့ပိုးသော ဗဟိုဌာနဖြစ်စေရန်။

### ကုလသမဂ္ဂ၏ အဓိကဦးတည်ချက် (၄) ရပ်

၁။ အပြည်ပြည်ဆိုင်ရာ ငြိမ်းချမ်းရေးနှင့် လုံခြုံရေးကို ထိန်းသိမ်းထားရှိရန်။

၂။ နိုင်ငံများအကြား ချစ်ကြည်ရင်းနှီးသော ဆက်ဆံရေးများကို လူသားများ၏

ညီမျှသော အခွင့်အရေးရရှိစေရေးနှင့် မိမိကြမ္မာ မိမိဖန်တီးနိုင်ခွင့်ရှိရေး အခြေခံမှုများအပေါ် တည်မှီ၍ ဖွံ့ဖြိုးတိုးတက်စေရန်။

၃။ အပြည်ပြည်ဆိုင်ရာစီးပွားရေး၊လူမှုရေး၊ယဉ်ကျေးမှုနှင့်လူသားများဆိုင်ရာ အခက်အခဲပြဿနာများကိုဖြေရှင်းရာ၌လည်းကောင်း၊လူ့အခွင့်အရေးနှင့် အခြေခံလွတ်လပ်ခွင့်များကို လေးစားလိုက်နာရေးအား ဖွံ့ဖြိုးတိုးတက်စေ ရာတွင်လည်းကောင်း အတူတကွ တွဲဖက်လုပ်ကိုင်ကြရန်။

၄။ နိုင်ငံများအနေဖြင့် ဤပန်းတိုင်များကို ရရှိရေးအတွက် ဆောင်ရွက်ရာတွင် ညှိနှိုင်းရာ အချက်အချာဌာန ဖြစ်စေရန်။

**ကုလသမဂ္ဂ၏အခြေခံမူ (၅) ချက်**

၁။ အဖွဲ့ဝင်နိုင်ငံအားလုံးသည် အချုပ်အခြာအာဏာပိုင် တန်းတူရည်တူနိုင်ငံ များ ဖြစ်ကြသည်။

၂။ အဖွဲ့ဝင်နိုင်ငံအားလုံးသည် ပဋိညာဉ်စာတမ်းကို လိုက်နာကြရမည်။

၃။ နိုင်ငံများသည်မိမိတို့၏ကွဲပြားခြားနားချက်များကိုငြိမ်းချမ်းသောနည်းဖြင့် ဖြေရှင်းရန် ကြိုးစားကြရမည်။

၄။ ကုလသမဂ္ဂသည် မည်သည့်နိုင်ငံ၏ပြည်တွင်းရေးကိုမျှဝင်ရောက်စွက်ဖက် ခြင်း မပြုနိုင်။

၅။ နိုင်ငံများသည် ကုလသမဂ္ဂကို ကူညီထောက်ပံ့ရန် ကြိုးစားအားထုတ်သင့် ကြသည်။

**ကုလသမဂ္ဂ၏ အဓိကအဖွဲ့အစည်းများ**

၁။ အထွေထွေညီလာခံ

၂။ လုံခြုံရေးကောင်စီ

၃။ စီးပွားရေးနှင့် လူမှုရေးကောင်စီ

၄။ နယ်မြေထိန်းသိမ်းစောင့်ရှောက်ရေးကောင်စီ

၅။ အပြည်ပြည်ဆိုင်ရာတရားရုံး

၆။ အတွင်းရေးမှူးချုပ်ရုံး

**ကုလသမဂ္ဂလုံခြုံရေးကောင်စီ အမြဲတမ်းအဖွဲ့ဝင်နိုင်ငံများ**

၁။ အမေရိကန်ပြည်ထောင်စု

၂။ အင်္ဂလန် (ဗြိတိန်)

၃။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ
၄။ ပြင်သစ်ပြည်သူ့သမ္မတနိုင်ငံ
၅။ ရုရှားဖက်ဒရေးရှင်း

**ကုလသမဂ္ဂ အထွေထွေအတွင်းရေးမှူးချုပ် တာဝန်ထမ်းဆောင်ခဲ့သူများ**

| စဉ် | အမည် | နိုင်ငံသား | တာဝန်ယူသည့် ကာလ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ထရီဗလီ | နော်ဝေ | ၁၉၄၆-၁၉၅၃ | သက်တမ်း(၂)ကြိမ် |
| ၂။ | ဒက်ဟမ္မာရှိုး | ဆွီဒင် | ၁၉၅၃-၁၉၆၁ | လေယာဉ်ပျက်ကျ သေဆုံး |
| ၃။ | ဦးသန့် | မြန်မာ | ၁၉၆၁-၁၉၇၁ | သက်တမ်း(၂)ကြိမ် |
| ၄။ | ကွတ်ဝါးလ်ဟိုင်း | ဩစတြီးယား | ၁၉၇၂-၁၉၈၁ | သက်တမ်း(၂)ကြိမ် |
| ၅။ | ပဲရက်စ်ဒေကွေးလျား | ပီရူး | ၁၉၈၂-၁၉၉၂ | သက်တမ်း(၂)ကြိမ် |
| ၆။ | ဘူထရို့-ဘူထရို့ဂါလီ | အီဂျစ် | ၁၉၉၂-၁၉၉၆ | သက်တမ်း(၂)ကြိမ် |
| ၇။ | ကိုဖီအာနန် | ဂါနာ | ၁၉၉၇-၂၀၀၆ | သက်တမ်း(၂)ကြိမ် |
| ၈။ | ဘန်ကီမွန်း | တောင်ကိုရီးယား | ၂၀၀၇-၂၀၁၆ | သက်တမ်း(၂)ကြိမ် |
| ၉။ | အန်တိုနီရိုဂူတာရက် | ပေါ်တူဂီ | ၁-၁-၂၀၁၇ မှ ယနေ့အထိ | |

**ကုလသမဂ္ဂ ရုံးသုံးဘာသာစကား (၆) မျိုး**

ကုလသမဂ္ဂအဖွဲ့ကြီး၏ အတွင်းရေးမှူးအဖွဲ့နှင့် အခြားဆက်စပ်နေသော အဖွဲ့အစည်းပေါင်း (၃၀)တွင် တာဝန်ထမ်းဆောင်နေသူပေါင်း (၅၂၂၀၀) ခန့်ရှိသည်။

ကုလသမဂ္ဂရုံးသုံးဘာသာစကား (၆)မျိုးရှိသည်-

(၁) အင်္ဂလိပ်
(၂) ရုရှား
(၃) တရုတ်
(၄) စပိန်
(၅) ပြင်သစ်
(၆) အာရဗီ

## ကုလသမဂ္ဂ၏ အထူးအေဂျင်စီများနှင့် ၎င်းနှင့်ဆက်စပ်နေသော အေဂျင်စီများ (Specialized Agencies and other Agencies Related to the UN)

ကုလသမဂ္ဂ၏ အထူးအေဂျင်စီများသည် (ဌာနချုပ်)နှင့် လုပ်ငန်းသဘော အရ ဆက်စပ်နေသော်လည်း ကိုယ်ပိုင်အဖွဲ့ဝင်နိုင်ငံများ၊ ကိုယ်ပိုင်ရုံးအဖွဲ့များဖြင့် ကိုယ်ပိုင်အုပ်ချုပ်ရသော အဖွဲ့များဖြစ်သည်။

**စားနပ်ရိက္ခာနှင့် စိုက်ပျိုးရေးအဖွဲ့ (အက်ဖ်အေအို)**

**Food and Agricultural Organization (FAO)**

လယ်ယာ၊ သစ်တောနှင့် ငါးဖမ်းလုပ်ငန်းတို့မှ ထုတ်ကုန်များတိုးတက် စေရန်နှင့် ကျေးလက်ပြည်သူတို့၏ အခြေအနေ တိုးတက်ကောင်းမွန်စေရန် ရည်ရွယ်၍ ဖွဲ့စည်းထားခြင်းဖြစ်သည်။

ရုံးတည်နေရာ– ရောမမြို့၊ အီတလီနိုင်ငံ။

**နိုင်ငံတကာ အဏုမြူစွမ်းအင်အေဂျင်စီ**

**International Atomic Energy Agency (IAEA)**

အဏုမြူစွမ်းအင်ကို ငြိမ်းချမ်းစွာအသုံးပြုရေးနှင့် လုံခြုံရေးတို့အတွက် ဖွဲ့စည်းထားခြင်းဖြစ်သည်။

ရုံးတည်ရာ– ဗီယင်နာမြို့၊ ဩစတြီးယားနိုင်ငံ။

**နိုင်ငံတကာပြန်လည်ထူထောင်ရေးနှင့် ဖွံ့ဖြိုးရေးဘဏ်(အိုင်ဘီအာရ်ဒီ) (ကမ္ဘာ့ဘဏ်)**

**International Bank for Reconstruction & Development (IBRD) (World Bank)**

ဖွံ့ဖြိုးဆဲနိုင်ငံများရှိ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုစီမံကိန်းများကို ငွေချေးငှား ရန်နှင့် နည်းပညာအကူအညီပေးရန်ဖြစ်သည်။ အခြားအများပိုင်နှင့် ပုဂ္ဂလိကပိုင် စီမံကိန်းများကိုလည်း ငွေကြေးထောက်ပံ့ရန်ဖြစ်သည်။ အိုင်ဘီအာရ်ဒီအောက်တွင် တွဲဖက်အဖွဲ့အစည်းလေးခုရှိသည်–

(၁) **နိုင်ငံတကာဖွံ့ဖြိုးရေးအဖွဲ့ (အိုင်ဒီအေ)**

**The International Development Association (IDA)**

ဤအဖွဲ့သည် ကမ္ဘာ့ဘဏ်၏ တွဲဖက်အဖွဲ့တစ်ခုဖြစ်ပြီး ပိုမိုဆင်းရဲ

သော ဖွံ့ဖြိုးဆဲနိုင်ငံများသို့ ဖွံ့ဖြိုးတိုးတက်သောစီမံကိန်းများ လုပ်ဆောင်ရန် အထူးအခွင့်အရေးများဖြင့် ရန်ပုံငွေတည်ထောင်ပေးသည်။

(၂) **နိုင်ငံတကာဘဏ္ဍာရေး ပူးပေါင်းဆောင်ရွက်မှုအဖွဲ့(အိုင်အက်ဖ်စီ)**

**The International Finance Corporation (IFC)**

ဤအဖွဲ့သည် ဖွံ့ဖြိုးဆဲနိုင်ငံများရှိ ပုဂ္ဂလိကလုပ်ငန်းပိုင်း တိုးတက်ရေးကို ကူညီဆောင်ရွက်ပေးသည်။ နိုင်ငံတကာမှ ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုများ စီးဝင်လာစေရန် အားပေးသည်။

(၃) **နိုင်ငံစုံ ရင်းနှီးမြှုပ်နှံမှု အာမခံအေဂျင်စီ (အမ်အိုင်ဂျီအေ)**

**The Multilateral Investment Guarantee Agency (MIGA)**

ဤအဖွဲ့သည် ဖွံ့ဖြိုးဆဲနိုင်ငံများတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုများကို တိုးတက်စေရန် မြှင့်တင်ပေးသည်။ ရင်းနှီးမြှုပ်နှံမှုများကို နိုင်ငံပိုင်မပြုလုပ်ရေး အာမခံပေးသည်။ အစိုးရများကို ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှု ဆွဲဆောင်နည်းများ အကြံပေးသည်။

(၄) **နိုင်ငံတကာရင်းနှီးမြှုပ်နှံမှု အငြင်းပွားမှုများ ဖြေရှင်းရေးအဖွဲ့ (အိုင်စီအက်စ်အိုင်ဒီ)**

**The International Center for Settlement of Investment Disputes (ICSID)**

ရင်းနှီးမြှုပ်နှံမှုနှင့်ပတ်သက်ပြီး အိမ်ရှင်အစိုးရနှင့် နိုင်ငံခြားမှ ရင်းနှီးမြှုပ်နှံသူများအကြား ဖြစ်ပေါ်သော အငြင်းပွားမှုများကို စေ့စပ်ဖျန်ဖြေခြင်းနှင့် ခုံအဖြစ် ဆုံးဖြတ်ခြင်းများ ပြုလုပ်ပေးသည်။ အဖွဲ့ငါးဖွဲ့ ရုံးတည်ရာမှာ ဝါရှင်တန်ဒီစီ၊ အမေရိကန်ပြည်ထောင်စု ဖြစ်သည်။

**နိုင်ငံတကာ မြို့ပြလေကြောင်းအဖွဲ့ (အိုင်စီအေအို)**

**International Civil Aviation Organization (ICAO)**

နိုင်ငံတကာ မြို့ပြလေကြောင်း ပျံသန်းမှုအဆင့်အတန်းနှင့် စည်းမျဉ်းဥပဒေများ မြှင့်တင်ရန်ဖြစ်သည်။

**ရုံးတည်ရာ–** မွန်ထရီယယ်မြို့၊ ကနေဒါနိုင်ငံ။

**နိုင်ငံတကာ စိုက်ပျိုးရေးဖွံ့ဖြိုးတိုးတက်မှုရန်ပုံငွေအဖွဲ့ (အိုင်အက်ဖ်အေဒီ)**
**International Fund for Agricultural Development (IFAD)**

ဖွံ့ဖြိုးဆဲနိုင်ငံများရှိ စိုက်ပျိုးရေးနှင့် ကျေးလက်စီမံကိန်းများအတွက် ရန်ပုံငွေ စုဆောင်းရန်ဖြစ်သည်။

**ရုံးတည်ရာ–** ရောမမြို့၊ အီတလီနိုင်ငံ။

**နိုင်ငံတကာ အလုပ်သမားအဖွဲ့ချုပ် (အိုင်အယ်လ်အို)**
**International Labour Organization (ILO)**

အလုပ်အကိုင်တိုးတက်ရေးနှင့် အလုပ်သမား၏အခြေအနေနှင့် လူနေမှု အဆင့်အတန်း ကောင်းမွန်ရေးတို့အတွက် ဖွဲ့စည်းသည်။

**ရုံးတည်ရာ–** ဂျီနီဗာမြို့၊ ဆွစ်ဇာလန်နိုင်ငံ။

**ကုလသမဂ္ဂပညာရေး၊ သိပ္ပံနှင့် ယဉ်ကျေးမှုအဖွဲ့ (ယူနက်စကို)**
**United Nations Educational, Scientific and Cultural Organization(UNESCO**

ပညာရေး၊ သိပ္ပံနှင့် ယဉ်ကျေးမှုလုပ်ငန်းဖြင့် နိုင်ငံအချင်းချင်း ပူးပေါင်း ဆောင်ရွက်ရေးကို မြှင့်တင်ရန်ဖြစ်သည်။ ယူနက်စကိုသည် အနောက်နိုင်ငံများ အပေါ် အာဃာတထားရှိသည်ဆိုကာ ၁၉၈၅ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု သည် အဖွဲ့မှ နုတ်ထွက်ခဲ့သည်။

**ရုံးတည်ရာ–** ပါရီမြို့၊ ပြင်သစ်နိုင်ငံ။

**ကုလသမဂ္ဂ နိုင်ငံတကာကလေးများအရေးပေါ် ရန်ပုံငွေအဖွဲ့ (ယူနီဆက်)**
**United Nations International Children Emergency Fund (UNICEF)**

ဖွံ့ဖြိုးဆဲနိုင်ငံများမှ မိခင်နှင့်ကလေးများ ဖွံ့ဖြိုးတိုးတက်မှုကို ပံ့ပိုးရန်နှင့် အကူအညီများပေးရန်ဖြစ်သည်။

**ရုံးတည်ရာ–** နယူးယောက်မြို့၊ အမေရိကန်ပြည်ထောင်စု။

**နိုင်ငံတကာငွေကြေးရန်ပုံငွေအဖွဲ့ (အိုင်အမ်အက်ဖ်)**
**International Monetary Fund (IMF)**

နိုင်ငံတကာ ငွေကြေးကိစ္စများ ပူးပေါင်းဆောင်ရွက်ရန်၊ ငွေကြေး တည်ငြိမ် မှုရှိရန်နှင့် နိုင်ငံတကာ ကုန်သွယ်မှု တိုးချဲ့ရန်ဖြစ်သည်။

**ရုံးတည်ရာ–** ဝါရှင်တန်ဒီစီ၊ အမေရိကန်ပြည်ထောင်စု။

**နိုင်ငံတကာ ကြေးနန်းဆက်သွယ်ရေးသမဂ္ဂ (အိုင်တီယူ)**

**International Telecommunication Union (ITU)**

ရေဒီယို၊ ကြေးနန်း၊ တယ်လီဖုန်းနှင့် အာကာသရေဒီယို ဆက်သွယ်ရေးတို့အတွက် နိုင်ငံတကာစည်းမျဉ်းဥပဒေများ သတ်မှတ်ရန်၊ ရေဒီယိုကြိမ်နှုန်း သတ်မှတ်ရန်ဖြစ်သည်။

**ရုံးတည်ရာ–** ဂျီနီဗာမြို့၊ ဆွစ်ဇာလန်နိုင်ငံ။

**ကမ္ဘာ့ကျန်းမာရေးအဖွဲ့ (ဒဗလျူအိပ်ချ်အို)**

**World Health Organization (WHO)**

ကမ္ဘာ့ပြည်သူများ၏ ကျန်းမာရေးအခြေအနေကို အမြင့်ဆုံးအထိ မြှင့်တင်ရန် ဖြစ်သည်။

**ရုံးတည်ရာ–** ဂျီနီဗာမြို့၊ ဆွစ်ဇာလန်နိုင်ငံ။

**ကမ္ဘာ့ဉာဏပစ္စည်းဆိုင်ရာအဖွဲ့အစည်း**

**World Intellectual Property Organization(WIPO)**

စာပေ၊ စက်မှုသိပ္ပံနှင့် အနုပညာလက်ရာများ မူပိုင်ခွင့်ကို နိုင်ငံတကာ ပူးပေါင်းဆောင်ရွက်မှုဖြင့် ကာကွယ်ရန်ဖြစ်သည်။

**ရုံးတည်ရာ–** ဂျီနီဗာမြို့၊ ဆွစ်ဇာလန်နိုင်ငံ။

**ကမ္ဘာ့မိုးလေဝသအဖွဲ့ (ဒဗလျူအမ်အို)**

**World Meterological Organization (WMO)**

ကမ္ဘာ့မိုးလေဝသလုပ်ငန်းများတိုးတက်ရန် ပူပေါင်းဆောင်ရွက်မှုဖြင့် ကာကွယ်ရန်ဖြစ်သည်။

**ရုံးတည်ရာ–** ဂျီနီဗာမြို့၊ ဆွစ်ဇာလန်နိုင်ငံ။

**ကမ္ဘာ့ကုန်သွယ်ရေးအဖွဲ့ (ဒဗလျူတီအို)**

**World Trade Organization (WTO)**

အကောက်ခွန်နှင့် ကုန်သွယ်မှုဆိုင်ရာ အထွေထွေသဘောတူစာချုပ် (ဂတ်) General Agreement on Tariffs and Trade (GATT) ကို အစားထိုးသောအဖွဲ့ ဖြစ်သည်။ နိုင်ငံတကာကုန်သွယ်ရေးကို ကြီးကြပ်သော အဖွဲ့အစည်းကြီးဖြစ်သည်။ ကုန်သွယ်ရေးသဘောတူညီချက်နှင့် စာချုပ်များကို ဆောင်ရွက်ပေးသည်။ အဖွဲ့ဝင်နိုင်ငံများ၏ ကုန်သွယ်ရေးစနစ်ကို စစ်ဆေးသည်။ ကုန်သွယ်ရေးဆိုင်ရာ လုပ်ဆောင်

မှုများနှင့် စာရင်းဇယားကို စောင့်ကြည့်သည်။ ကုန်သွယ်ရေး အငြင်းပွားမှုများကို ဖြေရှင်းပေးသည်။
**ရုံးတည်ရာ–** ဂျီနီဗာ၊ ဆွစ်ဇာလန်နိုင်ငံ။

**ကုလသမဂ္ဂဒုက္ခသည်များဆိုင်ရာ မဟာမင်းကြီးရုံး**
**(United Nations High Commissioner for Refugees)**

အိုးအိမ်စွန့်ခွာထွက်ပြေးရသည့် ဒုက္ခသည်များကို ကူညီစောင့်ရှောက်ပေးရန်ဖြစ်သည်။
**ရုံးတည်ရာ–** ဂျီနီဗာမြို့၊ ဆွစ်ဇာလန်နိုင်ငံ။

**ကုလသမဂ္ဂကမ္ဘာ့ခရီးသွားလုပ်ငန်းအဖွဲ့**
**United Nations World Tourism Organization–UNWTO**

ကမ္ဘာလုံးဆိုင်ရာ ခရီးသွားလုပ်ငန်းကို စဉ်ဆက်မပြတ် မြှင့်တင်ဆောင်ရွက်နိုင်ရေးအတွက် ဖွဲ့စည်းသည်။
**ရုံးတည်ရာ–** မက်ဒရစ်မြို့၊ စပိန်နိုင်ငံ။

**ကုလသမဂ္ဂစက်မှုဖွံ့ဖြိုးတိုးတက်ရေးအဖွဲ့**
**United Nations Industrial Development Organization**

ကုလသမဂ္ဂအဖွဲ့ဝင်နိုင်ငံများတွင် စဉ်ဆက်မပြတ် စက်မှုဖွံ့ဖြိုးတိုးတက်ရေးကို အရှိန်အဟုန် မြှင့်တင်ဆောင်ရွက်ရန်အတွက် ဖွဲ့စည်းသည်။
**ရုံးတည်ရာ–** ဗီယင်နာမြို့၊ သြစတြေးလျနိုင်ငံ။

**နိုင်ငံတကာရေကြောင်းအဖွဲ့**
**International Maritime Organization**

ပိုမှန်ရေကြောင်း သွားလာမှုများကို ထိန်းသိမ်းမြှင့်တင်ပေးရန် ဖွဲ့စည်းသည်။
**ရုံးတည်ရာ–** လန်ဒန်မြို့၊ ဗြိတိန်နိုင်ငံ။

**ကုလသမဂ္ဂ အမျိုးသမီးများအဖွဲ့**
**United Nations Women**

ကမ္ဘာလုံးဆိုင်ရာ ကျား–မတန်းတူညီမျှမှု ရရှိစေရေးနှင့် အမျိုးသမီးများ စွမ်းဆောင်ရည် မြင့်မားရေး ပံ့ပိုးဆောင်ရွက်နိုင်ရန် ဖွဲ့စည်းသည်။
**ရုံးတည်ရာ–** နယူးယောက်မြို့၊ အမေရိကန်ပြည်ထောင်စု။

**ကုလသမဂ္ဂအခြေချနေထိုင်ရေးအစီအစဉ်**

**United Nations Habitat**

လူသားများ အခြေချနေထိုင်ရေးနှင့် ကျေးလက်ဒေသ စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်ရေးတို့အတွက် ဖွဲ့စည်းသည်။

**ရုံးတည်ရာ–** နိုင်ရိုဘီမြို့၊ ကင်ညာနိုင်ငံ။

## ကုလသမဂ္ဂအဖွဲ့ဝင် ကမ္ဘာ့နိုင်ငံများ

| စဉ် | အဖွဲ့ဝင် | အဖွဲ့ဝင်အဖြစ်လက်ခံသည့်နေ့စွဲ |
|---|---|---|
| ၁။ | Afghanistan (အာဖဂန်နစ္စတန်) | ၁၉၄၆၊ နိုဝင်ဘာ ၁၉ |
| ၂။ | Albania (အယ်ဘေးနီးယား) | ၁၉၅၅၊ ဒီဇင်ဘာ ၁၄ |
| ၃။ | Algeria (အယ်ဂျီးရီးယား) | ၁၉၆၂၊ အောက်တိုဘာ ၈ |
| ၄။ | Andorra (အင်ဒိုရာ) | ၁၉၉၃၊ ဇူလိုင် ၂၈ |
| ၅။ | Angola (အင်ဂိုလာ) | ၁၉၇၆၊ ဒီဇင်ဘာ ၁ |
| ၆။ | Antigua and Barbuda (အင်တီဂွာနှင့်ဘာဘူဒါ) | ၁၉၈၁၊ နိုဝင်ဘာ ၁၁ |
| ၇။ | Argentina (အာဂျင်တီးနား) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၈။ | Armenia (အာမေးနီးယား) | ၁၉၉၂၊ မတ်လ ၂ |
| ၉။ | Australia (ဩစတြေးလျ) | ၁၉၄၅၊ နိုဝင်ဘာ ၁ |
| ၁၀။ | Austria (ဩစတြီးယား) | ၁၉၅၅၊ ဒီဇင်ဘာ ၁၄ |
| ၁၁။ | Azerbaijan (အဇာဘိုင်ဂျန်) | ၁၉၉၂၊ မတ်လ ၂ |
| ၁၂။ | Bahamas (ဘဟားမား) | ၁၉၇၃၊ စက်တင်ဘာ ၁၈ |
| ၁၃။ | Bahrain (ဘာရိန်း) | ၁၉၇၁၊ စက်တင်ဘာ ၂၁ |
| ၁၄။ | Bangladesh (ဘင်္ဂလားဒေ့ရှ်) | ၁၉၇၄၊ စက်တင်ဘာ ၁၇ |
| ၁၅။ | Barbados (ဘာဘားဒိုး) | ၁၉၆၆၊ ဒီဇင်ဘာ ၉ |
| ၁၆။ | Belarus (ဘီလာရုစ်) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၇။ | Belgium (ဘယ်လ်ဂျီယံ) | ၁၉၄၅၊ ဒီဇင်ဘာ ၂၇ |
| ၁၈။ | Belize (ဘီလီဇီ) | ၁၉၈၁၊ စက်တင်ဘာ ၂၅ |
| ၁၉။ | Benin (ဘီနင်) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |

| | | |
|---|---|---|
| ၂၀။ | Bhutan (ဘူတန်) | ၁၉၇၁၊ စက်တင်ဘာ ၂၁ |
| ၂၁။ | Bolivia (ဘိုလီးဗီးယား) | ၁၉၄၅၊ နိုဝင်ဘာ ၁၄ |
| ၂၂။ | Bosnia & Herzegovina (ဘော့စနီးယားနှင့် ဟာဇီဂိုးဗီးနား) | ၁၉၉၂၊ မေလ ၂၂ |
| ၂၃။ | Botswana (ဘော့ဆွာနာ) | ၁၉၆၆၊ အောက်တိုဘာ ၁၇ |
| ၂၄။ | Brazil (ဘရာဇီးလ်) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၂၅။ | Brunei (ဘရူနိုင်း) | ၁၉၈၄၊ စက်တင်ဘာ ၂၁ |
| ၂၆။ | Bulgaria (ဘူဂေးရီးယား) | ၁၉၅၅၊ ဒီဇင်ဘာ ၁၄ |
| ၂၇။ | Burkina Faso (ဘာကီနာဖာဆို) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၂၈။ | Burundi (ဘူရွန်ဒီ) | ၁၉၆၂၊ စက်တင်ဘာ ၁၈ |
| ၂၉။ | Cabo Verde (ကာဘိုဗာဒီ) | ၁၉၇၅၊ စက်တင်ဘာ ၁၆ |
| ၃၀။ | Cambodia (ကမ္ဘောဒီးယား) | ၁၉၅၅၊ ဒီဇင်ဘာ ၁၄ |
| ၃၁။ | Cameroon (ကင်မရွန်း) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၃၂။ | Canada (ကနေဒါ) | ၁၉၄၅၊ နိုဝင်ဘာ ၉ |
| ၃၃။ | Central African Republic (ဗဟိုအာဖရိကသမ္မတနိုင်ငံ) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၃၄။ | Chad (ချဒ်) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၃၅။ | Chile (ချီလီ) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၃၆။ | China (တရုတ်) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၃၇။ | Colombia (ကိုလံဘီယာ) | ၁၉၄၅၊ နိုဝင်ဘာ ၅ |
| ၃၈။ | Comoros (ကိုမိုရို့စ်) | ၁၉၇၅၊ နိုဝင်ဘာ ၁၂ |
| ၃၉။ | Congo, Democratic Rep of (Zaire) (ကွန်ဂိုဒီမိုကရက်တစ်သမ္မတနိုင်ငံ) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၄၀။ | Congo, Republic of (ကွန်ဂိုသမ္မတနိုင်ငံ) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၄၁။ | Costa Rica (ကိုစတာရီကာ) | ၁၉၄၅၊ နိုဝင်ဘာ ၂ |
| ၄၂။ | Cote D'lvoire (ကုတ်ဒီဗွဲရား) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၄၃။ | Croatia (ခရိုအေးရှား) | ၁၉၉၂၊ မေ ၂၂ |
| ၄၄။ | Cuba(ကျူးဘား) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၄၅။ | Cyprus (ဆိုက်ပရပ်) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |

| | | |
|---|---|---|
| ၄၆။ | Czech Republic (ချက်သမ္မတနိုင်ငံ) | ၁၉၉၃၊ ဇန်နဝါရီ ၁၉ |
| ၄၇။ | Denmark (ဒိန်းမတ်) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၄၈။ | Djbouti (ဂျီဘူတီ) | ၁၉၇၇၊ စက်တင်ဘာ ၂၀ |
| ၄၉။ | Dominica (ဒိုမီနီကာ) | ၁၉၇၈၊ ဒီဇင်ဘာ ၁၈ |
| ၅၀။ | Dominican Republic (ဒိုမီနီကန်သမ္မတနိုင်ငံ) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၅၁။ | Ecuador (အီကွာဒို) | ၁၉၄၅၊ ဒီဇင်ဘာ ၂၁ |
| ၅၂။ | Egypt (အီဂျစ်) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၅၃။ | El Salvador (အယ်ဆာဗေးဒိုး) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၅၄။ | Equatorial Guinea (အီကွေတိုးရီးယဲဂီနီ) | ၁၉၆၈၊ နိုဝင်ဘာ ၁၂ |
| ၅၅။ | Eritrea (အီရစ်ထရီးယား) | ၁၉၉၃၊ မေ ၂၈ |
| ၅၆။ | Estonia (အက်စ်တိုးနီးယား) | ၁၉၉၁၊ စက်တင်ဘာ ၁၇ |
| ၅၇။ | Eswatini (အက်စ်ဝါတီနီ) | ၁၉၆၈၊ စက်တင်ဘာ ၂၄ |
| ၅၈။ | Ethiopia (အီသီယိုးပီးယား) | ၁၉၄၅၊ နိုဝင်ဘာ ၁၃ |
| ၅၉။ | Fiji (ဖီဂျီ) | ၁၉၇၀၊ အောက်တိုဘာ ၁၃ |
| ၆၀။ | Finland (ဖင်လန်) | ၁၉၅၅၊ ဒီဇင်ဘာ ၁၄ |
| ၆၁။ | France (ပြင်သစ်) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၆၂။ | Gabon (ဂါဘွန်) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၆၃။ | Gambia (ဂမ်ဘီယာ) | ၁၉၆၅၊ စက်တင်ဘာ ၂၁ |
| ၆၄။ | Georgia (ဂျော်ဂျီယာ) | ၁၉၉၂၊ ဇူလိုင် ၃၁ |
| ၆၅။ | Germany (ဂျာမနီ) | ၁၉၇၃၊ စက်တင်ဘာ ၁၈ |
| ၆၆။ | Ghana (ဂါနာ) | ၁၉၅၇၊ မတ် ၈ |
| ၆၇။ | Ghana (ဂရိ) | ၁၉၄၅၊ အောက်တိုဘာ ၂၅ |
| ၆၈။ | Grenada(ဂရီနာဒါ) | ၁၉၇၄၊ စက်တင်ဘာ ၁၇ |
| ၆၉။ | Guatemala (ဂွာတီမာလာ) | ၁၉၄၅၊ နိုဝင်ဘာ ၂၁ |
| ၇၀။ | Guinea (ဂီနီ) | ၁၉၅၈၊ ဒီဇင်ဘာ ၁၂ |
| ၇၁။ | Guinea–Bissau (ဂီနီဘစ်ဆော) | ၁၉၇၄၊ စက်တင်ဘာ ၁၇ |
| ၇၂။ | Guyana (ဂူယာနာ) | ၁၉၆၆၊ စက်တင်ဘာ၂၀ |

၇၃။ Haiti (ဟေတီ) ၁၉၄၅၊ အောက်တိုဘာ ၂၄
၇၄။ Honduras (ဟွန်ဒူးရပ်) ၁၉၄၅၊ ဒီဇင်ဘာ ၁၇
၇၅။ Hungary (ဟန်ဂေရီ) ၁၉၅၅၊ ဒီဇင်ဘာ ၁၄
၇၆။ Iceland (အိုက်စလန်) ၁၉၄၆၊ နိုဝင်ဘာ ၁၉
၇၇။ India (အိန္ဒိယ) ၁၉၄၅၊ အောက်တိုဘာ ၃၀
၇၈။ Indonesia (အင်ဒိုနီးရှား) ၁၉၅၀၊ စက်တင်ဘာ ၂၈
၇၉။ Iran (အီရန်) ၁၉၄၅၊ အောက်တိုဘာ ၂၄
၈၀။ Iraq (အီရတ်) ၁၉၄၅၊ ဒီဇင်ဘာ ၂၁
၈၁။ Ireland (အိုင်ယာလန်) ၁၉၅၅၊ ဒီဇင်ဘာ ၁၄
၈၂။ Israel (အစ္စရေးလ်) ၁၉၄၉၊ မေ ၁၁
၈၃။ Italy (အီတလီ) ၁၉၅၅၊ ဒီဇင်ဘာ ၁၄
၈၄။ Jamaica (ဂျမေကာ) ၁၉၆၂၊ စက်တင်ဘာ ၁၈
၈၅။ Japan (ဂျပန်) ၁၉၅၆၊ ဒီဇင်ဘာ ၁၈
၈၆။ Jordan (ဂျော်ဒန်) ၁၉၅၅၊ ဒီဇင်ဘာ ၁၄
၈၇။ Kazakhstan (ကာဇက်စတန်) ၁၉၉၂၊ မတ်လ ၂
၈၈။ Kenya (ကင်ညာ) ၁၉၆၃၊ ဒီဇင်ဘာ ၁၆
၈၉။ Kiribati (ကီရီဘာတီ) ၁၉၉၉၊ စက်တင်ဘာ ၁၄
၉၀။ Korea, North (မြောက်ကိုရီးယား) ၁၉၉၁၊ စက်တင်ဘာ ၁၇
၉၁။ Korea, South (တောင်ကိုရီးယား) ၁၉၉၁၊ စက်တင်ဘာ ၁၇
၉၂။ Kuwait (ကူဝိတ်) ၁၉၆၃၊ မေ ၁၄
၉၃။ Kyrgyzstan (ကာဂျစ်စတန်) ၁၉၉၂၊ မတ် ၂
၉၄။ Laos (လာအို) ၁၉၅၅၊ ဒီဇင်ဘာ ၁၄
၉၅။ Latvia (လတ်ဗီးယား) ၁၉၉၁၊ စက်တင်ဘာ ၁၇
၉၆။ Lebanon (လက်ဘနွန်) ၁၉၄၅၊ အောက်တိုဘာ ၂၄
၉၇။ Lesotho (လီဆိုသို) ၁၉၆၆၊ အောက်တိုဘာ ၁၇
၉၈။ Liberia (လိုက်ဘေးရီးယား) ၁၉၄၅၊ နိုဝင်ဘာ ၂
၉၉။ Libya (လစ်ဗျား) ၁၉၅၅၊ ဒီဇင်ဘာ ၁၄
၁၀၀။ Liechtenstein (လီချင်စတိန်း) ၁၉၉၀၊ စက်တင်ဘာ ၁၈
၁၀၁။ Lithuania (လစ်သူရေးနီးယား) ၁၉၉၁၊ စက်တင်ဘာ ၁၇
၁၀၂။ Luxembourg (လူဇင်းဘတ်) ၁၉၄၅၊ အောက်တိုဘာ ၂၄

| | | |
|---|---|---|
| ၁၀၃။ | Madagascar (မဒဂါစကား) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၁၀၄။ | Malawi (မာလာဝီ) | ၁၉၆၄၊ ဒီဇင်ဘာ ၁ |
| ၁၀၅။ | Malaysia (မလေးရှား) | ၁၉၅၇၊ စက်တင်ဘာ ၁၇ |
| ၁၀၆။ | Maldives (မော်လ်ဒိုက်) | ၁၉၆၅၊ စက်တင်ဘာ ၂၁ |
| ၁၀၇။ | Mali (မာလီ) | ၁၉၆၀၊ စက်တင်ဘာ ၂၈ |
| ၁၀၈။ | Malta (မော်လ်တာ) | ၁၉၆၄၊ ဒီဇင်ဘာ ၁ |
| ၁၀၉။ | Marshall Islands (မာရှယ်ကျွန်းစု) | ၁၉၉၁၊ စက်တင်ဘာ ၁၇ |
| ၁၁၀။ | Mauritania (မော်ရီတေးနီးယား) | ၁၉၆၁၊ အောက်တိုဘာ ၂၇ |
| ၁၁၁။ | Mauritius (မောရစ်သျှ) | ၁၉၆၈၊ ဧပြီ ၂၄ |
| ၁၁၂။ | Mexico (မက္ကဆီကို) | ၁၉၄၅၊ နိုဝင်ဘာ ၇ |
| ၁၁၃။ | Micronesia (မိုင်ခရိုနီးရှား) | ၁၉၉၁၊ စက်တင်ဘာ ၁၇ |
| ၁၁၄။ | Moldova (မော်ဒိုဗာ) | ၁၉၉၂၊ မတ် ၂ |
| ၁၁၅။ | Monaco (မိုနာကို) | ၁၉၉၃၊ မေ ၂၈ |
| ၁၁၆။ | Mongolia (မွန်ဂိုလီးယား) | ၁၉၆၁၊ အောက်တိုဘာ ၂၇ |
| ၁၁၇။ | Montenegro (မွန်တီနီဂရိုး) | ၂၀၀၆၊ ဇွန် ၂၈ |
| ၁၁၈။ | Morocco (မော်ရိုကို) | ၁၉၅၆၊ နိုဝင်ဘာ ၁၂ |
| ၁၁၉။ | Mozambique (မိုဇမ်းဘစ်) | ၁၉၇၅၊ စက်တင်ဘာ ၁၆ |
| ၁၂၀။ | Myanmar (မြန်မာ) | ၁၉၄၈၊ ဧပြီ ၁၉ |
| ၁၂၁။ | Namibia(နမီးဘီးယား) | ၁၉၉၀၊ ဧပြီ ၂၃ |
| ၁၂၂။ | Nauru (နော်ရူး) | ၁၉၉၉၊ စက်တင်ဘာ ၁၄ |
| ၁၂၃။ | Nepal (နီပေါ) | ၁၉၅၅၊ ဒီဇင်ဘာ ၁၄ |
| ၁၂၄။ | Netherlands (နယ်သာလန်) | ၁၉၄၅၊ ဒီဇင်ဘာ ၁၀ |
| ၁၂၅။ | New Zealand (နယူးဇီလန်) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၂၆။ | Nicaragua (နီကာရာဂွာ) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၂၇။ | Niger (နိုင်ဂျာ) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၁၂၈။ | Nigeria (နိုင်ဂျီးရီးယား) | ၁၉၆၀၊ အောက်တိုဘာ ၇ |
| ၁၂၉။ | North Macedonia (မြောက်ပိုင်းမက်ဆီဒိုးနီးယား) | ၁၉၉၃၊ ဧပြီ ၈ |
| ၁၃၀။ | Norway (နော်ဝေ) | ၁၉၄၅၊ နိုဝင်ဘာ ၂၇ |
| ၁၃၁။ | Oman (အိုမန်) | ၁၉၇၁၊ အောက်တိုဘာ ၇ |

| | | |
|---|---|---|
| ၁၃၂။ | Pakistan (ပါကစ္စတန်) | ၁၉၄၇၊ စက်တင်ဘာ ၃၀ |
| ၁၃၃။ | Palau (ပလော) | ၁၉၉၄၊ ဒီဇင်ဘာ ၁၅ |
| ၁၃၄။ | Panama (ပနားမား) | ၁၉၄၅၊ နိုဝင်ဘာ ၁၃ |
| ၁၃၅။ | Papua New Guinea (ပါပူဝါနယူးဂီနီ) | ၁၉၇၅၊ အောက်တိုဘာ ၁၀ |
| ၁၃၆။ | Paraguay (ပါရာဂွေး) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၃၇။ | Peru (ပီရူး) | ၁၉၄၅၊ အောက်တိုဘာ ၃၁ |
| ၁၃၈။ | Philippines (ဖိလစ်ပိုင်) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၃၉။ | Poland (ပိုလန်) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၄၀။ | Portugal (ပေါ်တူဂီ) | ၁၉၅၅၊ ဒီဇင်ဘာ ၁၄ |
| ၁၄၁။ | Qatar (ကာတာ) | ၁၉၇၁၊ စက်တင်ဘာ ၂၁ |
| ၁၄၂။ | Romania (ရိုမေးနီးယား) | ၁၉၅၅၊ ဒီဇင်လာ ၁၄ |
| ၁၄၃။ | Russia (ရုရှား) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၄၄။ | Rwanda (ရဝမ်ဒါ) | ၁၉၆၂၊ စက်တင်ဘာ ၁၈ |
| ၁၄၅။ | Saint Kitts and Nevis (စိန့်ကစ်နှင့်နီဗစ်) | ၁၉၈၃၊ စက်တင်ဘာ ၂၃ |
| ၁၄၆။ | Saint Lucia (စိန့်လူစီယာ) | ၁၉၇၉၊ စက်တင်ဘာ ၁၈ |
| ၁၄၇။ | SSaint Vincent and the Grenadines (စိန့်ဗင်းဆင့်နှင့် ဂရီနာဒင်း) | ၁၉၈၀၊ စက်တင်ဘာ ၁၆ |
| ၁၄၈။ | Samoa (ဆမိုးဝါး) | ၁၉၇၆၊ ဒီဇင်ဘာ ၁၅ |
| ၁၄၉။ | San Marino (ဆန်မာရီနို) | ၁၉၉၂၊ မတ် ၂ |
| ၁၅၀။ | Sao Tome and Principe (ဆော်တိုမီနှင့် ပရင်စီပီ) | ၁၉၇၅၊ စက်တင်ဘာ ၁၆ |
| ၁၅၁။ | Saudi Arabia (ဆော်ဒီအာရေးဘီးယား) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၅၂။ | Senegal (ဆီနီဂဲလ်) | ၁၉၆၀၊ စက်တင်ဘာ ၂၈ |
| ၁၅၃။ | Serbia (ဆားဘီးယား) | ၂၀၀၀၊ နိုဝင်ဘာ ၁ |
| ၁၅၄။ | Seychelles(ဆေးရှဲလ်) | ၁၉၇၆၊ စက်တင်ဘာ ၂၁ |
| ၁၅၅။ | Sierra Leone (ဆီယာရာလီယွန်) | ၁၉၆၁၊ စက်တင်ဘာ ၂၇ |
| ၁၅၆။ | Singapore (စင်ကာပူ) | ၁၉၆၅၊ စက်တင်ဘာ ၂၁ |
| ၁၅၇။ | Slovakia (ဆလိုဗက်ကီးယား) | ၁၉၉၃၊ ဇန်နဝါရီ ၁၉ |

| | | |
|---|---|---|
| ၁၅၈။ | Slovenia (ဆလိုဗေးနီးယား) | ၁၉၉၂၊ မေ ၂၂ |
| ၁၅၉။ | Solomon Islands (ဆော်လမွန်ကျွန်းစု) | ၁၉၇၈၊ စက်တင်ဘာ ၁၉ |
| ၁၆၀။ | Somalia (ဆိုမာလီယာ) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၁၆၁။ | South Africa (တောင်အာဖရိက) | ၁၉၄၅၊ နိုဝင်ဘာ ၇ |
| ၁၆၂။ | South Sudan (တောင်ဆူဒန်) | ၂၀၁၁၊ ဇူလိုင် ၁၄ |
| ၁၆၃။ | Spain (စပိန်) | ၁၉၅၅၊ ဒီဇင်ဘာ ၁၄ |
| ၁၆၄။ | Sri Lanka (သီရိလင်္ကာ) | ၁၉၅၅၊ ဒီဇင်ဘာ ၁၄ |
| ၁၆၅။ | Sudan (ဆူဒန်) | ၁၉၅၆၊ နိုဝင်ဘာ ၁၂ |
| ၁၆၆။ | Suriname (ဆူရီနမ်) | ၁၉၇၅၊ ဒီဇင်ဘာ ၄ |
| ၁၆၇။ | Sweden (ဆွီဒင်) | ၁၉၄၆၊ နိုဝင်ဘာ ၁၉ |
| ၁၆၈။ | Switzerland (ဆွစ်ဇာလန်) | ၂၀၀၂၊ စက်တင်ဘာ ၁၀ |
| ၁၆၉။ | Syria (ဆီးရီးယား) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၇၀။ | Tajikistan (တာဂျစ်ကစ္စတန်) | ၁၉၉၂၊ မတ် ၂ |
| ၁၇၁။ | Tanzania (တန်ဇန်းနီးယား) | ၁၉၆၁၊ ဒီဇင်ဘာ ၁၄ |
| ၁၇၂။ | Thailand (ထိုင်း) | ၁၉၄၆၊ ဒီဇင်ဘာ ၁၆ |
| ၁၇၃။ | Timor–Leste (တီမောလိစ်) | ၂၀၀၂၊ စက်တင်ဘာ ၂၇ |
| ၁၇၄။ | Togo (တိုဂို) | ၁၉၆၀၊ စက်တင်ဘာ ၂၀ |
| ၁၇၅။ | Tonga (တွန်ဂါ) | ၁၉၉၉၊ စက်တင်ဘာ ၁၄ |
| ၁၇၆။ | Trinidad and Tobago (ထရီနီဒက်နှင့်တိုဘားဂိုး) | ၁၉၆၂၊ စက်တင်ဘာ ၁၈ |
| ၁၇၇။ | Tunisia (တူနီးရှား) | ၁၉၅၆၊ နိုဝင်ဘာ ၁၂ |
| ၁၇၈။ | Turkey (တူရကီ) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၇၉။ | Turkmenistan (တပ်မင်နစ္စတန်) | ၁၉၉၂၊ မတ် ၂ |
| ၁၈၀။ | Tuvalu (တူဗဲလူး) | ၂၀၀၀၊ စက်တင်ဘာ ၅ |
| ၁၈၁။ | Uganda (ယူဂန်ဒါ) | ၁၉၆၂၊ အောက်တိုဘာ ၂၅ |
| ၁၈၂။ | Ukraine (ယူကရိန်း) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၈၃။ | United Arab Emirates (အာရပ်စော်ဘွားများပြည်ထောင်စု) | ၁၉၇၁၊ ဒီဇင်ဘာ ၉ |
| ၁၈၄။ | United Kingdom (ဗြိတိန်) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |

| | | |
|---|---|---|
| ၁၈၅။ | United States of America (အမေရိကန်ပြည်ထောင်စု) | ၁၉၄၅၊ အောက်တိုဘာ ၂၄ |
| ၁၈၆။ | Uruguay (ဥရုဂွေး) | ၁၉၄၅၊ ဒီဇင်ဘာ ၁၈ |
| ၁၈၇။ | Uzbekistan (ဥဇဘက်ကစ္စတန်) | ၁၉၉၂၊ မတ် ၂ |
| ၁၈၈။ | Vanuatu (ဗာနွာတူ) | ၁၉၈၁၊ စက်တင်ဘာ ၁၅ |
| ၁၈၉။ | Venezuela (ဗင်နီဇွဲလား) | ၁၉၄၅၊ နိုဝင်ဘာ ၁၅ |
| ၁၉၀။ | Vietnam (ဗီယက်နမ်) | ၁၉၇၇၊ စက်တင်ဘာ ၂၀ |
| ၁၉၁။ | Yemen (ယီမင်) | ၁၉၄၇၊ စက်တင်ဘာ ၃၀ |
| ၁၉၂။ | Zambia (ဇမ်ဘီယာ) | ၁၉၆၄၊ ဒီဇင်ဘာ ၁ |
| ၁၉၃။ | Zimbabwe (ဇင်ဘာဘွေ) | ၁၉၈၀၊ ဩဂုတ် ၂၅ |

## ကမ္ဘာ့နိုင်ငံများအကြောင်း သိမှတ်ဖွယ်ရာများ

**အာဖဂန်နစ္စတန်နိုင်ငံ**

၁။ မြို့တော် = ကဘူးလ်
၂။ လူဦးရေ = ၃၈၉၃၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ရှရပ်ဖ် ဂါနီ
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ရှရပ်ဖ် ဂါနီ
၅။ သုံးစွဲသည့်ငွေကြေး = Afghan afghani

**အယ်လ်ဘေးနီးယား**

၁။ မြို့တော် = တီရာနီ
၂။ လူဦးရေ = ၂၈၈၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ အီလာမီတာ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် အဒီ ရာမာ
၅။ သုံးစွဲသည့်ငွေကြေး = Albanian lek

**အယ်လ်ဂျီးရီးယား**

၁။ မြို့တော် = အယ်လ်ဂျီးယားစ်
၂။ လူဦးရေ = ၄၃၈၅၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ အဗ္ဗဒဲလ်မာဂျက် တက်ဘူနီ

၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် အဗ္ဗဒဲလ်လာဇက် ဒီဂျရက်ဒ်
၅။ သုံးစွဲသည့်ငွေကြေး = Algerian dinar

**အင်ဂိုလာ**

၁။ မြို့တော် = လူအန်ဒါ
၂။ လူဦးရေ = ၃၂၈၇၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဂျအူး လော်ရန်ကို
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ဂျအူး လော်ရန်ကို
၅။ သုံးစွဲသည့်ငွေကြေး = Angolan kwanza

**အာဂျင်တီးနား**

၁။ မြို့တော် = ဗျူနိုအေရီစ်
၂။ လူဦးရေ = ၄၅၂၀၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ အယ်လ်ဗာတို ဖာနန်ဒက်
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ အယ်လ်ဗာတို ဖာနန်ဒက်
၅။ သုံးစွဲသည့်ငွေကြေး = Argentine peso

**ဩစတြေးလျ**

၁။ မြို့တော် = ကင်ဘာရာ
၂။ လူဦးရေ = ၂၅၅၀၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဒုတိယမြောက် အဲလီဇဘက်ဘုရင်မကြီး
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် စကော့ထ်မိုရီဆွန်
၅။ သုံးစွဲသည့်ငွေကြေး = Australian dollar

**ဩစတြီးယား**

၁။ မြို့တော် = ဗီယင်နာ
၂။ လူဦးရေ = ၉၀၁၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဖက်ဒရယ်သမ္မတ အလက်ဇန္ဒား ဗန်ဒါဘဲလန်း
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဖက်ဒရယ်ဝန်ကြီးချုပ် ဆီဘာစ်တိန်း ကာ့ဇ်
၅။ သုံးစွဲသည့်ငွေကြေး = European euro

**ဘာရိန်း**

၁။ မြို့တော် = မနာမာ
၂။ လူဦးရေ = ၁၇၀၀၀၀၀

၃။ နိုင်ငံအကြီးအကဲ = ဘုရင် ရှိတ်ဟာမက်ဘင်အစ်ဆာ အဲလ်ခါလီဖာ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ်မင်းသားခါလီဖာဘင်ဆလ်မန်အဲလ် ခါလီဖာ
၅။ သုံးစွဲသည့်ငွေကြေး = Bahraini dinar

**ဘင်္ဂလားဒေ့ရှ်**

၁။ မြို့တော် = ဒါကာ
၂။ လူဦးရေ = ၁၆၄၆၉၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ အဗ္ဗဒူဟာမစ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ရှိတ်ဟာဆီနာ
၅။ သုံးစွဲသည့်ငွေကြေး = Bangladeshi taka

**ဘီလာရုစ်**

၁။ မြို့တော် = မင့်စ်
၂။ လူဦးရေ = ၉၄၅၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ အလက်ဇန္ဒာ လူကာရှန်ကို
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဆရာဟေးရူးမတ်စ်
၅။ သုံးစွဲသည့်ငွေကြေး = Belarusian ruble

**ဘယ်လ်ဂျီယံ**

၁။ မြို့တော် = ဘရပ်ဆဲလ်
၂။ လူဦးရေ = ၁၁၅၉၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဘုရင် ဖီလစ်ပီ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဆိုဖီ ဝီလ်မဲလ်
၅။ သုံးစွဲသည့်ငွေကြေး = European euro

**ဘူတန်**

၁။ မြို့တော် = သင်ဖူး
၂။ လူဦးရေ = ၇၇၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဘုရင် ဂျီဂမီ ခါဆာ နစ်ဂျိုင်း ဝမ်ချွတ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် လော့တေးရှရင်း
၅။ သုံးစွဲသည့်ငွေကြေး = Bhutanese ngultrum

**ဘိုလီးဗီးယား**

၁။ မြို့တော် = လာပက်ဇ်
၂။ လူဦးရေ = ၁၁၆၇၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဂျန်(ရ်)နင်း(န်) အန်နက်ဇ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ဂျန်(ရ်)နင်း(န်) အန်နက်ဇ်
၅။ သုံးစွဲသည့်ငွေကြေး = Bolivian boliviano

**ဘရာဇီးလ်**

၁။ မြို့တော် = ဘရာဇီလီးယား
၂။ လူဦးရေ = ၂၁၂၅၆၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဂျဲဘိုဆိုနာရို
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ဂျဲဘိုဆိုနာရို
၅။ သုံးစွဲသည့်ငွေကြေး = Brazilian real

**ဘရူနိုင်း**

၁။ မြို့တော် = ဘန်ဒါဆီရီ ဘီဂါဝန်
၂။ လူဦးရေ = ၄၃၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဆူလ်တန် ဟာ့ဆနယ် ဘော့ကီးရား
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဆူလ်တန် ဟာ့ဆနယ် ဘော့ကီးရား
၅။ သုံးစွဲသည့်ငွေကြေး = Brunei dollar

**ကမ္ဘောဒီးယား**

၁။ မြို့တော် = ဖနွမ်းပင်
၂။ လူဦးရေ = ၁၆၇၁၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဘုရင် နိုရိုဒွမ် သီဟာမိုနီ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဟွန်ဆန်
၅။ သုံးစွဲသည့်ငွေကြေး = Cambodian riel

**ကနေဒါ**

၁။ မြို့တော် = အော့တာဝါ
၂။ လူဦးရေ = ၃၇၇၄၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဒုတိယမြောက် အဲလီဇဘက်ဘုရင်မကြီး
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဂျက်စတင်ထရူဒေါ
၅။ သုံးစွဲသည့်ငွေကြေး = Canadian dollar

**ချီလီ**

၁။ မြို့တော် = ဆန်တီယာဂို
၂။ လူဦးရေ = ၁၉၁၂၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဆီဘတ်စ်ရှန် ပီနဲရာ
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ဆီဘတ်စ်ရှန် ပီနဲရာ
၅။ သုံးစွဲသည့်ငွေကြေး = Chilean peso

**တရုတ်**

၁။ မြို့တော် = ဘေဂျင်း
၂။ လူဦးရေ = ၁၄၃၉၃၂၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ရှီကျင့်ဖျင်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် လီခကျန့်
၅။ သုံးစွဲသည့်ငွေကြေး = Chinese Yuan Renminbi

**ကိုလံဘီယာ**

၁။ မြို့တော် = ဘိုဂိုတာ
၂။ လူဦးရေ = ၅၀၈၈၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ အိုင်ဗန်ဒူကွီး
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ အိုင်ဗန်ဒူကွီး
၅။ သုံးစွဲသည့်ငွေကြေး = Colombian peso

**ကျူးဘား**

၁။ မြို့တော် = ဟာဗားနား
၂။ လူဦးရေ = ၁၁၃၃၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ မီဂေးလ် ဒီရဇ် ကန်နဲလ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် မာန်နျူရယ် မာရာရို ချက်ဇ်
၅။ သုံးစွဲသည့်ငွေကြေး = Cuban peso

**ဒိန်းမတ်**

၁။ မြို့တော် = ကိုပေဟောဂင်
၂။ လူဦးရေ = ၅၇၉၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဒုတိယမြောက် မာဂရက် ဘုရင်မကြီး
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် မတ်တီ ဖရီဒါရစ်ဆန်
၅။ သုံးစွဲသည့်ငွေကြေး = Danish krone

**အီဂျစ်**

၁။ မြို့တော် = ကိုင်ရို
၂။ လူဦးရေ = ၁၀၂၃၃၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ အဗ္ဗဒဲလ်ဖာတာအယ်လ်စီစီ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် မူစတာဖာ မဒ်ဘူလီ
၅။ သုံးစွဲသည့်ငွေကြေး = Egyptian pound

**အီသီယိုးပီးယား**

၁။ မြို့တော် = အဒစ်အဘာဘာ
၂။ လူဦးရေ = ၁၁၄၉၆၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ရှလီဝက်ခ်ဇွာဒီ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် အဘီ အာမက်
၅။ သုံးစွဲသည့်ငွေကြေး = Ethiopian birr

**ဖင်လန်**

၁။ မြို့တော် = ဟယ်ဆင်ကီး
၂။ လူဦးရေ = ၅၅၄၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဆူလီ နင်နီဆို
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဆန်နာမာရင်း
၅။ သုံးစွဲသည့်ငွေကြေး = European euro

**ပြင်သစ်**

၁။ မြို့တော် = ပဲရစ်
၂။ လူဦးရေ = ၆၅၂၇၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ အီမျူယယ် မက်ကရွန်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် အီဒေါယဒ်ဖီလစ်ပီ
၅။ သုံးစွဲသည့်ငွေကြေး = European euro

**ဂျာမနီ**

၁။ မြို့တော် = ဘာလင်
၂။ လူဦးရေ = ၈၃၇၈၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဖရန့်ခ် ဝေါလ်တာ စတိန်းမီးယား
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် အိန်ဂျလာမာကဲလ်
၅။ သုံးစွဲသည့်ငွေကြေး = European euro

**ဂရိ**

၁။ မြို့တော် = အေသင်
၂။ လူဦးရေ = ၁၀၄၂၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ကတ်တရီနာ ဆာကယ်ဖာရိုပေါလို့စ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ကီရီယာကို့စ် မီဆိုတာကီစ်
၅။ သုံးစွဲသည့်ငွေကြေး = European euro

**အိန္ဒိယ**

၁။ မြို့တော် = နယူးဒေလီ
၂။ လူဦးရေ = ၁၃၈၀၀၀၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ရမ်နာသ် ကိုဗင့်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် နာရန္ဒြရာမိုဒီ
၅။ သုံးစွဲသည့်ငွေကြေး = ndian rupee

**အင်ဒိုနီးရှား**

၁။ မြို့တော် = ဂျာကာတာ
၂။ လူဦးရေ = ၂၇၃၅၂၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဂျိုကိုဝီဒိုဒို
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ဂျိုကိုဝီဒိုဒို
၅။ သုံးစွဲသည့်ငွေကြေး = Indonesian rupiah

**အီရန်**

၁။ မြို့တော် = တီဟီရန်
၂။ လူဦးရေ = ၈၃၉၉၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = တရားသူကြီးချုပ် အယာတိုလာ အလီခါမိနီး
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ဟတ်ဆန် ရိုဟာနီ
၅။ သုံးစွဲသည့်ငွေကြေး = Iranian rial

**အီရတ်**

၁။ မြို့တော် = ဘဂ္ဂဒက်
၂။ လူဦးရေ = ၄၀၂၂၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဘာဟာမ်ဆာလစ်ရှ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် မူစတာဖာ အယ်လ်ခါဟီမီ
၅။ သုံးစွဲသည့်ငွေကြေး = Iraqi dinar

**အစ္စရေးလ်**

၁။ မြို့တော် = ဂျေရုဆလင်
၂။ လူဦးရေ = ၈၆၆၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ရူဗင် ရစ်ဗလင်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဘင်ဂျမင် နေတန်ယာဟု
၅။ သုံးစွဲသည့်ငွေကြေး = Israeli new shekel

**အီတလီ**

၁။ မြို့တော် = ရောမ
၂။ လူဦးရေ = ၆၀၄၆၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဆာဂျီယို မတ်တရီလာ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဂီဆစ်ပီ ကွန်တီ
၅။ သုံးစွဲသည့်ငွေကြေး = European euro

**ဂျပန်**

၁။ မြို့တော် = တိုကျို
၂။ လူဦးရေ = ၁၂၆၄၈၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဘုရင် နာရူဟီတို
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ရှင်ဇိုအာဘေး
၅။ သုံးစွဲသည့်ငွေကြေး = Japanese yen

**ဂျော်ဒန်**

၁။ မြို့တော် = အမ်မန်
၂။ လူဦးရေ = ၁၀၂၀၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဒုတိယမြောက် ဘုရင်အဗ္ဗဒူလာ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် အိုမာရာဇဇ်
၅။ သုံးစွဲသည့်ငွေကြေး = Jordian dinar

**ကင်ညာ**

၁။ မြို့တော် = နိုင်ရိုဘီ
၂။ လူဦးရေ = ၅၃၇၇၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ အူဟူရူကင်ညာတာ
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ အူဟူရူကင်ညာတာ
၅။ သုံးစွဲသည့်ငွေကြေး = Kenyan shilling

**ကီရီဘာတီ**

၁။ မြို့တော် = တာရာဝါ
၂။ လူဦးရေ = ၁၂၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ တန်အီမာမာအူ
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ တန်အီမာမာအူ
၅။ သုံးစွဲသည့်ငွေကြေး = Australian dollar

**ကိုရီးယားသမ္မတနိုင်ငံ(တောင်ကိုရီးယား)**

၁။ မြို့တော် = ဆိုးလ်
၂။ လူဦးရေ = ၅၁၂၇၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ မွန်ဂျေအင်း
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ချွန်ဆေးယုံ
၅။ သုံးစွဲသည့်ငွေကြေး = South Korean won

**ကိုရီးယားဒီမိုကရက်တစ်ပြည်သူ့သမ္မတနိုင်ငံ(မြောက်ကိုရီးယား)**

၁။ မြို့တော် = ပြုံယမ်း
၂။ လူဦးရေ = ၂၅၇၈၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ကင်ဂျုံအန်း
၄။ အစိုးရအဖွဲ့အကြီးအကဲ = ကင်ဂျေးယုံ
၅။ သုံးစွဲသည့်ငွေကြေး = North Korean won

**ကူဝိတ်**

၁။ မြို့တော် = ကူဝိတ်စီးတီး
၂။ လူဦးရေ = ၄၂၇၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = အီမာ ရှိတ် ဆာဘက် အယ်လ်အာမက် အယ်လ်ဂျာဘာ အက်လ်ဆာဘက်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ရှိတ် ဆာဘက်အယ်လ်ခါလီ အဲလ်ဆာဘက်
၅။ သုံးစွဲသည့်ငွေကြေး = Kuwaiti dinar

**လာအို**

၁။ မြို့တော် = ဗီယန်ကျင်း
၂။ လူဦးရေ = ၇၂၈၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဘွန်ညံဗိုရာချစ်သ်

၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် သောင်လွန်းစီဆိုလစ်သ်
၅။ သုံးစွဲသည့်ငွေကြေး = Lao kip

**လက်ဘနွန်**

၁။ မြို့တော် = ဘေရွတ်
၂။ လူဦးရေ = ၆၈၃၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ မီချယ်အွန်း
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဟက်ဆန် ဒီယက်ဘ်
၅။ သုံးစွဲသည့်ငွေကြေး = Lebanese pound

**လစ်ဗျား**

၁။ မြို့တော် = ထရီပိုလီ
၂။ လူဦးရေ = ၆၈၇၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဖာယက်ဇ် အယ်လ်ဆာရာ့ချ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဖာယက်ဇ် အယ်လ်ဆာရာ့ချ်
၅။ သုံးစွဲသည့်ငွေကြေး = Libyan dinar

**လူဇင်းဘတ်**

၁။ မြို့တော် = လူဇင်းဘတ်
၂။ လူဦးရေ = ၆၃၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = မြို့စားကြီး ဟင်နရီ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဇာဗျား ဘတ်တယ်လ်
၅။ သုံးစွဲသည့်ငွေကြေး = European euro

**မလေးရှား**

၁။ မြို့တော် = ကွာလာလမ်ပူ
၂။ လူဦးရေ = ၃၂၃၇၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ပဉ္စမမြောက် ယန်ဒီပါကျူအန်အာဂွန် မူဟာမတ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် မူဟီဒင် ယာဆင်
၅။ သုံးစွဲသည့်ငွေကြေး = Malaysian ringgit

**မက္ကဆီကို**

၁။ မြို့တော် = မက်ဆီကိုစီးတီး
၂။ လူဦးရေ = ၁၂၈၉၃၀၀၀၀

၃။ နိုင်ငံအကြီးအကဲ = သမ္မတ အန်ဒရစ်မန်နျူယယ်လိုးပတ်ဇ်အိုဘရာဒို
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ အန်ဒရစ်မန်နျူယယ်လိုးပတ်ဇ်အိုဘရာဒို
၅။ သုံးစွဲသည့်ငွေကြေး = Mexican peso

**မိုနာကို**

၁။ မြို့တော် = မိုနာကို
၂။ လူဦးရေ = ၃၉၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဒုတိယမြောက်အဲဘတ်မင်းသား
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဆာဂီတယ်လီ
၅။ သုံးစွဲသည့်ငွေကြေး = European euro

**မြန်မာ**

၁။ မြို့တော် = နေပြည်တော်
၂။ လူဦးရေ = ၅၄၁၀၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတဦးဝင်းမြင့်
၄။ အစိုးရအဖွဲ့အကြီးအကဲ = နိုင်ငံတော်အတိုင်ပင်ခံပုဂ္ဂိုလ်
ဒေါ်အောင်ဆန်းစုကြည်
၅။ သုံးစွဲသည့်ငွေကြေး = Myanmar kyat

**နီပေါ**

၁။ မြို့တော် = ခတ္တမန္ဒူ
၂။ လူဦးရေ = ၂၉၁၄၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဘစ်ဒ်ယာဒေဗီဘန်ဒရီ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ကေပီ ရှားမား အိုလီ
၅။ သုံးစွဲသည့်ငွေကြေး = Nepalese rupee

**နယ်သာလန်**

၁။ မြို့တော် = အမ်စတာဒမ်
၂။ လူဦးရေ = ၁၇၁၃၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဘုရင် ဝီလျံအလက်ဇန္ဒား
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် မာ့ခ်ရပ်တီ
၅။ သုံးစွဲသည့်ငွေကြေး = European euro

**နယူးဇီလန်**

၁။ မြို့တော် = ဝယ်လင်တန်
၂။ လူဦးရေ = ၄၈၂၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဒုတိယမြောက် အဲလိဇဘက်ဘုရင်မ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဂျာစင်ဒါ အာဒန်
၅။ သုံးစွဲသည့်ငွေကြေး = New Zealand dollar

**နိုင်ဂျီးရီးယား**

၁။ မြို့တော် = အဘူဂျာ
၂။ လူဦးရေ = ၂၀၆၁၄၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ မူဟာမဒူဘူဟာရီ
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ မူဟာမဒူဘူဟာရီ
၅။ သုံးစွဲသည့်ငွေကြေး = Nigerian naira

**နော်ဝေ**

၁။ မြို့တော် = အော့စလို
၂။ လူဦးရေ = ၅၄၂၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ပဉ္စမမြောက် ဟာရယ်ဘုရင်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် အာနာဆောလ်ဘက်
၅။ သုံးစွဲသည့်ငွေကြေး = Norwegian krone

**အိုမန်**

၁။ မြို့တော် = မတ်စကက်
၂။ လူဦးရေ = ၅၁၁၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဆူလ်တန် ဟိတ်သ်ဟမ် ဘင် တာရစ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဆူလ်တန် ဟိတ်သ်ဟမ် ဘင် တာရစ်
၅။ သုံးစွဲသည့်ငွေကြေး = Omani rial

**ပါကစ္စတန်**

၁။ မြို့တော် = အစ္စလာမ်မာဘတ်
၂။ လူဦးရေ = ၂၂၀၈၉၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ အရစ်ဖ် အယ်လ်ဗီ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် အင်မရင်ခန်း
၅။ သုံးစွဲသည့်ငွေကြေး = Pakistani rupee

**ပီရူး**

၁။ မြို့တော် = လီမာ
၂။ လူဦးရေ = ၃၂၉၇၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ မာတင် ဗီကာရာ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဗင်ဆင့် ဆာဗယ်လာ့စ်
၅။ သုံးစွဲသည့်ငွေကြေး = Peruvian sol

**ဖိလစ်ပိုင်**

၁။ မြို့တော် = မနီလာ
၂။ လူဦးရေ = ၁၀၉၅၈၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ရိုဒရီဂိုဒူတာ့တေး
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ရိုဒရီဂိုဒူတာ့တေး
၅။ သုံးစွဲသည့်ငွေကြေး = Philippine peso

**ပေါ်တူဂီ**

၁။ မြို့တော် = လစ္စဘွန်း
၂။ လူဦးရေ = ၁၀၂၀၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ မာဆယ်လိုရီဘယ်လို ဒီဆိုဆာ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် အန်တိုနီယိုကော့စတား
၅။ သုံးစွဲသည့်ငွေကြေး = European euro

**ကာတာ**

၁။ မြို့တော် = ဒိုဟာ
၂။ လူဦးရေ = ၂၈၈၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = အီမာ ရှိတ် တမင် ဘင် ဟာမတ် အယ်လ်သာနီ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ရှိတ် ခါလစ် ဘင် ခါလီဖာဘင် အဗ္ဗဒူ ဘင် ခါလီဖာ အယ်လ်သာနီ
၅။ သုံးစွဲသည့်ငွေကြေး = Qatari riyal

**ရုရှား**

၁။ မြို့တော် = မော်စကို
၂။ လူဦးရေ = ၁၄၅၉၃၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဗလာဒီမာပူတင်

၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် မစ်ခ်ဟေးလ် မစ်ဟူစတင်
၅။ သုံးစွဲသည့်ငွေကြေး = Russian ruble

**ဆော်ဒီအာရေဗျ**

၁။ မြို့တော် = ရီးယဒ်
၂။ လူဦးရေ = ၃၄၈၁၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဘုရင် ဆာလ်မန်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဘုရင် ဆာလ်မန်
၅။ သုံးစွဲသည့်ငွေကြေး = Saudi Arabian riyal

**စင်ကာပူ**

၁။ မြို့တော် = စင်ကာပူ
၂။ လူဦးရေ = ၅၈၅၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဟာလီမာ ယာကော့ဗ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် လီရှန်လွန်း
၅။ သုံးစွဲသည့်ငွေကြေး = Singapore dollar

**တောင်အာဖရိက**

၁။ မြို့တော် = ပရီတိုးရီးယား
၂။ လူဦးရေ = ၅၉၃၁၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဆိုင်ရေးလ် ရာမာဖိုစာ
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ဆိုင်ရေးလ် ရာမာဖိုစာ
၅။ သုံးစွဲသည့်ငွေကြေး = South African rand

**စပိန်**

၁။ မြို့တော် = မက်ဒရစ်
၂။ လူဦးရေ = ၄၆၇၅၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဆဋ္ဌမမြောက် မင်းသားဖီးလစ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ပက်ဒရို ဆန်းချက်စ်
၅။ သုံးစွဲသည့်ငွေကြေး = European euro

**သီရိလင်္ကာ**

၁။ မြို့တော် = ကိုလံဘို
၂။ လူဦးရေ = ၂၁၄၁၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဂိုတာဘာရာ ရာဂျပ့ါခ်စာ

၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် မဟိန္ဒြာ ရာဂျပဲ့ခ်စာ
၅။ သုံးစွဲသည့်ငွေကြေး = Sri Lankan rupee

**ဆူဒန်**

၁။ မြို့တော် = ခါတွန်
၂။ လူဦးရေ = ၄၃၈၅၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဆူဒန်စစ်ကောင်စီဥက္ကဋ္ဌ အဗ္ဗဒဲလ် ဖတ်တက် အယ်လ် ဘာဟမ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဆူဒန်စစ်ကောင်စီဥက္ကဋ္ဌအဗ္ဗဒယ်လာဟမ်ဒက်ခ်
၅။ သုံးစွဲသည့်ငွေကြေး = Sudanese pound

**ဆွီဒင်**

၁။ မြို့တော် = စတော့ဟုမ်း
၂။ လူဦးရေ = ၁၀၁၀၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = (၁၆) ဦးမြောက် ဘုရင် ကားလ်ဂူးစတပ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် စတီဖင် အိုဗင်း
၅။ သုံးစွဲသည့်ငွေကြေး = Swedish krona

**ဆွစ်ဇာလန်**

၁။ မြို့တော် = ဘန်း
၂။ လူဦးရေ = ၈၆၅၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဆီမွန်နတ် ဆိုမာရူဂါ
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ အူလီမိုရာရာ
၅။ သုံးစွဲသည့်ငွေကြေး = Swiss franc

**ဆီးရီးယား**

၁။ မြို့တော် = ဒမတ်စကတ်
၂။ လူဦးရေ = ၁၇၅၀၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဘာရှား အဲလ်အာဆတ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် အီမတ်ခါမစ်
၅။ သုံးစွဲသည့်ငွေကြေး = Syrian pound

**ထိုင်း**

၁။ မြို့တော် = ဘန်ကောက်
၂။ လူဦးရေ = ၆၉၈၀၀၀၀၀

၃။ နိုင်ငံအကြီးအကဲ = ဘုရင် မဟာ ဝဂျိရာလောင်ကွန်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ပရာယွသ် ချန်အိုချာ
၅။ သုံးစွဲသည့်ငွေကြေး = Thai baht

**တီမောလိစ်**

၁။ မြို့တော် = ဒီလီ
၂။ လူဦးရေ = ၁၃၂၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဖရန်စစ္စကို ဂူတာရတ်စ်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် တော်မတန်ရွတ်ခ်
၅။ သုံးစွဲသည့်ငွေကြေး = United States dollar

**တူရကီ**

၁။ မြို့တော် = အန်ကာရာ
၂။ လူဦးရေ = ၈၄၃၄၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ရီဆစ်ပ် တာယစ်ပ် အာဒိုဂန်
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ရီဆစ်ပ် တာယစ်ပ် အာဒိုဂန်
၅။ သုံးစွဲသည့်ငွေကြေး = Turkish lira

**ယူကရိန်း**

၁။ မြို့တော် = ကိဗ်
၂။ လူဦးရေ = ၄၃၇၃၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဗိုလိုဒီမာ ဇီလန်စကီ
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဒင်းနစ်စ် ရှမ်မီဟယ်လ်
၅။ သုံးစွဲသည့်ငွေကြေး = Ukrainian hryvnia

**အာရပ်စော်ဘွားများပြည်ထောင်စု**

၁။ မြို့တော် = အဘူဒါဘီ
၂။ လူဦးရေ = ၉၈၉၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ရှိတ်ခါလီဖာ ဘင် ဇာရတ် အယ်လ်နာရန်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ရှိတ် မိုဟာမက် ဘင် ရာရှစ် အဲလ် မတ်တန်
၅။ သုံးစွဲသည့်ငွေကြေး = UAE dirham

**ဗြိတိန်**

၁။ မြို့တော် = လန်ဒန်
၂။ လူဦးရေ = ၆၇၈၉၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = ဒုတိယမြောက် အယ်လီဇဘက်ဘုရင်မကြီး
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ဘောရစ်ဂျွန်ဆင်
၅။ သုံးစွဲသည့်ငွေကြေး = Pound sterling

**အမေရိကန်ပြည်ထောင်စု**

၁။ မြို့တော် = ဝါရှင်တန်ဒီစီ
၂။ လူဦးရေ = ၃၃၁၀၀၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ဒေါ်နယ်ထရမ့်
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ ဒေါ်နယ်ထရမ့်
၅။ သုံးစွဲသည့်ငွေကြေး = United States Dollar

**ဗင်နီဇွဲလား**

၁။ မြို့တော် = ကာရာကာ့စ်
၂။ လူဦးရေ = ၂၈၄၄၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ နီကိုလပ်စ်မဒူရို
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ နီကိုလပ်စ်မဒူရို
၅။ သုံးစွဲသည့်ငွေကြေး = Venezuelan bolivar

**ဗီယက်နမ်**

၁။ မြို့တော် = ဟနွိုင်း
၂။ လူဦးရေ = ၉၇၃၄၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ ငုယင်ဖူထရန်
၄။ အစိုးရအဖွဲ့အကြီးအကဲ = ဝန်ကြီးချုပ် ငုယင်ဇွန်ဖူခ်
၅။ သုံးစွဲသည့်ငွေကြေး = Vietnamese dong

**ဇင်ဘာဘွေ**

၁။ မြို့တော် = ဟာရာရေး
၂။ လူဦးရေ = ၁၄၈၆၀၀၀၀
၃။ နိုင်ငံအကြီးအကဲ = သမ္မတ အီမာဆွန် မန်ဂါဂွါ
၄။ အစိုးရအဖွဲ့အကြီးအကဲ = သမ္မတ အီမာဆွန် မန်ဂါဂွါ
၅။ သုံးစွဲသည့်ငွေကြေး = United States dollar

## နိုင်ငံတကာအဖွဲ့အစည်းများ

### ၁။ အာရှ-ပစိဖိတ် စီးပွားရေးပူးပေါင်းဆောင်ရွက်မှုကောင်စီ (အေပက်)

**Asia Pacific Economic Cooperation Council (APEC)**

ဒေသအတွင်းနှင့် ကမ္ဘာ့နိုင်ငံများအကြား ကုန်သွယ်ရေးနှင့် ရင်းနှီးမြှုပ်နှံမှု ပူးပေါင်းဆောင်ရွက်ရေးအတွက် ၁၉၈၉ ခုနှစ်၊ နိုဝင်ဘာတွင် ဖွဲ့စည်းသည်။ ၂၀၀၁ ခုနှစ်၊ အဖွဲ့ဝင်နိုင်ငံများမှာ ဩစတြေးလျ၊ ဘရူနိုင်း၊ ကနေဒါ၊ ချီလီ၊ တရုတ်၊ ဟောင်ကောင်၊ အင်ဒိုနီးရှား၊ ဂျပန်၊ မလေးရှား၊ မက္ကဆီကို၊ နယူးဇီလန်၊ ပါပူဝါနယူးဂီနီ၊ ပီရူး၊ ဖိလစ်ပိုင်၊ ရုရှား၊ စင်ကာပူ၊ တောင်ကိုရီးယား၊ တရုတ်(တိုင်ပေ)၊ ထိုင်း၊ အမေရိကန် ပြည်ထောင်စုနှင့် ဗီယက်နမ်တို့ဖြစ်ကြသည်။ **ဌာနချုပ်-** စင်ကာပူ။

### ၂။ အရှေ့တောင်အာရှနိုင်ငံများအသင်း (အာဆီယံ)

**Association of Southeast Asian Nations (ASEAN)**

အရှေ့တောင်အာရှနိုင်ငံများအသင်း(အာဆီယံ)ကို ၁၉၆၇ ခုနှစ်၊ ဩဂုတ်လ ၈ ရက်နေ့တွင် အဖွဲ့ဝင်နိုင်ငံများအကြား စီးပွားရေး၊ လူမှုရေး၊ ယဉ်ကျေးမှု ပူးပေါင်းဆောင်ရွက်မှုနှင့် ဖွံ့ဖြိုးတိုးတက်မှု မြှင့်တင်ရန် ဖွဲ့စည်းတည်ထောင်ခဲ့သည်။

**အဖွဲ့ဝင်နိုင်ငံများ**

စတင်ဖွဲ့စည်းချိန်က အင်ဒိုနီးရှား၊ ဖိလစ်ပိုင်၊ မလေးရှား၊ ထိုင်းနှင့် စင်ကာပူ နိုင်ငံ စသည့် (၅)နိုင်ငံသာ ပါဝင်ကြသော်လည်း နောက်ပိုင်းတွင် ဘရူနိုင်း၊ ဗီယက်နမ်၊ မြန်မာ၊ လာအိုနှင့် ကမ္ဘောဒီးယားနိုင်ငံတို့ ပါဝင်လာကြသည်။ ယခုအခါ အရှေ့တီမော နိုင်ငံအား လေ့လာသူနိုင်ငံအဖြစ် သတ်မှတ်ထားကြသည်။ ဌာနချုပ်မှာ အင်ဒိုနီးရှား နိုင်ငံ၊ ဂျကာတာမြို့တွင် တည်ရှိသည်။

**အာဆီယံအဖွဲ့၏ ရည်ရွယ်ချက်**

အာဆီယံကို အဓိကအားဖြင့် အောက်ပါရည်ရွယ်ချက် သုံးရပ်ဖြင့် စတင် ဖွဲ့စည်းခဲ့သည် -

(၁) ပူးပေါင်းဆောင်ရွက်မှု လုပ်ငန်းစဉ်များမှတစ်ဆင့် ဒေသတွင်း စီးပွားရေး၊ လူမှုရေးနှင့် ယဉ်ကျေးမှု တိုးတက်ဖြစ်ပေါ်ရေးကို မြှင့်တင်ရန်၊

(၂) အင်အားကြီးနိုင်ငံများ၏ ပြိုင်ဆိုင်မှု၊ ကြီးစိုးမှုများဒေသတွင်း စိမ့်ဝင် ပျံ့နှံ့ မလာစေရေးအတွက် ဒေသအတွင်း နိုင်ငံရေးနှင့် စီးပွားရေး တည်ငြိမ်မှုကို ထိန်းသိမ်းကာကွယ်ရန်၊

(၃) ဒေသအတွင်း နိုင်ငံအချင်းချင်းအကြား ဖြစ်ပေါ်လာသော သဘောထားကွဲလွဲမှုများကို ညှိနှိုင်းဖြေရှင်းသွားရန်တို့ ဖြစ်သည်။

အာဆီယံဒေသအတွင်း နိုင်ငံခြားမှ တိုက်ရိုက်ရင်းနှီးမြှုပ်နှံမှုများကို မြှင့်တင်ရန်နှင့် အာဆီယံနိုင်ငံအချင်းချင်း ရင်းနှီးမြှုပ်နှံမှု တိုးမြှင့်ဆောင်ရွက်ရန်အတွက် အာဆီယံဒေသအတွင်း လွတ်လပ်သောကုန်သွယ်မှုနယ်မြေ ဖော်ဆောင်ရေး (A.F.T.A) ကို ဆောင်ရွက်လျက်ရှိသည်။

**အာဆီယံ၏ လုပ်ငန်းစဉ်(၆)ရပ်**

၁။ သိပ္ပံနှင့်နည်းပညာဖွံ့ဖြိုးရေး
၂။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေး
၃။ ယဉ်ကျေးမှုနှင့် ပြန်ကြားရေး
၄။ လူမှုရေးဆိုင်ရာ ဖွံ့ဖြိုးတိုးတက်ရေး
၅။ မူးယစ်ဆေးဝါးအန္တရာယ် တားဆီးကာကွယ်ရေး
၆။ အစိုးရဝန်ထမ်းပိုင်းဆိုင်ရာကိစ္စများ

**အာဆီယံအသိုက်အဝန်း(၃)ခု**

၁။ အာဆီယံနိုင်ငံရေးနှင့် လုံခြုံရေး အသိုက်အဝန်း
(Asean Political and Security Community)
၂။ အာဆီယံစီးပွားရေးအသိုက်အဝန်း
(Asean Economic Community)
၃။ အာဆီယံလူမှု-ယဉ်ကျေးမှု အသိုက်အဝန်း
(Asean Social and Cultural Community)

**အာဆီယံပဋိညာဉ်(Asean Charter)**

၂၀၀၇ ခုနှစ်၊ နိုဝင်ဘာ ၂၀ ရက်နေ့တွင် စင်ကာပူနိုင်ငံ၌ ကျင်းပခဲ့သော (၁၃) ကြိမ်မြောက် အာဆီယံထိပ်သီးအစည်းအဝေးတွင် အသင်းဝင်နိုင်ငံ ၁၀ နိုင်ငံမှ နိုင်ငံ/အစိုးရအဖွဲ့အကြီးအကဲများက လက်မှတ်ရေးထိုးခဲ့ကြသည်။ အာဆီယံပဋိညာဉ်တွင် အောက်ပါများ ပါဝင်သည်-

၁။ ရည်ရွယ်ချက်နှင့် အခြေခံမူများ
၂။ တရားရေးဆိုင်ရာဖွဲ့စည်းပုံ
၃။ အဖွဲ့ဝင်ခြင်း

၄။ အဖွဲ့၏ အင်္ဂါရပ်များ
၅။ အာဆီယံနှီးနွှယ်အဖွဲ့အစည်းများ
၆။ ကင်းလွတ်ပိုင်ခွင့်နှင့် အထူးခံစားခွင့်များ
၇။ အဆုံးအဖြတ်ချမှတ်ခြင်း
၈။ အငြင်းပွားမှုကိစ္စဖြေရှင်းခြင်း
၉။ ရသုံးငွေစာရင်းနှင့် ဘဏ္ဍာရေး
၁၀။ စီမံခန့်ခွဲရေးလုပ်ထုံး
၁၁။ ဇာတိလက္ခဏာနှင့် သင်္ကေတများ
၁၂။ ပြည်ပဆက်ဆံရေး
၁၃။ အထွေထွေနှင့် အပြီးသတ်ပြဋ္ဌာန်းချက်များဟူ၍ဖြစ်သည်။

အာဆီယံပဋိညာဉ်တွင် နိဒါန်း၌ လုံခြုံအေးချမ်း၍ တည်ငြိမ်မှုရှိပြီး စဉ်ဆက်မပြတ် ရေရှည်စီးပွားဖွံ့ဖြိုးတိုးတက်မှုရှိသော ဒေသတစ်ခုအတွင်း၌ တူညီသော ဆန္ဒပြုမှုကို အခြေခံ၍ ညီညွတ်စွာနေထိုင်ကြရန်လည်းကောင်း၊ အချုပ်အခြာအာဏာတည်တံ့ခိုင်မြဲမှု၊တန်းတူရည်တူရှိမှု၊နယ်မြေတည်တံ့မှု၊အခြားနိုင်ငံများ၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်မှု၊ တစ်နိုင်ငံနှင့်တစ်နိုင်ငံ ကွဲပြားခြားနားမှု မရှိသော်လည်း တူညီသော သဘောဆန္ဒနှင့် ညီညွတ်မှုကို အလေးထားလိုက်နာ၍ ချစ်ကြည်ရင်းနှီးစွာ ပူးပေါင်းဆောင်ရွက်ကြရန်လည်းကောင်း၊ အာဆီယံလုံခြုံရေးအသိုက်အဝန်း၊ အာဆီယံစီးပွားရေးအသိုက်အဝန်းနှင့် အာဆီယံလူမှု-ယဉ်ကျေးမှုအသိုက်အဝန်းဟူသော မဏ္ဍိုင်ကြီးသုံးရပ်ဖြင့် အာဆီယံအသိုက်အဝန်းကို တည်ဆောက်ကြရန်လည်းကောင်း သဘောတူကြသည်။

ယင်းကဲ့သို့ လက်မှတ်ရေးထိုးနိုင်မှုသည် အာဆီယံအဖွဲ့ကြီး၏ နှစ် ၄၀ အတွင်း ကြီးမားသော အောင်မြင်မှုကြီးတစ်ရပ်ဖြစ်ခဲ့ပြီး မြန်မာနိုင်ငံအနေဖြင့် အာဆီယံအဖွဲ့သို့ဝင်ရောက်ပြီး၁၀နှစ်အကြာတွင်ယင်းကဲ့သို့လက်မှတ်ရေးထိုးနိုင်ခဲ့ခြင်းလည်း ဖြစ်သည်။

အာဆီယံပဋိညာဉ်စာတမ်းကို လက်မှတ်ရေးထိုးပြီးဖြစ်၍ အာဆီယံသည် ဥပဒေကြောင်းအရ ပိုမိုခိုင်မာတောင့်တင်းသည့် အဖွဲ့အစည်းတစ်ရပ်ဖြစ်လာပြီး အာဆီယံလုပ်ငန်းများကို ပိုမိုပီပြင်တိကျသည့် ယန္တရားတစ်ရပ်အဖြစ် အာဆီယံ ၁၀ နိုင်ငံ လူမှုစီးပွားတိုးတက်ဖွံ့ဖြိုးရေးအတွက် ပိုမိုတွန်းအားပေးနိုင်မည်ဖြစ်သည်။

အာဆီယံအနေဖြင့် ကမ္ဘာတွင် Regionalization ဖွံ့ဖြိုးနေသော EU, NAFTA ကဲ့သို့ အဖွဲ့အစည်းများနှင့် တန်းတူရင်ပေါင်တန်း ဆက်ဆံနိုင်ရုံမက တရုတ်၊

တောင်ကိုရီးယား၊ ဂျပန်နိုင်ငံအပြင် အာဆီယံမိတ်ဖက်နိုင်ငံများနှင့်ပါ ပိုမိုပူးပေါင်းဆောင်ရွက်လာနိုင်ပြီး ဖွံ့ဖြိုးတိုးတက်မှုများလည်း ယခင်ကထက် ပိုမိုဖွံ့ဖြိုးလာမည်ဖြစ်သည်။

**အာဆီယံနိုင်ငံရေး– လုံခြုံရေးအသိုက်အဝန်း**

**Asean Political and Security Community (APSC)**

နှစ်ပေါင်းအတော်ကြာ တည်ဆောက်ပြီးသည့် နိုင်ငံရေးနှင့် လုံခြုံရေးပူးပေါင်းဆောင်ရွက်မှုအပေါ် မူတည်၍ အာဆီယံခေါင်းဆောင်များသည် အာဆီယံနိုင်ငံရေးနှင့် လုံခြုံရေးအသိုက်အဝန်းကို တည်ဆောက်ရန် သဘောတူညီခဲ့ကြသည်။ ရည်ရွယ်ချက်မှာ ဒေသအတွင်းရှိ နိုင်ငံများသည် တစ်နိုင်ငံနှင့် တစ်နိုင်ငံ ငြိမ်းချမ်းစွာနေထိုင်ရန်နှင့် တရားမျှတသော ဒီမိုကရေစီထွန်းကားသော၊ တစ်သွေးတစ်သားတည်းဖြစ်သော ကမ္ဘာကြီးဖြစ်လာစေရန် ရည်ရွယ်ပါသည်။

အာဆီယံနိုင်ငံရေးနှင့် လုံခြုံရေးအသိုက်အဝန်းအတွင်း အဖွဲ့ဝင်နိုင်ငံများသည် ဒေသအတွင်း မတူညီသော ခြားနားချက်များကို ဖြေရှင်းရေးနည်းလမ်းများအပေါ် မှီခိုအားထားရန် ကတိပြုသည်။ နိုင်ငံရေး ဖွံ့ဖြိုးမှုစံနှုန်းများ သတ်မှတ်ခြင်းနှင့် မျှဝေခြင်း၊ ပဋိပက္ခဖြေရှင်းခြင်း၊ ပဋိပက္ခအပြီး ငြိမ်းချမ်းရေးတည်ဆောက်ခြင်း၊ အကောင်အထည်ဖော်ခြင်းလုပ်ငန်းစဉ်များတွင် ဘုံအမြင်နှင့် ရည်ရွယ်ချက်ထားရှိပြီး ငြိမ်းချမ်းရေးလုပ်ငန်းစဉ်အပေါ်တွင် မှီခိုရန် ကတိပြုသည်။

အာဆီယံနိုင်ငံရေးနှင့် လုံခြုံရေးအသိုက်အဝန်းသည် အောက်ပါအစည်းအဝေးများမှ အာဆီယံလုပ်ငန်းစဉ်၊ အာဆီယံစည်းကမ်းသဘောတူညီမှုနှင့် ဖွဲ့စည်းပုံပေါ် မူတည်၍ ပေါ်ထွက်လာခြင်းဖြစ်သည်–

(က) အာဆီယံကြေညာချက်၊ ဘန်ကောက်၊ ၁၉၆၇ ဩဂုတ် ၈ ရက်

(ခ) ငြိမ်းချမ်းရေး၊ လွတ်လပ်ရေးနှင့် ကြားနေရေးဇုန် ကြေညာချက်၊ ကွာလာလမ်ပူ၊ ၁၉၇၁ နိုဝင်ဘာ ၂၇

(ဂ) အာဆီယံကွန်းကော့ကြေညာချက်၊ ဘာလီ၊ ၁၉၇၆ ဖေဖော်ဝါရီ ၂၄

(ဃ) အရှေ့တောင်အာရှအတွင်း ပူးပေါင်းဆောင်ရွက်မှုနှင့် ချစ်ကြည်မှုသဘောတူညီချက်၊ ဘာလီ၊ ၁၉၇၆ ဖေဖော်ဝါရီ ၂၄

(င) တောင်တရုတ်ပင်လယ်နှင့်ပတ်သက်၍ အာဆီယံကြေညာချက်၊ မနီလာ၊ ၁၉၉၂ ဇူလိုင် ၂၂

(စ) အရှေ့တောင်အာရှ နျူကလီးယားလက်နက်ကင်းမဲ့ဇုန် သဘော

တူညီချက်၊ ဘန်ကောက်၊ ၁၉၉၇ ဒီဇင်ဘာ ၁၅

(ဆ) အာဆီယံအမြင် ၂၀၂၀၊ ကွာလာလမ်ပူ၊ ၁၉၉၇ ဒီဇင်ဘာ ၁၅

( ဇ ) အာဆီယံကွန်းကော့ကြေညာချက်၊ ဘာလီ၊ ၂၀၀၃ အောက်တိုဘာ ၇

**အာဆီယံစီးပွားရေးအသိုက်အဝန်း (Asean Economic Community –AEC)**

အာဆီယံစီးပွားရေးအသိုက်အဝန်းသည် အာဆီယံအမြင် ၂၀၂၀ တွင် ချမှတ်ခဲ့သည့် စီးပွားရေးပူးပေါင်းဆောင်ရွက်မှုလုပ်ငန်းများ၏ နောက်ဆုံးရည်မှန်းချက်ဖြစ်သည်။ ရည်ရွယ်ချက်မှာ အာဆီယံဒေသအတွင်း၌ ကုန်ပစ္စည်းများ၊ ဝန်ဆောင်မှုလုပ်ငန်းများ၊ ရင်းနှီးမြှုပ်နှံမှုများ လွတ်လပ်စွာစီးဆင်းရန် တူညီသောစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကွာခြားချက်နည်းပါး၍ ကမ္ဘာ့ဈေးကွက်တွင် အမြင့်မားဆုံး ယှဉ်ပြိုင်နိုင်သော အာဆီယံစီးပွားရေးဒေသကို ဖန်တီးရန် ရည်ရွယ်သည်။

အာဆီယံ စီးပွားရေးအသိုက်အဝန်းသည် အာဆီယံကို ထုတ်လုပ်မှုနှင့်ဈေးကွက်တစ်ခုတည်းအဖြစ် တည်ထောင်ပြီး စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက်အခွင့်အလမ်းများ ပိုမိုတိုးတက်ရရှိစေပြီး အာဆီယံကို ကမ္ဘာ့စီးပွားရေး၏ အဓိကအထောက်အပံ့ဖြစ်စေရန်ရည်ရွယ်သည်။နည်းဗျူဟာမှာအာဆီယံကိုပေါင်းစည်း၍အာဆီယံ၏ စီးပွားရေးယှဉ်ပြိုင်မှုများကို အင်အားပိုမိုတောင့်တင်းစေရန် လုပ်ဆောင်ခြင်းဖြစ်သည်။

အာဆီယံစီးပွားရေးအသိုက်အဝန်းကို ဖော်ဆောင်နိုင်ရေးအတွက် အာဆီယံနိုင်ငံများအကြား အောက်ပါတို့ကို သဘောတူညီပြီးဖြစ်သည်–

- အာဆီယံလွတ်လပ်သောကုန်သွယ်မှုဒေသ (Asean Free Trade Area)၊ အာဆီယံဝန်ဆောင်မှုသဘောတူညီချက်မူဘောင် (Asean Framework Agreement on Services)၊ အာဆီယံရင်းနှီးမြှုပ်နှံမှုဧရိယာ (Asean Investment Area)တို့အပါအဝင် တည်ရှိပြီးသော စီးပွားရေးဆိုင်ရာသဘောတူညီချက်များကို ခိုင်မာစေရန်နှင့် လုပ်ငန်းစဉ်အသစ်များကိုလည်း တိုးချဲ့နိုင်ရန်၊
- လေကြောင်းခရီး၊ စိုက်ပျိုးရေးအခြေခံထုတ်ကုန်များ၊ e–commerce၊ လျှပ်စစ်ပစ္စည်းများ၊ ရေထွက်ပစ္စည်းများ၊ ကျန်းမာရေးစောင့်ရှောက်မှုလုပ်ငန်းများ၊ရာဘာအခြေခံထုတ်ကုန်များ၊အထည်အလိပ်လုပ်ငန်းများ၊ ခရီးသွားလာမှုလုပ်ငန်းများ၊ သစ်အခြေခံထုတ်ကုန်များ စသည်တို့ကို သက္ကရာဇ် ၂၀၁၀ တွင် အရှိန်မြင့် ပူးပေါင်းဆောင်ရွက်ရန်၊

- စီးပွားရေးလုပ်ငန်းရှင်များ၊ ကျွမ်းကျင်လုပ်သားများ ပြောင်းရွှေ့လုပ်ကိုင်မှုကို ချောမွေ့စေရန်၊
- အာဆီယံအစုအဖွဲ့ဆိုင်ရာလုပ်ငန်းစဉ်များကိုအရှိန်အဟုန်မြှင့်တင်ရန်၊
- စီးပွားရေးဆိုင်ရာ အငြင်းပွားမှု၊ ပဋိပက္ခများကို ဖြေရှင်းရာတွင် မြန်ဆန်ထိရောက်သော၊ တရားဝင်သော နည်းလမ်းများအတိုင်းဖြစ်စေပြီး အငြင်းပွားမှုဖြေရှင်းရေးနည်းလမ်းများကိုလည်းတိုးတက်ဖော်ဆောင်ရန်တို့ဖြစ်သည်။

၁၉၉၂ ခုနှစ်မှစတင်ခဲ့သော အာဆီယံလွတ်လပ်သောကုန်သွယ်မှုဒေသ (Asean Free Trade Area)ကို ယခုအခါ စတင်အကောင်အထည်ဖော်နေပြီဖြစ်သည်။ အခြားစီးပွားရေးဆိုင်ရာ အဓိကကျသော ပူးပေါင်းဆောင်ရွက်မှုများမှာ အောက်ပါအတိုင်းဖြစ်သည် –

- ဈေးကွက်ရင်းနှီးမြှုပ်နှံမှု တိုးတက်ရေး၊ ရင်းနှီးမြှုပ်နှံမှုစာရင်းအင်းများ၊ငွေကြေးဆိုင်ရာဝန်ဆောင်မှုလုပ်ငန်းများ၊သုံးငွေဆိုင်ရာပူးပေါင်းဆောင်ရွက်ခြင်းများနှင့် ပတ်သက်၍ လမ်းပြမြေပုံချမှတ်ခြင်း၊
- အာဆီယံဖြတ်ကျော်ပို့ဆောင်ရေးကွန်ရက်များ ဥပမာ–စင်ကာပူမှကူမင်းရထားလမ်း၊ အဓိကလေဆိပ်များ၊ ရေကြောင်းသွားလာရေးလုပ်ငန်းများ၊ ပြည်တွင်းသယ်ယူပို့ဆောင်ရေး လေကြောင်းချိတ်ဆက်မှုများ၊
- လေကြောင်းခရီးသွားလာရေးကဏ္ဍတွင် ပူးပေါင်းဆောင်ရွက်ရေးလမ်းပြမြေပုံများ၊
- တစ်နိုင်ငံနှင့်တစ်နိုင်ငံ ဆက်သွယ်ဆောင်ရွက်နိုင်သော ဆက်သွယ်ရေးဝန်ဆောင်မှုလုပ်ငန်းများ၊
- အာဆီယံစွမ်းအင်ကွန်ရက်နှင့် အာဆီယံဖြတ်ကျော် ဓာတ်ငွေ့ပိုက်လိုင်းစီမံကိန်း၊
- အခြေခံအရင်းအမြစ်များဖြစ်သည့် လူ့စွမ်းအားအရင်းအမြစ်များ ဖွံ့ဖြိုးတိုးတက်မှု၊ သတင်းနှင့် ဆက်သွယ်ရေးနည်းလမ်းများတွင် ပူးပေါင်းဆောင်ရွက်မှု စတင်ရန်နှင့်
- အာဆီယံစားနပ်ရိက္ခာလုံခြုံရေးအတွက် သဘောတူညီချက်ရရှိအောင်ဆောင်ရွက်ခြင်းတို့ဖြစ်သည်။

**အာဆီယံလူမှု-ယဉ်ကျေးမှုအသိုက်အဝန်း**
**(Asean Social and Cultural Community–ASCC)**

အာဆီယံလူမှုရေးနှင့် ယဉ်ကျေးမှုအသိုက်အဝန်းသည် ၂၀၂၀ ပြည့်နှစ် အာဆီယံအမြင်အရ ချမှတ်ထားသော မျှော်မှန်းချက်နှင့်အညီ အာဆီယံကို တစုတစည်းတည်း ပေါင်းစည်းထားသော ဒေသဆိုင်ရာ ယဉ်ကျေးမှုဘုံပြယုဂ်တစ်ခု ဖြစ်လာစေရန် ရည်ရွယ်ဖွဲ့စည်းထားသည်။ ကျေးလက်နေပြည်သူများ အထူးသဖြင့် အမျိုးသမီးများ၊ လူငယ်များနှင့် ဒေသအတွင်း အဖွဲ့အစည်းများကို လူနေမှုအဆင့် အတန်းမြင့်လာစေရန်အတွက် လူမှုရေးဖွံ့ဖြိုးတိုးတက်မှုလုပ်ငန်းများကို မြေတောင်မြှောက်ပေးရန်ဖြစ်သည်။ အာဆီယံဒေသအတွင်း လူမှုရေးဆိုင်ရာ ကာကွယ်စောင့်ရှောက်မှု၊ အလုပ်အကိုင်ပိုမိုရရှိရေး၊ သိပ္ပံနှင့် နည်းပညာဖွံ့ဖြိုးရေး၊ အခြေခံနှင့် အဆင့်မြင့်ပညာရေးတို့တွင် ပိုမိုရင်းနှီးမြှုပ်နှံမှုများ ပြုလုပ်ရန် ရည်ရွယ်သည်။ ထို့အပြင် ပြည်သူလူထု၏ ကျန်းမာရေးဆိုင်ရာ စောင့်ရှောက်မှုလုပ်ငန်းများ၊ ကူးစက်တတ်သောရောဂါများကို ကာကွယ်နှိမ်နင်းခြင်းလုပ်ငန်းများတွင် ပိုမိုပါဝင်ကူညီမှုများပေးရန်ဖြစ်သည်။

အာဆီယံ၏ လုပ်ဆောင်နေဆဲဖြစ်သော လူမှုရေးဆိုင်ရာ ဆောင်ရွက်ချက်များမှာ အောက်ပါအတိုင်းဖြစ်သည်–

(က) လူမှုရေးဆိုင်ရာ ကူညီထောက်ပံ့မှုဆိုင်ရာ လုပ်ငန်းအစီအစဉ်
(ခ) HIV/AIDS ဆိုင်ရာ လုပ်ငန်းအစီအစဉ်
(ဂ) သက်ကြီးရွယ်အိုများ ပြုစုစောင့်ရှောက်မှုလုပ်ငန်းအစီအစဉ်
(ဃ) လုပ်ငန်းခွင် ကျန်းမာရေးနှင့် ဘေးကင်းရေးလုပ်ငန်းအစီအစဉ်
(င) Globalization ၏ စိန်ခေါ်မှုများနှင့် အာဆီယံလူငယ်များ၏ ရေရှည် အလုပ်အကိုင် ရရှိမှုအတွက် အာဆီယံလုပ်ငန်းအစီအစဉ်
(စ) အာဆီယံနိုင်ငံများအတွင်း တက္ကသိုလ်များ ပိုမိုပူးပေါင်းဆောင်ရွက်မှုကွန်ရက်
(ဆ) အာဆီယံကျောင်းသားများ လဲလှယ်မှုအစီအစဉ်
(ဇ) နှစ်စဉ် အာဆီယံယဉ်ကျေးမှု ရက်သတ္တပတ်၊ အာဆီယံလူငယ်စခန်းနှင့် အာဆီယံအမေးအဖြေအစီအစဉ်များ
(ဈ) အာဆီယံမီဒီယာ ဖလှယ်ရေးအစီအစဉ်များ
(ည) ပတ်ဝန်းကျင်ဆိုင်ရာ ရေရှည်ထိန်းသိမ်းနိုင်သော မြို့ကြီးများအတွက် စည်းမျဉ်းဘောင်များ ချမှတ်ရန်နှင့်

( ၄ ) နိုင်ငံဖြတ်ကျော်ပတ်ဝန်းကျင်ဆိုင်ရာ ညစ်ညမ်းမှုဆိုင်ရာ အာဆီယံ သဘောတူညီချက်တို့ ဖြစ်ကြသည်။

**အာဆီယံ + ၃**

အာဆီယံအဖွဲ့ဝင် (၁၀)နိုင်ငံနှင့် တရုတ်၊ ကိုရီးယား၊ ဂျပန်၊ အိန္ဒိယ၊ ဩစတြေးလျ၊ နယူးဇီလန်နိုင်ငံတို့ ပါဝင်ကြသည်။

**အာဆီယံ၏ အတွင်းရေးမှူးချုပ်များ**

| စဉ် | အမည် | သက်တမ်း | နိုင်ငံ |
|---|---|---|---|
| ၁။ | ဟာတာနိုဒါဆိုနို | ၇-၆-၁၉၇၆ မှ ၁၈-၂-၁၉၇၈ | အင်ဒိုနီးရှား |
| ၂။ | အူမာဂျာဒီနိုတိုဝိဂျိုနို | ၁၉-၂-၁၉၇၈ မှ ၃၀-၆-၁၉၇၈ | အင်ဒိုနီးရှား |
| ၃။ | ဒါတွက်အလီဘင် အဗ္ဗဒူလာ | ၁-၇-၁၉၇၈ မှ ၃၀-၆-၁၉၈၀ | |
| ၄။ | နာစီဆိုဂျီရီယက်စ် | ၁-၇-၁၉၈၀ မှ ၁-၇၁၉၈၂ | မလေးရှား |
| ၅။ | ချန်ကေယု | ၁၈-၇-၁၉၈၂ မှ ၁၅-၇-၁၉၈၄ | ဖိလစ်ပိုင် |
| ၆။ | ဖန်ဝန်နာမိသီး | ၁၆-၇-၁၉၈၄ မှ ၁၅-၇-၁၉၈၆ | စင်ကာကူ |
| ၇။ | ဒရစ်ရန် | ၁၆-၇-၁၉၈၆ မှ ၁၆-၇- ၁၉၈၉ | ထိုင်း |
| ၈။ | ရပ်စလီနော် | ၁၇-၇၁၉၈၉ မှ ၁-၁-၁၉၉၃ | ဘရူနိုင်း |
| ၉။ | အဂျစ်ဆန်းန် | ၁-၁-၁၉၉၃ မှ ၃၁-၁၂-၁၉၉၇ | အင်ဒိုနီးရှား |
| ၁၀။ | ရိုဒေါ်လ်ဖိုစီဆီဗာရီဒို | ၁-၁-၁၉၉၈ မှ ၃၁-၁၂-၂၀၀၂ | မလေးရှား |
| ၁၁။ | ဩ်ကန်ယောင် | ၁-၁-၂၀၀၃ မှ ၃၁-၁၂-၂၀၀၇ | ဖိလစ်ပိုင် |
| ၁၂။ | ဆူရစ်ပစ်ဆူဝမ် | ၁-၁-၂၀၀၈ မှ ၃၁-၁၂-၂၀၁၂ | ထိုင်း |
| ၁၃။ | လီယောင်မင် | ၁-၁- ၂၀၁၃ မှ ၃၁-၁၂-၂၀၁၇ | ဗီယက်နမ် |
| ၁၄။ | ဒါတိုလင် ကျောက်တွိုင် | ၁-၁-၂၀၁၈ မှ ယနေ့ထိ | ဘရူနိုင်း |

အာဆီယံအလှည့်ကျ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့သည့် နိုင်ငံများနှင့် ခုနှစ်

| | | |
|---|---|---|
| ၁။ | အင်ဒိုနီးရှား | ၁၉၇၆ |
| ၂။ | မလေးရှား | ၁၉၇၇ |
| ၃။ | ဖိလစ်ပိုင် | ၁၉၈၇ |
| ၄။ | စင်ကာပူ | ၁၉၉၂ |
| ၅။ | ထိုင်း | ၁၉၉၅ |
| ၆။ | အင်ဒိုနီးရှား | ၁၉၉၆ |
| ၇။ | မလေးရှား | ၁၉၉၇ |
| ၈။ | ဗီယက်နမ် | ၁၉၉၈ |
| ၉။ | ဖိလစ်ပိုင် | ၁၉၉၉ |
| ၁၀။ | စင်ကာပူ | ၂၀၀၀ |
| ၁၁။ | ဘရူနိုင်း | ၂၀၀၁ |
| ၁၂။ | ကမ္ဘောဒီးယား | ၂၀၀၂ |
| ၁၃။ | အင်ဒိုနီးရှား | ၂၀၀၃ |
| ၁၄။ | လာအို | ၂၀၀၄ |
| ၁၅။ | မလေးရှား | ၂၀၀၅ |
| ၁၆။ | ဖိလစ်ပိုင် | ၂၀၀၆ |
| ၁၇။ | စင်ကာပူ | ၂၀၀၇ |
| ၁၈။ | ထိုင်း | ၂၀၀၈-၂၀၀၉ |
| ၁၉။ | ဗီယက်နမ် | ၂၀၁၀ |
| ၂၀။ | အင်ဒိုနီးရှား | ၂၀၁၁ |
| ၂၁။ | ကမ္ဘောဒီးယား | ၂၀၁၂ |
| ၂၂။ | ဘရူနိုင်း | ၂၀၁၃ |
| ၂၃။ | မြန်မာ | ၂၀၁၄ |
| ၂၄။ | မလေးရှား | ၂၀၁၅ |
| ၂၅။ | လာအို | ၂၀၁၆ |
| ၂၆။ | ဖိလစ်ပိုင် | ၂၀၁၇ |
| ၂၇။ | စင်ကာပူ | ၂၀၁၈ |
| ၂၈။ | ထိုင်း | ၂၀၁၉ |
| ၂၉။ | ဗီယက်နမ် | ၂၀၂၀ |

**ARF (ASEAN Regional Forum)**

၁၉၉၂ ခုနှစ်၊ စင်ကာပူတွင် ကျင်းပပြုလုပ်ခဲ့သည့် စတုတ္ထအကြိမ် အာဆီယံထိပ်သီးညီလာခံတွင် ဒေသတွင်းလုံခြုံရေးများ ပူးပေါင်းဆောင်ရွက်သွားနိုင်ရန် နည်းလမ်းများရှာသင့်ကြောင်း ထုတ်ပြန်ကြေညာခဲ့ပါသည်။ ၁၉၉၃ ခုနှစ်တွင် ကျင်းပခဲ့သည့် အာဆီယံနိုင်ငံခြားရေးဝန်ကြီးများ အစည်းအဝေးတွင် အာဆီယံဒေသဆိုင်ရာ ဆွေးနွေးပွဲတစ်ရပ် ထူထောင်သွားရန် ဆုံးဖြတ်ခဲ့ပါသည်။ ပထမအကြိမ် ARF ကို ၁၉၉၄ ခုနှစ် ထိုင်းနိုင်ငံ ဘန်ကောက်မြို့တွင် ကျင်းပခဲ့ပါသည်။ အာဆီယံ နိုင်ငံခြားရေးဝန်ကြီးများ အစည်းအဝေးအပြီး စတင်ကျင်းပပြုလုပ်ခဲ့ပါသည်။ ယခုအချိန်တွင် ARF အဖွဲ့ဝင်များအဖြစ် အာဆီယံအဖွဲ့ဝင် ၁၀ နိုင်ငံ၊ ဆွေးနွေးဖက် ၁၀ နိုင်ငံနှင့် ပါပူဝါနယူးဂီနီ၊ မွန်ဂိုလီးယားနိုင်ငံနှင့် မြောက်ကိုရီးယားနိုင်ငံ စုစုပေါင်း အဖွဲ့ဝင် ၂၃ နိုင်ငံရှိနေပြီ ဖြစ်ပါသည်။

ARF ရည်ရွယ်ချက်များမှာ–

(၁) အရှေ့အာရှနှင့် ပစိဖိတ်ဒေသအတွင်း ငြိမ်းချမ်းရေးနှင့် တည်ငြိမ်ရေးကို ထိန်းသိမ်းရန်၊

(၂) ARF ကို ပွင့်ပွင့်လင်းလင်း ဆွေးနွေးသည့်နေရာအဖြစ် ထားရှိရန်၊

(၃) ARF အဖွဲ့ဝင်အချင်းချင်း ညှိနှိုင်းတိုင်ပင်ဆွေးနွေးခြင်းဖြင့် ဒေသတွင်းငြိမ်းချမ်းရေးနှင့် တည်ငြိမ်ရေးအား ခြိမ်းခြောက်မှုများကို လျှော့ချရန်။

(၄) လုံခြုံရေးဆိုင်ရာ စစ်ရေးသာမက နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး စသည့် ကဏ္ဍများကို ထည့်သွင်းစဉ်းစားရန်တို့ ဖြစ်ပါသည်။

**AFTA (Asean Free Trade Area)**

AFTA အဖွဲ့သည် အာဆီယံအသင်းဝင်နိုင်ငံများအကြား အကျိုးတူရင်းနှီးမြှုပ်နှံမှုနှင့် ကုန်သွယ်ရေးစည်းမျဉ်းစည်းကမ်းများ ချမှတ်ဆောင်ရွက်နိုင်မည့် ဒေသဆိုင်ရာ အဖွဲ့အစည်းကြီးတစ်ခုဖြစ်သည်။ AFTA အဖွဲ့အား ၁၉၉၂ ခုနှစ်မှစ၍ တည်ထောင်နိုင်ခဲ့သည်။ ရည်ရွယ်ချက်မှာ အာဆီယံဒေသ ဖွံ့ဖြိုးတိုးတက်စေရန်အတွက် အဓိကထားခြင်းပင်ဖြစ်သည်။ လွန်ခဲ့သည့် ငါးနှစ်၌ ကမ္ဘာ့စီးပွားရေး ပျမ်းမျှတိုးတက်နှုန်းမှာ ၁ ဒသမ ၈ ရာခိုင်နှုန်းသာ ရှိနေချိန်တွင် အာဆီယံဒေသမှ ၇ ရာခိုင်နှုန်း တိုးတက်ခဲ့ပါသည်။ ၂၀၁၅ ခုနှစ်တွင် အာဆီယံဒေသဘုံဈေးကွက်ထူထောင်နိုင်မည်ဟု အင်အားကြီးငါးနိုင်ငံမှ သဘောတူထားသည်။ အဖွဲ့၏ ၂၀၂၀ ပြည့်နှစ်အတွက် မျှော်မှန်းချက်မှာ အာဆီယံဒေသသည် လူဦးရေအားဖြင့် သန်း

၆၀၀ ကျော်ရှိသည့် ၁၀ နိုင်ငံ ဈေးကွက်ဖြစ်ပြီး တစ်နိုင်ငံချင်းစီ၏ ပြည်တွင်းထုတ်ကုန် တန်ဖိုးများကို စုပေါင်းလျှင် အမေရိကန်ဒေါ်လာ တစ်ထရီလီယံနှင့်ညီသော အာဆီယံဈေးကွက်ဖြစ်လာရေးပင် ဖြစ်သည်။

၃။ **ကာရစ်ဘီယံ ဓနသဟာယနှင့် ဘုံဈေးအဖွဲ့ (ကာရီကွန်)**

**Caribbean Community and Common Market (CARICOM)**

၁၉၇၃ ခုနှစ်၊ ဩဂုတ်လ ၁ ရက်တွင် တည်ထောင်သည်။ အဖွဲ့၏ရည်ရွယ်ချက်မှာ စီးပွားရေး၊ ကျန်းမာရေး၊ ပညာရေး၊ ယဉ်ကျေးမှု၊ သိပ္ပံနှင့် နည်းပညာ၊ အခွန်စည်းကြပ်ခြင်းတို့တွင် ပိုမိုပူးပေါင်းဆောင်ရွက်ရန်ဖြစ်သည်။ နိုင်ငံခြားရေးဝါဒတွင်လည်း ပူးပေါင်းချမှတ်ကြရန်ဖြစ်သည်။ ၂၀၀၁ ခုနှစ်အထိ အဖွဲ့ဝင်နိုင်ငံများမှာ အင်တီဂွါနှင့် ဘာဘူဒါ၊ ဘဟားမား၊ ဘာဘေဒို၊ ဘလိဇ်၊ ဒိုမီနီကာ၊ ဂရင်နေဒါ၊ ဂူယာနာ၊ ဟေတီ(ယာယီ)၊ ဂျမေကာ၊ မွန်ဆာရက်၊ စိန့်ကစ်နှင့် နီးဗစ်၊ စိန့်လူရှာ၊ စိန့်ဗင်းဆင့်နှင့် ဂရင်နာဒင်း၊ ဆူရီနမ်၊ ထရီနီဒက်နှင့် တိုဘာဂိုတို့ ဖြစ်ကြသည်။

**ဌာနချုပ်–** ဂူယာနာနိုင်ငံ၊ ဂျော့တောင်းမြို့။

၄။ **လွတ်လပ်သော ဓနသဟာယအဖွဲ့ (စီအိုင်အက်စ်)**

**Commonwealth of Independent States (CIS)**

ဆိုဗီယက်ပြည်ထောင်စု ပြိုကွဲသွားချိန်တွင် ၁၉၉၁ ခုနှစ်၊ ဒီဇင်ဘာလ၌ စတင် တည်ထောင်ခဲ့သည့် လွတ်လပ်သော နိုင်ငံများ၏ မဟာမိတ်အဖွဲ့ဖြစ်သည်။ ၂၀၀၁ ခုနှစ် အဖွဲ့ဝင်များမှာ ယခင် ဆိုဗီယက်ပြည်ထောင်စုအဖွဲ့ဝင် (၁၅)နိုင်ငံအနက် (၁၂) နိုင်ငံ ဖြစ်ကြသည့် အာမေးနီးယား၊ အဇာဘိုင်ဂျန်၊ ဘီလာရုစ်၊ ဂျော်ဂျီယာ၊ ကာဇက် စတန်၊ မိုဒိုဗာ၊ ရုရှား၊ တာဂျစ်ကစ္စတန်၊ ကာဂျစ်စတန်၊ တာမေနစ္စတန်၊ ယူကရိန်းနှင့် ဥဇဘက်ကစ္စတန်တို့ ဖြစ်ကြသည်။ နိုင်ငံအကြီးအကဲများကောင်စီ၊ အစိုးရအဖွဲ့ အကြီးအကဲများကောင်စီစသော ပူးပေါင်းအဖွဲ့များက မူဝါဒချမှတ်သည်။

**ဌာနချုပ်–** ဘီလာရုစ်နိုင်ငံ၊ မင့်စ်မြို့။

၅။ **ဓနသဟာယအဖွဲ့ (The Commonwealth)**

ဓနသဟာယအဖွဲ့ကို မူလက ဗြိတိသျှဓနသဟာယနိုင်ငံများအဖွဲ့ဟု ခေါ်သည်။ နောက်တွင် ဓနသဟာယနိုင်ငံများအဖွဲ့ဟု ခေါ်သည်။ တစ်ချိန်က ဗြိတိသျှထီးနန်းရှင်သည် ဓနသဟာယအဖွဲ့၏ အကြီးအကဲဖြစ်သည်။

ဓနသဟာယအဖွဲ့တွင် အာဖရိက၊ အရှေ့ကာရစ်ဘီယံနှင့် အမေရိက၊ ဥရောပနှင့် ပစိဖိတ်ဒေသတို့မှ နိုင်ငံပေါင်း(၅၄)နိုင်ငံပါရှိသည်။ ၎င်းတို့မှာ ယူနိုက်တက်

ကင်းဒမ်း၊ အင်တီဂွါနှင့် ဘာဘူဒါ၊ ဩစတြေးလျ၊ ဘာဟာမား၊ ဘာဘေဒို၊ ဘလိဇ်၊ ကနေဒါ၊ ဂရင်းနေဒါ၊ ဂျမေကာ၊ နယူးဇီလန်၊ ပါပူဝါနယူးဂီနီ၊ စိန့်ကစ်နှင့် နီးဗစ်၊ စိန့်လူရှာ၊ စိန့်ဗင်းဆင့်နှင့် ဂရင်နာဒင်၊ ဆော်လ်မွန်ကျွန်းစုနှင့် တူဗာလူ၊ ဘင်္ဂလားဒေ့ရှ်၊ ဘော့ဆွာနာ၊ ဘရူနိုင်း၊ ကင်မရွန်း၊ ဆိုက်ပရပ်၊ ဒိုမီနီကာ၊ ဖီဂျီ၊ ဂမ်ဘီယာ၊ ဂါနာ၊ ဂိုင်ယာနာ၊ အိန္ဒိယ၊ ကင်ညာ၊ ကီရီဘာတီ၊ လီဆိုသို၊ မာလဝီ၊ မလေးရှား၊ မော်လဒိုက်၊ မော်လတာ၊ မောရစ်ရှ၊ မိုဇမ်ဘစ်၊ နမီးဘီးယား၊ နော်ရူး၊ ပါကစ္စတန်၊ ဆမိုဝါ၊ ဆေရှဲ၊ ဆီရာလီယွန်၊ စင်ကာပူ၊ တောင်အာဖရိက၊ သီရိလင်္ကာ၊ တန်ဇန်းနီးယား၊ တွန်ဂါ၊ ထရီဒက်နှင့် တိုဘာဂို၊ ယူဂန္ဓာ၊ ဗန်နွာတူး၊ ဇမ်ဘီယာ၊ နိုင်ဂျီးရီးယား၊ အက်စ်ဝါတီနီနှင့် ရဝမ်ဒါတို့ဖြစ်ကြသည်။ ခနသဟာယအဖွဲ့သည် ဝန်ကြီးချုပ်များ၊ ဘဏ္ဍာရေးဝန်ကြီးများ အစည်းအဝေးနှင့် အတွင်းရေးမှူးအဖွဲ့မှတစ်ဆင့် ဆက်သွယ်ဆွေးနွေးကြသည်။

**ဌာနချုပ်–** ဗြိတိန်နိုင်ငံ၊ လန်ဒန်မြို့။

၆။ **ဥရောပ လွတ်လပ်စွာကုန်သွယ်ရေးအဖွဲ့ (အက်ဖ်တာ)**

**European Free Trade Association (EFTA)**

လွတ်လပ်စွာကုန်သွယ်ရေး တိုးချဲ့မြှင့်တင်ရန် ရည်စူးပြီး ၁၉၆၀ ပြည့်နှစ် မေလတွင် ဖွဲ့စည်းသည်။ ၁၉၆၀ ပြည့်နှစ်၊ မေ ၃ တွင် အဖွဲ့ဝင်နိုင်ငံများအကြား အကောက်ခွန်နှင့် ဥရောပသမဂ္ဂနှင့် လွတ်လပ်စွာကုန်သွယ်မှု သဘောတူညီချက်ရရှိသည်။၁၉၉၂ခုနှစ်တွင်အက်ဖ်တာနှင့်အီးယူတို့သည်အဖွဲ့အစည်းနှစ်ခုအတွင်းရှိနိုင်ငံအချင်းချင်းတစ်ခုတည်းသောဈေးကွက်ထူထောင်ရန်သဘောတူညီကြသည်။ (ကုန်ပစ္စည်းများ၊ ဝန်ဆောင်မှုများ၊ အရင်းအနှီးများနှင့် အလုပ်သမားများ လွတ်လပ်စွာ စီးဆင်းနိုင်သည်။) ၂၀၀၁ ခုနှစ်အထိ အဖွဲ့ဝင်များမှာ အိုက်စလန်၊ လက်ချင်စတိန်း၊ နော်ဝေနှင့် ဆွစ်ဇာလန်တို့ဖြစ်ကြသည်။ ယခင် အက်ဖ်တာအဖွဲ့ဝင်အတော်များများသည် ယခုအခါ ကုလသမဂ္ဂအဖွဲ့ဝင်များ ဖြစ်ကုန်ကြသည်။

**ဌာနချုပ်–** ဆွစ်ဇာလန်နိုင်ငံ၊ ဂျီနီဗာမြို့။

၇။ **ဥရောပသမဂ္ဂ (အီးယူ) ဘုံဈေး**

**European Union (EU)**

၁၉၉၄အထိ ဥရောပအဖွဲ့[European Community (EC)]ဟု သိရှိခဲ့ကြသော ဤအဖွဲ့သည် ဘုံအဖွဲ့ဝင်များပါရှိသော အဖွဲ့အစည်းသုံးခုကို စုပေါင်းခေါ်ဝေါ်သော အမည်ဖြစ်သည်။ ယင်းအဖွဲ့အစည်း သုံးခုမှာ ဥရောပစီးပွားရေးအဖွဲ့ (ဘုံဈေး

အဖွဲ့) [European Community (Common Market)] ဥရောပကျောက်မီးသွေးနှင့်သံမဏိအဖွဲ့ [European Coal and Steel Community] ဥရောပအဏုမြူစွမ်းအင်အဖွဲ့ (ယူရေတွန်) [European Atomic Energy Community (Euratom)] တို့ ဖြစ်သည်။

၂၀၁၁ ခုနှစ်အထိ တင်းပြည့်အဖွဲ့ဝင်(၁၅)နိုင်ငံမှာ သြစတြီးယား၊ ဘယ်လ်ဂျီယံ၊ ဒိန်းမတ်၊ ဖင်လန်၊ ပြင်သစ်၊ ဂျာမနီ၊ ဂရိ၊ အိုင်ယာလန်၊ အီတလီ၊ လူဇင်ဘတ်၊ နယ်သာလန်၊ ပေါ်တူဂီ၊ စပိန်၊ ဆွီဒင်၊ ယူနိုက်တက်ကင်းဒမ်းတို့ဖြစ်ကြသည်။

၂၀၀၄ ခုနှစ်၊ မေလ ၁ရက်နေ့တွင် ဆိုက်ပရပ်စ်၊ ချက်သမ္မတနိုင်ငံ၊ အက်စတိုးနီးယား၊ ဟန်ဂေရီ၊ လတ်ဗီးယား၊ လစ်သူရေးနီးယား၊ မော်လ်တာ၊ ပိုလန်၊ ဆလိုဗက်ကီးယားနှင့် ဆလိုဗေးနီးယားတို့ အဖွဲ့ဝင်နိုင်ငံ ဖြစ်လာကြသည်။

အဖွဲ့ဝင်များသည် ၎င်းတို့၏စီးပွားရေးကို စုရုံးပေါင်းစည်းရန်၊ လူမှုရေးဖွံ့ဖြိုးတိုးတက်မှုများကို ပေါင်းစည်းလုပ်ဆောင်ရန်၊ အဖွဲ့ဝင်နိုင်ငံများကို နိုင်ငံရေးသမဂ္ဂကြီးအဖြစ် ထူထောင်ရန် ရည်မှန်းကြသည်။ ၁၉၉၂ ဒီဇင်ဘာ ၃၁ မှ အစပြု၍ ကုန်ပစ္စည်းများ၊ ဝန်ဆောင်မှုများ၊ အလုပ်သမားများနှင့် ကမ္ဘာလှည့်ခရီးသည်များ ဥရောပသမဂ္ဂအတွင်း စီးဆင်းသွားလာခြင်းကို ကန့်သတ်မှုများ လုံးဝမပြုလုပ်ရန် သဘောတူခဲ့ကြသည်။ လယ်ယာစိုက်ပျိုးရေး၊ ငါးဖမ်းလုပ်ငန်းနှင့် နျူကလီးယားသုတေသနလုပ်ငန်းတို့တွင်လည်း တူညီသောမူဝါဒများ ထားရှိကြသည်။

အဖွဲ့ဝင်နိုင်ငံခေါင်းဆောင်များသည် ၁၉၉၁ ဒီဇင်ဘာလတွင် နယ်သာလန်နိုင်ငံ မက်စ်ထရစ်မြို့၌တွေ့ဆုံကာ နိုင်ငံစီးပွားရေး ပူးပေါင်းဆောင်ရွက်မှုများအတွက် သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးကြသည်။

မက်စ်ထရစ်သဘောတူညီချက်များမှာ –

- ဥရောပအဖွဲ့အတွင်းရှိ အချို့သောနိုင်ငံများတွင် ၁၉၉၃ ခုနှစ်မှစ၍ ဘုံငွေကြေးစနစ်(ယူရိုငွေ)ထားရှိရန် ပါဝင်ရေး မပါဝင်ရေးအတွက် ဗြိတိန်နှင့် ဒိန်းမတ်နိုင်ငံတို့ကို ရွေးချယ်ခွင့်ပေးရန်။
- ဘုံနိုင်ငံခြားရေးဝါဒထားရှိရန်။
- ဘုံကာကွယ်ရေးမူဝါဒအတွက် အခြေခံအချက်များ ချမှတ်ရန်။
- လူမှုရေးမူဝါဒများတွင် အဓိကနိုးဆော်ပေးသွားရန်။
(ဤစီမံကိန်းတွင် ဗြိတိန်နိုင်ငံမပါ)

- အဖွဲ့အတွင်းရှိဆင်းရဲသောနိုင်ငံများကိုအကူအညီများတိုးပေးသွားရန်။
- အမတ် (၅၆၇) ဦး ပါဝင်သော ဥရောပပါလီမန်ကို လုပ်ပိုင်ခွင့်များ အနည်းငယ် တိုးမြှင့်ပေးသွားရန်။

ထိုစဉ်က အဖွဲ့ဝင် (၁၂)နိုင်ငံစလုံးက အတည်ပြုပြီးနောက် မက်စ်ထရစ် စာချုပ်သည် ၁၉၉၃ ခုနှစ်၊ နိုဝင်ဘာလ ၁ ရက်နေ့မှစ၍ အသက်ဝင်သည်။

၁၉၉၈ ဇွန်လတွင် ဥရောပဗဟိုဘဏ်ကို ထူထောင်သည်။ ၁၉၉၉ ဇွန် ၁ တွင် ဥရောပသမဂ္ဂ (၁၅)နိုင်ငံအနက် (၁၁)နိုင်ငံသည် ယူရိုငွေကြေးကို အချို့ကိစ္စများ အတွက် စတင်အသုံးပြုကြသည်။ ယင်း(၁၁)နိုင်ငံမှာ ဩစတြီးယား၊ ဘယ်လ်ဂျီယံ၊ ဖင်လန်၊ ပြင်သစ်၊ ဂျာမနီ၊ အိုက်စလန်၊ အီတလီ၊ လူဇင်ဘတ်၊ နယ်သာလန်၊ ပေါ်တူဂီနှင့် စပိန်ဖြစ်သည်။

၁၉၉၉ အောက်တိုဘာ(၁၅–၁၆)တွင် ဖင်လန်နိုင်ငံ ကမ်ပီယာမြို့၌ ဥရောပ သမဂ္ဂ အထူးအစည်းအဝေးကို ကျင်းပခဲ့သည်။ ထိုအစည်းအဝေးမှ အချက် (၁၀) ချက်ပါသော လုပ်ငန်းစဉ်ကို ချမှတ်ခဲ့သည်။ ထိုအချက်များတွင် သမဂ္ဂအဖွဲ့ဝင် နိုင်ငံတစ်ခု၏ တရားစီရင်ထုံးများကို အခြားသမဂ္ဂနိုင်ငံများက အသိအမှတ်ပြုရေး၊ ပြစ်မှုကျူးလွန်သူဟု သံသယရှိသူများကို တရားရုံးလုပ်ထုံးလုပ်နည်းများဖြင့် မကြန့်ကြာစေဘဲ သက်ဆိုင်ရာနိုင်ငံသို့ လွှဲပြောင်းပေးရေး၊ ခိုလှုံခွင့်တောင်းခံသူ ဒုက္ခသည်ဟူသော ဝေါဟာရအပေါ် အဓိပ္ပာယ်ဖွင့်ဆိုချက် တူညီရေးတို့ပါဝင်သည်။

ထိုအစည်းအဝေးမှပင် ဥရောပသမဂ္ဂသို့ဝင်ခွင့်တောင်းခံသောနိုင်ငံများ၏ အရေအတွက်ကို နှစ်ဆတိုး၍ လက်ခံရန်သဘောတူညီကြသည်။

**ဌာနချုပ်** – ဘယ်လ်ဂျီယံနိုင်ငံ၊ ဘရပ်ဆဲလ်မြို့။

## ၈။ ရှစ်နိုင်ငံအုပ်စု (ဂျီအိတ်) [Group of Eight (G–8)]

၁၉၈၅ ခုနှစ်၊ စက်တင်ဘာ ၂၂ တွင် တည်ထောင်သည်။ စက်မှုထွန်းကားပြီး ဒီမိုကရေစီထိပ်သီးခုနစ်နိုင်ငံ (ကနေဒါ၊ ပြင်သစ်၊ ဂျာမနီ၊ အီတလီ၊ ဂျပန်၊ ဗြိတိန်၊ အမေရိကန်ပြည်ထောင်စု)နှင့် (နောက်ပိုင်းတွင်) ရုရှားနိုင်ငံတို့သည် ကမ္ဘာ့စီးပွား ရေးနှင့် အခြားကိစ္စများကို ကာလအပိုင်းအခြားအလျောက် တွေ့ဆုံဆွေးနွေးကြ သည်။ ၁၉၉၈ ခုနှစ် မေလတွင်ကျင်းပသောအစည်းအဝေးက ဂျီအိတ်(G–8) သို့ အမည်ပြောင်းသည်။ အချို့ကိစ္စရပ်များတွင် အထူးသဖြင့် ကမ္ဘာ့စီးပွားရေးနှင့် ပတ်သက်သည်များတွင် မူလခုနစ်နိုင်ငံသည် ရုရှားမပါဝင်ဘဲ စည်းဝေးနိုင်သည်။

၉။ **နိုင်ငံတကာရာဇဝတ်မှုနှိမ်နင်းရေးရဲအဖွဲ့ (အင်တာပို)**

**International Criminal Police Organization (INTERPOL)**

နိုင်ငံအသီးသီးရှိ မတူခြားနားကြသော ဥပဒေဘောင်အတွင်းမှနေ၍ ရဲဘက်ဆိုင်ရာလုပ်ငန်းများကို အချင်းချင်း အတတ်နိုင်ဆုံး အပြန်အလှန် ကူညီဆောင်ရွက်သွားကြရန် အင်တာပိုအဖွဲ့ကို ၁၉၅၆ ခုနှစ်၊ ဇွန်လ ၁၃ ရက်နေ့တွင် တည်ထောင်ခဲ့သည်။ ၂၀၀၆ ခုနှစ်တွင် အဖွဲ့ဝင်နိုင်ငံပေါင်း (၁၈၆) နိုင်ငံရှိလာခဲ့သည်။

၁၀။ **အာရပ်အဖွဲ့ချုပ်**

**League of Arab States (Arab League)**

အဖွဲ့ချုပ်သည် စီးပွားရေး၊ လူမှုရေး၊ နိုင်ငံရေးနှင့် စစ်ရေးပူးပေါင်းဆောင်ရွက်မှုများကို တိုးမြှင့်ရန် ၁၉၄၅ ခုနှစ်၊ မတ်လ ၂၂ ရက်နေ့တွင် စတင်ထူထောင်ခဲ့သည်။ အာရပ်နိုင်ငံများအတွင်း ဖြစ်ပွားသော အငြင်းပွားမှုများကို စေ့စပ်ဖြေရှင်းပေးသည်။ နိုင်ငံတကာစေ့စပ်ညှိနှိုင်းမှုများတွင် အာရပ်နိုင်ငံများကိုယ်စား ဆောင်ရွက်သည်။ ၂၀၀၅ ခုနှစ် အဖွဲ့ဝင်များမှာ အယ်လ်ဂျီးရီးယား၊ ကိုမိုရော့စ်၊ ဂျီဘူတီ၊ အီဂျစ်၊ ဂျော်ဒန်၊ ကူဝိတ်၊ လက်ဘနွန်၊ လစ်ဗျား၊ မော်ရီတေးနီးယား၊ မော်ရိုကို၊ အိုမန်၊ ပါလက်စတိုင်း၊ (အဖွဲ့ချုပ်က ပါလက်စတိုင်းကို လွတ်လပ်သောနိုင်ငံအဖြစ် သတ်မှတ်သည်။) ကာတာ၊ ဆော်ဒီအာရေဗျ၊ ဆိုမာလီယာ၊ ဆူဒန်၊ ဆီးရီးယား၊ တူနီးရှား၊ အာရပ်စော်ဘွားများနိုင်ငံနှင့် ယီမင်တို့ဖြစ်ကြသည်။

**ဌာနချုပ်–** အီဂျစ်နိုင်ငံ၊ ကိုင်ရိုမြို့။

၁၁။ **မြောက်အတ္တလန္တိတ်စာချုပ်အဖွဲ့ (နေတိုး)**

North Atlantic Treaty Organization (NATO)

နေတိုးအဖွဲ့ချုပ်ကို ၁၉၄၉ ခုနှစ် ဧပြီ ၄ တွင် လက်မှတ်ရေးထိုးပြီး ၁၉၄၉ ဩဂုတ် ၂၄ တွင် စတင်အသက်ဝင်သည်။ အဖွဲ့ဝင်နိုင်ငံများမှာ ဘယ်လ်ဂျီယံ၊ ကနေဒါ၊ ဘူဂေးရီးယား၊ ချက်သမ္မတနိုင်ငံ၊ ဒိန်းမတ်၊ အက်စတိုးနီးယား၊ ပြင်သစ်၊ ဂျာမနီ၊ ဂရိ၊ ဟန်ဂေရီ၊ အိုက်စလန်၊ အီတလီ၊ လတ်ဗီးယား၊ လစ်သူရေးနီးယား၊ လူဇင်ဘတ်၊ နယ်သာလန်၊ နော်ဝေ၊ ပိုလန်၊ ပေါ်တူဂီ၊ ရိုမေးနီးယား၊ ဆလို ဘက်ကီးယား၊ ဆလိုဗေးနီးယား၊ စပိန်၊ တူရကီ၊ ဗြိတိန်နှင့် အမေရိကန်ပြည်ထောင်စုတို့ ဖြစ်ကြသည်။

ဖွဲ့ဝင်များသည် အငြင်းပွားမှုများကို ငြိမ်းချမ်းသောနည်းလမ်းဖြင့် ဖြေရှင်းရန်၊ လက်နက်ဖြင့်တိုက်ခိုက်လာသည်ကို ခုခံတွန်းလှန်ရန်၊ တစ်နိုင်ငံချင်းနှင့် အဖွဲ့ဝင်

အားလုံး၏ စုပေါင်းစွမ်းဆောင်မှုကို တိုးမြှင့်ရန်၊ အဖွဲ့ဝင်နိုင်ငံ တစ်နိုင်ငံအား တိုက်ခိုက်လာသည်ကို အဖွဲ့ဝင်နိုင်ငံများအားလုံးအား တိုက်ခိုက်သည်ဟု မှတ်ယူရန်၊ တစ်ဖက်မှ တိုက်ခိုက်လာသည်ကို ခုခံတွန်းလှန်ရန်အတွက် ကုလသမဂ္ဂပဋိညာဉ် စာတမ်း၊ စာပိုဒ်(၅၁)အရ လိုအပ်သလို အရေးယူဆောင်ရွက်ရန်တို့ကို သဘောတူသည်။

နေတိုးဖွဲ့စည်းပုံတွင် ကောင်စီတစ်ခု၊ ကာကွယ်ရေးစီမံကိန်းကော်မတီ၊ စစ်ရေးကော်မတီ၊ (ဌာနချုပ်၊ ဥရောပဌာနချုပ်၊ အတ္တလန္တိတ်ဌာနချုပ်)၊ နျူကလီးယား စီမံကိန်းအဖွဲ့၊ ကနေဒါ၊ အမေရိကန်ဒေသ စီမံကိန်းအဖွဲ့တို့ ပါဝင်သည်။ ပြင်သစ်နိုင်ငံသည် စစ်ရေးဌာနချုပ်ဖွဲ့စည်းမှုမှ ၁၉၉၆ တွင် နုတ်ထွက်သွားသည်။

၁၉၉၀ ပြည့်လွန် စောစောပိုင်းနှစ်များတွင် ဆိုဗီယက်ပြည်ထောင်စုပြိုကွဲသွားပြီး စစ်အေးတိုက်ပွဲ ပြီးဆုံးသွားသောအခါ နေတိုးအဖွဲ့သည် ပြုပြင်ပြောင်းလဲမှုများ ဆောင်ရွက်သည့်အနေဖြင့် နိုင်ငံရေးလှုပ်ရှားမှုများပေါ်တွင် ပိုမိုအာရုံစိုက်ပြီး ဒေသဆိုင်ရာ ပြဿနာများတွင် ဆောင်ရွက်နိုင်ရန်အတွက် လျင်မြန်စွာ တပ်ဖြန့်နိုင်သော လျှပ်တစ်ပြက်တပ်ဖွဲ့များ ဖွဲ့စည်းသည်။

၁၉၉၀ ပြည့်နှစ်များအလယ်ပိုင်းတွင် ရုရှားနှင့် ယခင်ဆိုဗီယက်နိုင်ငံဟောင်းများပါဝင်သော (၂၇)နိုင်ငံသည် နေတိုးနှင့် ပူးပေါင်းပြီး ငြိမ်းချမ်းရေး ပူးပေါင်းအဖွဲ့ဆိုသည်ကို ဖွဲ့စည်းသည်။ (၁၉၉၃ ခုနှစ် ဒီဇင်ဘာတွင် စာချုပ်မူကြမ်းရေးဆွဲသည်) ယင်းအဖွဲ့သည် စစ်ရေးပူးပေါင်းလေ့ကျင့်ခြင်း၊ ငြိမ်းချမ်းရေးထိန်းသိမ်းမှုလုပ်ငန်းနှင့် သတင်းအချက်အလက်များ လဲလှယ်မှု ပြုလုပ်ကြသည်။

နေတိုးအဖွဲ့ကို တိုးချဲ့သည့်အနေဖြင့် ယခင်အရှေ့အုပ်စုဝင်နိုင်ငံများကို တင်းပြည့်အဖွဲ့ဝင်များအဖြစ် လက်ခံသည်။ ၁၉၉၃ ခုနှစ်၊ မတ်လ ၁၂ တွင် ယခင်ဝါဆောစာချုပ်အဖွဲ့ဝင်သုံးနိုင်ငံဖြစ်သော ဟန်ဂေရီ၊ ပိုလန်နှင့် ချက်သမ္မတနိုင်ငံတို့သည် အဖွဲ့ဝင်များဖြစ်လာကြသည်။

**ဌာနချုပ်–** ဘယ်လ်ဂျီယံနိုင်ငံ၊ ဘရပ်ဆဲလ်မြို့။

### ၁၂။ အာဖရိကသမဂ္ဂ [African Union (AU)]

အာဖရိကညီညွတ်ရေးအဖွဲ့ (Organization of African Unity)ခေါ် အိုအေယူကို ၁၉၆၃ ခုနှစ်၊ မေ ၂၅ တွင် အာဖရိက (၃၂)နိုင်ငံဖြင့် စတင်ဖွဲ့စည်း၍ ၂၀၀၂ ခုနှစ်၊ ဇူလိုင်လတွင် ဖျက်သိမ်းကာ အာဖရိကသမဂ္ဂ (အေယူ) အမည်ဖြင့် ပြန်လည်ဖွဲ့စည်းခဲ့သည်။

၁၃။ **အမေရိကန်နိုင်ငံများအဖွဲ့ (အိုအေအက်စ်)**

**Organization of American States (OAS)**

အိုအေအက်စ်ကို ၁၉၄၈ ခုနှစ်၊ ဧပြီလ ၃၀ တွင် ကိုလံဘီယာနိုင်ငံ ဘိုဂိုတာမြို့တွင် ဖွဲ့စည်းတည်ထောင်သည်။ အဖွဲ့တွင် အမြဲတမ်းကောင်စီတစ်ခု၊ အမေရိကန်နိုင်ငံ များဆိုင်ရာ စီးပွားရေးနှင့် လူမှုရေးကောင်စီ၊ ပညာရေး၊ ယဉ်ကျေးမှုနှင့် သိပ္ပံရေးရာကောင်စီ၊ တရားရေးကော်မတီတစ်ခုနှင့် လူ့အခွင့်အရေးဆိုင်ရာ ကော်မရှင်တစ်ခုတို့ ပါရှိသည်။ အမြဲတမ်းကောင်စီသည် အရေးပေါ်လုံခြုံရေးကိစ္စများကို ဆောင်ရွက်နိုင်ရန် နိုင်ငံခြားရေးဝန်ကြီးများအစည်းအဝေးကို ခေါ်ယူနိုင်သည်။ အထွေထွေညီလာခံကို နှစ်စဉ်ကျင်းပသည်။

၂၀၁၅ ခုနှစ်အထိ အဖွဲ့ဝင်များမှာ အင်တီဂွာနှင့် ဘာဘူဒါ၊ အာဂျင်တီးနား၊ ဘဟားမား၊ ဘာဘေဒို၊ ဘလိဇ်၊ ဘိုလီးဗီးယား၊ ဘရာဇီးလ်၊ ဒိုမီနီကာ၊ ဒိုမီနီကန်သမ္မတနိုင်ငံ၊ အီကွေဒေါ၊ အယ်လ်ဆာဗေဒေါ၊ ဂရင်နေဒါ၊ ဂွာတီမာလာ၊ ဂိုင်ယာနာ၊ ဟေတီ၊ ဟွန်ဒူးရပ်၊ ဂျမေကာ၊ မက္ကဆီကို၊ နီကာရာဂွာ၊ ပနားမား၊ ပါရာဂွေး၊ ပီရူး၊ စိန့်ကစ်နှင့် နီဗစ်၊ စိန့်လူရှာ၊ စိန့်ဗင်းဆင့်နှင့် ဂရင်းနာဒင်း၊ ဆူရီနမ်၊ ထရီနီဒက်နှင့် တိုဘားဂို၊ ကနေဒါ၊ ချီလီ၊ ကိုလံဘီယာ၊ ကိုစတာရီကာ၊ ကျူးဘား၊ အမေရိကန်ပြည်ထောင်စု၊ ဥရုဂွေးနှင့် ဗင်နီဇွဲလားနိုင်ငံတို့ဖြစ်ကြသည်။ ၁၉၆၂ တွင် ကျူးဘားကို အဖွဲ့လှုပ်ရှားမှုမှ ဖယ်ရှားသည်။

**ဌာနချုပ်–** အမေရိကန်ပြည်ထောင်စု၊ ဝါရှင်တန်ဒီစီ။

၁၄။ **စီးပွားရေး ပူးပေါင်းဆောင်ရွက်မှုနှင့် ဖွံ့ဖြိုးရေးအဖွဲ့ (အိုအီးစီဒီ)**

**Organization for Economic Co-operation and Development (OECD)**

အဖွဲ့ဝင်နိုင်ငံများ၏ စီးပွားရေးနှင့် လူမှုရေးတိုးတက်ဖွံ့ဖြိုးမှုများကို ဆောင်ရွက်ရန်နှင့် ဖွံ့ဖြိုးပြီးနိုင်ငံများ၏ကိုယ်စား လက်တွဲညီညွတ်မှုနှင့် လှုံ့ဆော်အားပေးမှုများပြုလုပ်ရန် ၁၉၆၁ ခုနှစ်တွင် တည်ထောင်သည်။ အဖွဲ့သည် စီးပွားရေးနှင့် ပတ်ဝန်းကျင် ရေးရာအချက်အလက်များကို စုဆောင်းဖြန့်ချိပေးသည်။

၂၀၁၅ ခုနှစ်ထိ အဖွဲ့ဝင်များမှာ သြစတြေးလျ၊ သြစတြီးယား၊ ဘယ်ဂျီယံ၊ ကနေဒါ၊ ချက်သမ္မတနိုင်ငံ၊ ဒိန်းမတ်၊ ဖင်လန်၊ ပြင်သစ်၊ ဂျာမနီ၊ ဂရိ၊ ဟန်ဂေရီ၊ အိုင်စလန်၊ အိုင်ယာလန်၊ အီတလီ၊ ဂျပန်၊ လူဇင်ဘတ်၊ မက္ကဆီကို၊ နယ်သာလန်၊ နယူးဇီလန်၊ နော်ဝေ၊ ပိုလန်၊ ပေါ်တူဂီ၊ ဆလိုဗက်ကီးယား၊ တောင်ကိုရီးယား၊ စပိန်၊ ဆွီဒင်၊ ဆွစ်ဇာလန်၊ တူရကီ၊ ဗြိတိန်နှင့် အမေရိကန်ပြည်ထောင်စုတို့ ဖြစ်ကြသည်။

**ဌာနချုပ်–** ပြင်သစ်နိုင်ငံ၊ ပါရီမြို့။

၁၅။ **ရေနံရောင်းနိုင်ငံများအဖွဲ့ (အိုပက်)**

**Organization of Petroleum Exporting Countries (OPEC)**

၁၉၆၀ ပြည့်နှစ်၊ စက်တင်ဘာ ၁၄ တွင် ဖွဲ့စည်းသည်။ ရေနံထုတ်လုပ်မှုကို ကန့်သတ်ပြီး ရေနံဈေးနှုန်းကိုသတ်မှတ်သည်။ အဖွဲ့သည် အဖွဲ့ဝင်နိုင်ငံများနှင့် ရေနံသုံးစွဲသော စက်မှုနိုင်ငံများ ဆက်ဆံရေးတွင် အဖွဲ့ဝင်များ၏ ကုန်သွယ်ရေးနှင့် ဖွံ့ဖြိုးတိုးတက်မှုအကျိုးကို ရှေးရှုသည်။ ၂၀၀၅ ခုနှစ်ထိ အဖွဲ့ဝင်များမှာ အယ်လ်ဂျီးရီးယား၊ ဂါဘွန်၊ အင်ဒိုနီးရှား၊ အီရန်၊ အီရတ်၊ ကူဝိတ်၊ လစ်ဗျား၊ နိုင်ဂျီးရီးယား၊ ကာတာ၊ ဆော်ဒီအာရေးဗီးယား၊ အာရပ်စော်ဘွားများနိုင်ငံနှင့် ဗင်နီဇွဲလားနိုင်ငံတို့ဖြစ်ကြသည်။

**ဌာနချုပ်–** ဩစတြီးယားနိုင်ငံ၊ ဗီယင်နာမြို့။

၁၆။ **ဥရောပလုံခြုံရေးနှင့် ပူးပေါင်းဆောင်ရွက်ရေးအဖွဲ့ (အိုအက်စ်စီအီး)**

**Organization of Security and Cooperation in Europe (OSCE)**

၁၉၇၂ ခုနှစ် ဥရောပလုံခြုံရေးနှင့် စီးပွားရေးပူးပေါင်းဆောင်ရွက်မှု ညီလာခံတွင် ဖွဲ့စည်းသည်။ လက်ရှိအမည်ကို ၁၉၉၅ ခုနှစ်၊ ဇန်နဝါရီလ ၁ ရက်နေ့တွင် အတည်ပြုသည်။ နေတိုးစာချုပ်နှင့် ဝါဆောစာချုပ်အဖွဲ့ဝင်နိုင်ငံများဖြင့် ဖွဲ့စည်းထားသည်။ အဖွဲ့၏ရည်ရွယ်ချက်မှာ အရှေ့အနောက်ဆက်ဆံရေး တိုးမြှင့်ရန်အတွက် မကျူးကျော်ရေး၊ လူ့အခွင့်အရေး၊ စီးပွားရေး၊ သိပ္ပံနှင့်နည်းပညာ၊ ယဉ်ကျေးမှု ဖလှယ်ရေးနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်ရေးတို့တွင် ပူးပေါင်းလုပ်ဆောင်သွားကြရန်ဖြစ်သည်။ ၂၀၀၅ ခုနှစ်အထိ အဖွဲ့ဝင်နိုင်ငံပေါင်း (၅၅) နိုင်ငံ ရှိသည်။

**ဌာနချုပ်–** ဩစတြီးယားနိုင်ငံ၊ ဗီယင်နာမြို့။

၁၇။ **ဘင်းစတက်အဖွဲ့ (BIMSTEC)**

ဘင်္ဂလားဒေ့ရှ်၊ အိန္ဒိယ၊ မြန်မာ၊ သီရိလင်္ကာနှင့် ထိုင်းနိုင်ငံစီးပွားရေး ပူးပေါင်းဆောင်ရွက်မှုအဖွဲ့ကို ၁၉၉၇ ခုနှစ် ဇွန်လ (၆)ရက်နေ့တွင် စတင်ဖွဲ့စည်းသည်။ ၁၉၉၇ ခုနှစ်၊ ဩဂုတ်လ ၂၅ ရက်မှစ၍ မြန်မာနိုင်ငံသည် အဖွဲ့ဝင်အဖြစ် ပါဝင်ခဲ့သည်။ အာဆီယံကဲ့သို့ အရေးပါသောအဖွဲ့အစည်း တစ်ခုဖြစ်သည်။ ယခုအခါ ဘင်္ဂလားဒေ့ရှ်၊ ဘူတန်၊ အိန္ဒိယ၊ မြန်မာ၊ နီပေါ၊ သီရိလင်္ကာနှင့် ထိုင်းတို့ပါဝင်သည်။ (၃၁–၇–၂၀၀၄)ရက်နေ့တွင် ထိုင်းနိုင်ငံ ဘန်ကောက်မြို့၌ကျင်းပသည့် ထိပ်သီးအစည်းအဝေးမှ အဖွဲ့၏ အခေါ်အဝေါ် ဘင်းစတက်ကို ကဏ္ဍစုံနည်းပညာနှင့် စီးပွားရေး ပူးပေါင်းဆောင်ရွက်မှုဆိုင်ရာ ဘင်္ဂလားပင်လယ်အော်ဦးဆောင်ဦးရွက်ပြုမှုအစီအစဉ်

BIMSTEC= Bay of Bengal Initiative for Multi Sectoral Technical and Economic Cooperation ဟု ပြောင်းလဲခေါ်ဝေါ်ရန် သဘောတူညီခဲ့ကြသည်။

၁၈။ **အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးရေးအသင်း**
**International Development Association**

"အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးရေးအသင်း" ကို ၁၉၆၀ ပြည့်နှစ် စက်တင်ဘာလ ၂၄ ရက်တွင် ဖွဲ့စည်းတည်ထောင်ခဲ့ပါသည်။ ကမ္ဘာ့ဘဏ်အဖွဲ့ဝင်နိုင်ငံတိုင်းသည် အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးရေးအသင်းတွင် အလိုအလျောက်အသင်းဝင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ယင်းအသင်းသည် ကမ္ဘာ့ဘဏ်၏ တစ်စိတ်တစ်ဒေသ လုပ်ငန်းအဖွဲ့ဖြစ်သောကြောင့်ဖြစ်သည်။ အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးရေးအသင်း၏ ရည်ရွယ်ချက်မှာ မဖွံ့ဖြိုးသေးသောအဖွဲ့ဝင်နိုင်ငံများ၏ နယ်မြေဒေသ စီးပွားရေး ဖွံ့ဖြိုးမှု ကုန်ထုတ်စွမ်းအား တိုးတက်မြှင့်တင်ရေး၊ ငွေအင်အားချို့တဲ့၍ ကမ္ဘာ့ဘဏ်မှ ငွေချေးရန် အခက်အခဲရှိနေသော အဖွဲ့ဝင်နိုင်ငံများအတွက် ကမ္ဘာ့ဘဏ်က ကြီးကြပ်၍ ယင်းအသင်းက အတိုးမရှိ နှစ်ရှည်စနစ်ဖြင့် ငွေများထုတ်ချေးသည့် ငွေကြေးလုပ်ငန်းဆောင်ရွက်ပေးရေးတို့ ဖြစ်သည်။ အပြည်ပြည်ဆိုင်ရာ ဖွံ့ဖြိုးရေး အသင်းတွင် ၎င်း၏လုပ်ငန်းများအတွက် တာဝန်ထမ်းဆောင်ရန် သီးခြားဝန်ထမ်း များ မထားရှိပါ။ ကမ္ဘာ့ဘဏ်အုပ်ချုပ်ရေးအဖွဲ့က တာဝန်ယူကြီးကြပ်သည်။ ကမ္ဘာ့ဘဏ်ဝန်ထမ်းတို့သည် ကမ္ဘာ့ဘဏ်နှင့် အပြည်ပြည်ဆိုင်ရာ ဖွံ့ဖြိုးရေးအသင်း၏ လုပ်ငန်းများကို တစ်ပြိုင်နက်တည်း တာဝန်ထမ်းဆောင်ကြပါသည်။ အပြည်ပြည် ဆိုင်ရာဖွံ့ဖြိုးရေးအသင်းတွင် အဖွဲ့ဝင်နိုင်ငံပေါင်း ၁၅၉ နိုင်ငံရှိပါသည်။ ကမ္ဘာ့ဘဏ်၏ ဥက္ကဋ္ဌမှာ ယင်းအဖွဲ့၏ဥက္ကဋ္ဌလည်း ဖြစ်ပါသည်။ မြန်မာနိုင်ငံသည် အဆိုပါအသင်း သို့ ၁၉၆၂ ခုနှစ်၊ နိုဝင်ဘာလ ၅ ရက်တွင် အဖွဲ့ဝင်နိုင်ငံဖြစ်လာခဲ့သည်။
**ဌာနချုပ်–** အမေရိကန်ပြည်ထောင်စု၊ ဝါရှင်တန်မြို့။

၁၉။ **အာရှဖွံ့ဖြိုးရေးဘဏ် [Asian Development Bank (ADB)]**

၁၉၆၅ ခုနှစ်၊ ဒီဇင်ဘာ ၄ ရက်တွင် ဖိလစ်ပိုင်နိုင်ငံ မနီလာမြို့၌ ကျင်းပခဲ့ သော အရှေ့ဖျားဒေသဆိုင်ရာ စီးပွားရေးကော်မရှင်အစည်းအဝေးမှ အာရှဖွံ့ဖြိုး ရေးဘဏ်ဖွင့်လှစ်ရန် ဆုံးဖြတ်ခဲ့ကြပြီး ဘဏ်ဖွဲ့စည်းရေးစာချုပ်ကို နိုင်ငံပေါင်း ၂၀ တို့မှ လက်မှတ်ရေးထိုးခဲ့ကြပါသည်။ ၁၉၆၆ ခုနှစ်၊ ဩဂုတ်လ ၂၂ ရက်တွင် ဘဏ် လုပ်ငန်းကို စတင်အကောင်အထည်ဖော် ဆောင်ရွက်ခဲ့ကြပါသည်။ အာရှဖွံ့ဖြိုးရေး ဘဏ်၏ အဓိက ရည်ရွယ်ချက်များမှာ အာရှနှင့် ပစိဖိတ်ဒေသရှိ နိုင်ငံများ၏ စီးပွားရေး

ဖွံ့ဖြိုး တိုးတက်ရန်နှင့် ပူးပေါင်းဆောင်ရွက်မှုတို့အတွက် ရင်းနှီးမြှုပ်နှံခြင်း၊ ငွေကြေး အကူအညီပေးခြင်း၊ ငွေချေးငှားခြင်း၊ ကျွမ်းကျင်မှုနည်းပညာအကူအညီပေးခြင်း တို့ဖြစ်ပါသည်။ အဖွဲ့ဝင်နိုင်ငံပေါင်း ၄၀ ရှိပြီး အဓိကဦးစားပေးလုပ်ငန်းမှာ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အစီအစဉ်များကို ထိရောက်အောင်မြင်စေရန် ဆောင်ရွက်နိုင်ရေး ပင် ဖြစ်ပါသည်။

**ဌာနချုပ်–** ဖိလစ်ပိုင်နိုင်ငံ၊ မနီလာမြို့။

## ၂၀။ **အကောက်ခွန်နှင့်ကုန်သွယ်ရေးဆိုင်ရာအထွေထွေသဘောတူညီချက်အဖွဲ့**
General Agreement of Traffice and Trade (GATT)

"အကောက်ခွန်နှင့်ကုန်သွယ်ရေးဆိုင်ရာ သဘောတူညီချက်အဖွဲ့သည် ၁၉၄၈ ခုနှစ်၊ ဇန်နဝါရီလ ၁ ရက်မှစ၍ "ဟာဗားနားပဋိညာဉ်စာတမ်း"ကို အခြေခံ၍ အတည်ဖြစ်လာခဲ့ပါသည်။ "ဂတ်"အနေဖြင့် အပြည်ပြည်ဆိုင်ရာကုန်သွယ်မှုအတွက် ကျင့်ထုံးဥပဒေတစ်ရပ်ကို ချမှတ်ပေးခဲ့သည်။ အခြေခံမူများမှာ ကုန်သွယ်မှုကို အဆင့် အတန်းမခွဲခြားသည့် အခြေခံအားဖြင့် ကျင့်သုံးလုပ်ဆောင်ရန်၊ ပြည်တွင်း စက်မှု လုပ်ငန်းစုကို အရေးအတွက်အရ ချုပ်ချယ်ကန့်သတ်မှုများ(သို့မဟုတ်)အခြား အရေးယူမှုများဖြင့်မဟုတ်ဘဲ အကောက်ခွန်နှုန်းဖြင့်သာ ကာကွယ်စောင့်ရှောက် ရန်၊ အကောက်ခွန်နှုန်းများကို ဘက်စုံဆွေးနွေးစေ့စပ်မှုဖြင့် လျှော့ပေါ့ရမည့်အပြင် နောင်အနာဂတ်တွင်မှ အကောက်ခွန်နှုန်းများကို တိုးမြှင့်လာခြင်းမပြုရန် စည်းကမ်း ချမှတ်ထားရန်၊ အဖွဲ့ဝင်နိုင်ငံများအနေဖြင့် ကုန်သွယ်ရေးပြဿနာများကို ဖြေရှင်း နိုင်ရန် အတွက် အတူတကွ ပူးပေါင်းတိုင်ပင်ကြရန်ဖြစ်သည်။

**ဌာနချုပ်–** ဆွစ်ဇာလန်နိုင်ငံ ဂျီနီဗာမြို့။

## ၂၁။ **ဧရာဝတီ၊ ကျောက်ဖယား၊ မဲခေါင်စီးပွားရေးပူးပေါင်းဆောင်ရွက်မှု**
**[Ayeyarwaddy–Chaophraya–Mekong Economic Cooperation Strategy (ACMECS)]**

၂၀၀၀ ပြည့်နှစ် ဧပြီလတွင် အာဆီယံထိပ်သီးခေါင်းဆောင်များ၏ အစည်း အဝေး၌ ထိုင်းဝန်ကြီးချုပ်သက်ဆင်ရှင်နာဝပ်က ကမ္ဘောဒီးယား၊ လာအို၊ ထိုင်းနှင့် မြန်မာနိုင်ငံတို့အကြားတွင် စီးပွားရေးပူးပေါင်းဆောင်ရွက်မှု မဟာဗျူဟာအဖွဲ့ ဖွဲ့စည်းရန် အကြံပြုခဲ့ပါသည်။ ရည်ရွယ်ချက်မှာ ၎င်းနိုင်ငံများအကြား စီးပွားရေး တိုးတက်မှုကွာဟမှုကို လျော့နည်းစေရန်နှင့် ဒေသအတွင်း ကြွယ်ဝချမ်းသာမှုကို ပိုမိုတိုးတက်ဖြစ်ထွန်းလာစေရေးတို့ဖြစ်သည်။ ၎င်းအကျိုးဆက်သည် အဖွဲ့ဝင်နိုင်ငံများ

သာမက အာဆီယံကိုပါ အကျိုးဖြစ်ထွန်းစေရေးနှင့်ညီညွတ်ခိုင်မြဲစေရန်ဖြစ်သည်။ ၂၀၀၃ ခုနှစ်၊ နိုဝင်ဘာလတွင် မြန်မာနိုင်ငံ ပုဂံမြို့၌ ပထမအကြိမ် ထိပ်သီးအစည်းအဝေးကို ကျင်းပခဲ့ပါသည်။ ယင်းအစည်းအဝေးတွင် "ပုဂံကြေညာချက်"ကို ထုတ်ပြန်နိုင်ခဲ့ပြီး အဖွဲ့၏အမည်ကိုလည်း ဧရာဝတီ၊ ချောက်ဖယား၊ မဲခေါင်စီးပွားရေး ပူးပေါင်းဆောင်ရွက်ရေးမဟာဗျူဟာအသင်းဟု သတ်မှတ်ခဲ့ကြပါသည်။

၂၀၀၄ ခုနှစ်၊ မေလ ၁၀ ရက်တွင် ဗီယက်နမ်နိုင်ငံသည်"အက်စ်မက်အဖွဲ့" သို့ ဝင်ရောက်ခဲ့ပါသည်။ အဖွဲ့၏ ဒုတိယအကြိမ်မြောက်ထိပ်သီးအစည်းအဝေးကို ၂၀၀၅ ခုနှစ်တွင် ဘန်ကောက်မြို့၌ကျင်းပခဲ့ပြီး အဖွဲ့၏ရှေ့ဆက်လုပ်ဆောင်ရမည့် လုပ်ငန်းများအနေဖြင့် လယ်ယာကဏ္ဍဆိုင်ရာ ပူးပေါင်းဆောင်ရွက်မှုအဖြစ် စိုက်ပျိုးထုတ်လုပ်မှု စွမ်းအားမြင့်မားရေး၊ လယ်ယာထွက်ကုန်ပစ္စည်းဈေးကွက်များ ပိုမိုကျယ်ပြန့်လာစေရေး၊ရင်းနှီးမြှုပ်နှံမှုဖက်စပ်လုပ်ငန်းများနှင့်သုတေသနလုပ်ငန်းများ ဖွံ့ဖြိုးစေရေးတို့ဖြစ်သည်။ ဆန်စပါးစိုက်ပျိုးရေးကို အဓိကထားလုပ်ကိုင်သည့် နိုင်ငံများပါဝင်သည့် အဖွဲ့ကြီးဖြစ်သည့်အလျောက် အဖွဲ့ဝင်နိုင်ငံများအားလုံး၏ ဆန် စပါးထုတ်လုပ်မှုသည် တစ်နှစ်လျှင် တန် ၅၅ သန်းခန့်ရှိပြီး ကမ္ဘာ့စုစုပေါင်း ထုတ်လုပ်မှု၏ ၁၃ ရာခိုင်နှုန်းရှိပေသည်။ ထို့အပြင် ကမ္ဘာ့ကုန်သွယ်မှုအတွင်း တစ်နှစ်လျှင် ပျမ်းမျှတန်ချိန် ၁၃ သန်းခန့် ပါဝင်လျက်ရှိသည့်အတွက် ကမ္ဘာ့ကုန်သွယ်မှု၏ ၄၅ ရာခိုင်နှုန်းအချိုးအစား ပါဝင်လျက်ရှိပေသည်။

ဤကဲ့သို့ စီးပွားရေးပူးပေါင်းဆောင်ရွက်မှုများဖြင့် အက်စ်မက်သည် အဖွဲ့ဝင် ၅ နိုင်ငံတို့၏ နယ်မြေဒေသများတွင် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဇုန်များအဖြစ် ပြောင်းလဲရေး၊ ဖွံ့ဖြိုးတိုးတက်ရေးစသည့် ဒေသဆိုင်ရာအကျိုးစီးပွားမှ အားလုံးအကျိုးဖြစ်ထွန်းစေရေး၊ အာဆီယံစည်းလုံးညီညွတ်မှုကို ပိုမိုခိုင်မာလာစေရေး၊ဒေသအတွင်းတည်ငြိမ်အေးချမ်းမှုပိုမိုဖြစ်ထွန်းစေရေးနှင့်အိမ်နီးချင်းကောင်း ပီသရေး စသည်တို့ကို ရည်ရွယ်ဖွဲ့စည်းထားခြင်းဖြစ်ပါသည်။

## ၂၂။ ဘက်မလိုက်လှုပ်ရှားမှုအဖွဲ့ [Non-Aligned Movement (NAM)]

ဘက်မလိုက်လှုပ်ရှားမှုအဖွဲ့ကြီးကို အာရှ၊ အာဖရိကနိုင်ငံများက စတင်တည်ထောင်ခဲ့ခြင်းဖြစ်သည်။ ဒုတိယကမ္ဘာစစ်ကြီးပြီးဆုံးပြီးနောက် ၁၉၄၅ ခုနှစ်၊ ဧပြီလတွင် သီရိလင်္ကာနိုင်ငံ ကိုလံဘိုမြို့၌ အိန္ဒိယ၊ အင်ဒိုနီးရှား၊ မြန်မာနှင့် ပါကစ္စတန်နိုင်ငံတို့မှ ခေါင်းဆောင်များတွေ့ဆုံကာ အာရှ-အာဖရိက ကွန်ဖရင့်တစ်ရပ်ကျင်းပရန် ဆွေးနွေးခဲ့ကြပါသည်။ အဆိုပါ ၅ နိုင်ငံအနေဖြင့် အင်ဒိုနီးရှားနိုင်ငံ ဗန်ဒေါင်း

မြို့တွင် ဗန်ဒေါင်းညီလာခံ(အာရှ–အာဖရိကနိုင်ငံများကွန်ဖရင့်)ကို ၁၈–၄–၁၉၅၅ ရက်တွင် ကျင်းပပြုလုပ်ခဲ့ပြီး နိုင်ငံပေါင်း ၂၉ နိုင်ငံမှ ခေါင်းဆောင်ကြီးများ တက်ရောက်ကာ ကမ္ဘာ့နိုင်ငံများ ချစ်ကြည်ရင်းနှီးစွာ ပူးပေါင်းဆက်ဆံရေးတို့အတွက် လိုက်နာကျင့်သုံးရန် ဗန်ဒေါင်းမူကြီး (၁၀) ချက်ကို ချမှတ်ခဲ့ပြီး စတင်ဖွဲ့စည်းခဲ့ပါသည်။ "ဘက်မလိုက်လှုပ်ရှားမှုအဖွဲ့"တွင် မူလစတင်ဖွဲ့စည်းစဉ်က ၂၅ နိုင်ငံသာရှိခဲ့ရာ ယခုအခါ အဖွဲ့ဝင်နိုင်ငံပေါင်း ၁၂၀ နိုင်ငံ ရှိလာပြီး လေ့လာသူနိုင်ငံ ၁၇ နိုင်ငံရှိသည်။ ဘက်မလိုက်မူဝါဒ ဖြစ်သည့် ငြိမ်းချမ်းစွာအတူယှဉ်တွဲနေထိုင်ရေး၊ (Peaceful Coexistance) မူကြီး (၅)ရပ်ကို အခြေခံ၍ နိုင်ငံတကာအရေးကိစ္စများတွင် အင်အားသုံးဖြေရှင်းခြင်းကို ရှောင်ကြဉ်ကာ ပြည်တွင်းစွက်ဖက်မှုမပါဘဲ ငြိမ်းချမ်းစွာ ဖြေရှင်းရန်ဖြစ်သည်။ (၁၈) ကြိမ်မြောက် ဘက်မလိုက်ထိပ်သီး အစည်းအဝေးကို အဇာဘိုင်ဂျန်နိုင်ငံတွင် ၂၅–၁၀–၂၀၁၉ မှ ၂၆–၁၀–၂၀၁၉ ရက် အထိ အောင်မြင်စွာ ကျင်းပနိုင်ခဲ့ပါသည်။

၂၃။ **နိုင်ငံတကာအဏုမြူစွမ်းအင်အေဂျင်စီ**
**International Atomic Energy Agency (IAEA)**

နိုင်ငံတကာအဏုမြူစွမ်းအင်အေဂျင်စီကို ၁၉၅၇ ခုနှစ် ဇူလိုင်လ ၂၉ ရက်တွင် တစ်ကမ္ဘာလုံးငြိမ်းချမ်းရေးနှင့် သာယာအေးချမ်းရေးအတွက် အဏုမြူစွမ်းအင်ကို အသုံးချမှုတိုးမြှင့်နိုင်ရန်နှင့် အခြားစစ်ရေးဆိုင်ရာရည်ရွယ်ချက်များအတွက် မလိုလားအပ်သော အဏုမြူစွမ်းအင်အသုံးပြုမှုကို တားဆီးကာကွယ်သွားနိုင်ရန် ဖွဲ့စည်းခဲ့ခြင်း ဖြစ်ပါသည်။ အဏုမြူစွမ်းအင်ကို အကျိုးရှိစွာအသုံးပြုနိုင်ရေးအတွက် သိပ္ပံနှင့် နည်းပညာပူးပေါင်းဆောင်ရွက်ရေး အလုပ်ရုံဆွေးနွေးပွဲများကို ဦးဆောင်ကျင်းပလျက်ရှိပါသည်။ ယင်းအေဂျင်စီသည် မြောက်ကိုရီးယားနှင့် အီရန်နိုင်ငံတို့၏ နျူကလီးယားပြဿနာများတွင် အဓိကအခန်းကဏ္ဍမှ တက်ကြွစွာပါဝင်ဆောင်ရွက်လျက်ရှိပါသည်။ ဒေသဆိုင်ရာ ရုံးခွဲများကို ကနေဒါနိုင်ငံ တိုရွန်တိုမြို့နှင့် ဂျပန်နိုင်ငံ တိုကျိုမြို့တို့တွင် ဖွင့်လှစ်ထားရှိပါသည်။
**ဌာနချုပ်–** ဩစတြီးယားနိုင်ငံ၊ ဗီယင်နာမြို့။

၂၄။ **စီးပွားရေးအင်အားကြီးအုပ်စုနိုင်ငံ(၂၀) [Group of –20 (G–20)]**

ဂျီ–၂၀ နိုင်ငံများအဖွဲ့ကို ၁၉၉၉ ခုနှစ်တွင် စတင်ဖွဲ့စည်းခဲ့ပြီး ရည်ရွယ်ချက်မှာ ၁၉၉၇ ခုနှစ်တွင် အာရှစီးပွားရေးအကျပ်အတည်း ဖြစ်ပွားပြီးနောက်ပိုင်း ဖွံ့ဖြိုး

တိုးတက်သော ကမ္ဘာလုံးဆိုင်ရာဈေးကွက်ကြီး ပေါ်ထွန်းလာစေရေးအတွက် ပူးပေါင်းဆောင်ရွက်သွားကြရန်ဖြစ်သည်။ အဖွဲ့ဝင်နိုင်ငံများမှ ခေါင်းဆောင်များ ပါဝင်သော ထိပ်သီးအစည်းအဝေးကို နှစ်စဉ်အလှည့်ကျနိုင်ငံများ၌ကျင်းပကာ ကမ္ဘာ့စီးပွားရေး တည်ငြိမ်ရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးတို့အတွက် ဆွေးနွေးခဲ့ကြပါသည်။ အဖွဲ့ဝင်နိုင်ငံများမှာ ဂျာမနီ၊ ပြင်သစ်၊ ရုရှား၊ အီတလီ၊ ဗြိတိန်နှင့် တူရကီ (ဥရောပတိုက်)၊ တောင်အာဖရိက (အာဖရိကတိုက်)၊ အမေရိကန်၊ မက္ကဆီကိုနှင့် ကနေဒါ (မြောက်အမေရိကတိုက်)၊ ဘရာဇီးလ်နှင့် အာဂျင်တီးနား၊ (တောင်အမေရိက တိုက်)၊ ဂျပန်၊ တရုတ်နှင့် တောင်ကိုရီးယား (အရှေ့အာရှ)၊ အိန္ဒိယ (တောင်အာရှ)၊ အင်ဒိုနီးရှား (အရှေ့တောင်အာရှ)၊ ဆော်ဒီအာရေဗျ (အနောက်အာရှ)၊ ဩစတြေးလျ (သမုဒ္ဒရာနိုင်ငံများ)နှင့် ဥရောပသမဂ္ဂတို့ ဖြစ်သည်။

၂၅။ **မဟာမဲခေါင်ဒေသခွဲအဖွဲ့ [Greater Mekong Subregion (GMS)]**

ဒေသအတွင်း ၅နိုင်ငံနှင့် တရုတ်နိုင်ငံ ယူနန်ပြည်နယ်တို့ကို ဖြတ်သန်းစီးဆင်းသည့် “မဲခေါင်မြစ်”သည် ၂၆၈၀ မိုင် (ကီလိုမီတာ ၄၂၀၀)ရှည်လျားပြီး ကမ္ဘာပေါ်တွင် ရေထုထည်အများဆုံးမြစ်အဖြစ် ကမ္ဘာ့နံပါတ် (၈) စာရင်းဝင်ပေသည်။ အရှည်ဆုံးမြစ်များတွင်လည်း လေးစင်းမြောက်ဖြစ်သည်။ (၁) မဲခေါင်မြစ်ကော်မရှင်၊ (၂) အာဆီယံ – မဲခေါင်မြစ်ဝှမ်းဖွံ့ဖြိုးရေး ပူးပေါင်းဆောင်ရွက်မှု၊ (၃) စင်ကာပူ – ကူမင်းရထားလမ်းဆက်သွယ်ရေး၊ (၄) အရှေ့ – အနောက်စီးပွားရေး ပူးပေါင်းဆောင်ရွက်မှုတို့အတွက် ဖွဲ့စည်းထားပါသည်။

မဟာမဲခေါင်ဒေသခွဲခြောက်နိုင်ငံဖြစ်သည့် ကမ္ဘောဒီးယား၊ တရုတ်၊ လာအို၊ မြန်မာ၊ ထိုင်းနှင့် ဗီယက်နမ်နိုင်ငံတို့သည် မဲခေါင်မြစ် (Mekong River) ဖြတ်သန်းစီးဆင်းရာနိုင်ငံများကို စုစည်းထားသည့် အဖွဲ့အစည်းဖြစ်ပါသည်။ ဖွဲ့စည်းထားရခြင်း၏ရည်ရွယ်ချက်မှာမဲခေါင်ဒေသခွဲနိုင်ငံများအကြားစီးပွားရေးပူးပေါင်းဆောင်ရွက်ရန်၊ ကုန်သွယ်ရေးနှင့် ပို့ဆောင်ရေးလုပ်ငန်းများ တိုးချဲ့ရန်၊ အခြားနိုင်ငံမှ ပြောင်းရွှေ့အလုပ်သမားများအတွက် လူ့အရင်းအမြစ် ပြဿနာများ ဖြေရှင်းရန်၊ အခြေခံစီးပွားရေး အဆောက်အအုံဖွံ့ဖြိုးရေးစီမံကိန်းများ ဒေသတွင်းစက်မှုနှင့် လယ်ယာကဏ္ဍများ တိုးချဲ့ဆောင်ရွက်ရန်တို့ ဖြစ်သည်။

၁၉၉၄ ခုနှစ်တွင် ဗီယက်နမ်နိုင်ငံ ဟနွိုင်းမြို့၌ကျင်းပခဲ့သော “တတိယအကြိမ်မြောက် ထိပ်သီးအစည်းအဝေး”တွင် ကုန်သွယ်မှု လျင်မြန်ချောမွေ့ရေးဆိုင်ရာ လုပ်ငန်းအဖွဲ့ (Trade Facilitation Working)ကို ဖွဲ့စည်းခဲ့ပြီး ဒေသတွင်းကုန်သွယ်မှု ဆိုင်ရာလုပ်ထုံးလုပ်နည်းများနှင့် ပုံစံများရှင်းလင်း လွယ်ကူစေရေး

စံနှုန်းများသတ်မှတ်ခြင်း၊ ဒေသတွင်းဖွံ့ဖြိုးရေးနှင့် လေ့ကျင့်ရေးသင်တန်း အစီအစဉ်များ ကျင်းပခြင်း စသည်တို့ပါဝင်ပါသည်။ ADB ၏အကူအညီဖြင့် စီးပွားရေး ပူးပေါင်းဆောင်ရွက်မှုမဟာစီမံကိန်းကိုလည်း ဆောင်ရွက်လျက်ရှိပါသည်။ အဆိုပါစီမံကိန်း အရ မဲခေါင်ဒေသ ရေအရင်းအမြစ် ပူးပေါင်းဆောင်ရွက်ရေးနှင့် ထွက်ရှိလာသော ဓာတ်အားရောင်းချကာ ကုန်သွယ်မှုဖလှယ်ရေးတို့ပါဝင်ပါသည်။ လာအိုနိုင်ငံ၌ US$(2 billion) အကုန်ကျခံတည်ဆောက်သွားမည့် "နမ်သန်"အမည်ရှိ ရေအားလျှပ်စစ် စက်ရုံတည်ဆောက်ရေးစီမံချက်ကို အဖွဲ့ဝင်နိုင်ငံများမှ သဘောတူညီခဲ့ကြပါသည်။

မဲခေါင်ဒေသခွဲခြောက်နိုင်ငံတို့အကြား စီးပွားရေးပူးပေါင်းဆောင်ရွက်မှုအစီအစဉ်ကို ၁၉၉၂ ခုနှစ်တွင် စတင်ခဲ့ပြီး အာရှဖွံ့ဖြိုးရေးဘဏ်(ADB)၏ ပံ့ပိုးမှုဖြင့် ထိပ်သီးအစည်းအဝေးများကို သုံးနှစ်တစ်ကြိမ် အလှည့်ကျကျင်းပခဲ့ရာ ယခင် ၂၀၁၁ ခုနှစ်တွင် စတုတ္ထအကြိမ် မဟာမဲခေါင်ဒေသခွဲ (Greater Mekong Subregion) ထိပ်သီးအစည်းအဝေးကို မြန်မာနိုင်ငံက အိမ်ရှင်အဖြစ် ၁၉-၁၂-၂၀၁၁ မှ ၂၀-၁၂-၂၀၁၁ ရက်အထိ နေပြည်တော်ရှိ အပြည်ပြည်ဆိုင်ရာကွန်ဗင်းရှင်းဗဟိုဌာန (MICC)၌ ကျင်းပပြုလုပ်ခဲ့ပါသည်။ အဆိုပါထိပ်သီးအစည်းအဝေးသို့ မဟာမဲခေါင်ဒေသခွဲ ခြောက်နိုင်ငံနှင့် (ADB)မှ နိုင်ငံအကြီးအကဲများ တက်ရောက်ခဲ့ကြပြီး မဟာမဲခေါင်ဒေသခွဲနှင့် စီးပွားရေးစင်္ကြံတစ်လျှောက် စီးပွားရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေးအတွက် အရှိန်အဟုန်မြှင့် ဆက်လက်ဆောင်ရွက်သွားရန် ဆွေးနွေးခဲ့ကြပါသည်။

၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလ ၁၄ ရက်တွင် ဂျပန်နိုင်ငံ တိုကျိုမြို့၌ကျင်းပခဲ့သော မဲခေါင်-ဂျပန် ပဉ္စမအကြိမ်မြောက်ထိပ်သီးညီလာခံ၌ ဂျပန်နိုင်ငံမှ US$ (4.9 bilion) ထောက်ပံ့ကူညီပေးခဲ့ပြီး တရုတ်နိုင်ငံကလည်း လူဦးရေသန်း ၂၂၀ မှီတင်းနေထိုင်သော မဲခေါင်ဒေသကို အထောက်အပံ့များပေးအပ်ခဲ့ပြီး ရင်းနှီးမြှုပ်နှံမှုများလည်း လုပ်ဆောင်ပေးခဲ့ပြီးဖြစ်ပါသည်။

## ၂၆။ **အပြည်ပြည်ဆိုင်ရာသမဝါယမအဖွဲ့ချုပ်** **(International Cooperative Allinance-ICA)**

အပြည်ပြည်ဆိုင်ရာ သမဝါယမအဖွဲ့ချုပ် (International Cooperative Allinance-ICA)ကို နိုင်ငံတကာရှိ သမဝါယမအချင်းချင်း ရင်းနှီးစွာ ပေါင်းသင်းဆက်ဆံနိုင်ရန်နှင့် စီးပွားရေးအားဖြင့် ပူးပေါင်းဆောင်ရွက်မှုမြှင့်တင်ရန် ရည်ရွယ်ချက်များဖြင့် ၁၈၉၅ ခုနှစ်တွင် အင်္ဂလန်နိုင်ငံ၌ စတင်ဖွဲ့စည်းခဲ့ပြီး ယနေ့အထိ

အဖွဲ့ဝင် နိုင်ငံပေါင်း ၉၆ နိုင်ငံမှ အဖွဲ့အစည်း ၂၇၀ ဖွဲ့၊ အသင်းသား သန်း ၁၀၀၀ ကျော်ဖြင့် ပါဝင်ဆောင်ရွက်လျက်ရှိပါသည်။ မြန်မာနိုင်ငံ ဗဟိုသမဝါယမအသင်း လီမိတက်သည် ICA သို့ ၁၉၉၃ ခုနှစ်၊ စက်တင်ဘာလ ၇ ရက်တွင် စတင်ဝင်ရောက်ခဲ့ပါသည်။ ထို့အပြင် အာရှငွေစုငွေချေးအသင်းစုချုပ်များအဖွဲ့ (Association of Asia Confederation of Credit Unions–ACCU) သို့ ၂၀၁၁ ခုနှစ်၊ ဧပြီလ ၂၅ ရက်တွင်လည်းကောင်း၊ အပြည်ပြည်ဆိုင်ရာငါးလုပ်ငန်းသမဝါယမအဖွဲ့ (International Cooperative Fisheries Organization–ICFO) သို့ ၂၀၁၂ ခုနှစ်၊ နိုဝင်ဘာလ ၂၈ ရက်တွင်လည်းကောင်း အဖွဲ့ဝင်အဖြစ် ဝင်ရောက်ခဲ့ပါသည်။

## ၂၇။ ပင်လယ်ကွေ့ပူးပေါင်းဆောင်ရွက်ရေးကောင်စီ (Gulf Cooperation Council–GCC)

ပင်လယ်ကွေ့ပူးပေါင်းဆောင်ရွက်ရေးကောင်စီကို ၁၉၈၁ ခုနှစ် မေလတွင် စတင်ဖွဲ့စည်းခဲ့ပြီး အဖွဲ့ဝင်နိုင်ငံများမှာ ပင်လယ်ကွေ့ခြောက်နိုင်ငံဖြစ်သည့် ဆော်ဒီအာရေဗျ၊ ကူဝိတ်၊ ယူအေအီး၊ အိုမန်၊ ကာတာနှင့် ဘာရိန်းနိုင်ငံတို့ဖြစ်သည်။ ပင်လယ်ကွေ့ကောင်စီနိုင်ငံများ၏ရေနံကြွယ်ဝမှုသည်ကမ္ဘာ့ရေနံထွက်ရှိမှုပမာဏ၏ တစ်ဝက်ကျော်မျှရှိပေသည်။ ကောင်စီ၏ ရည်ရွယ်ချက်မှာ အိမ်နီးချင်းနိုင်ငံများနှင့် အစ္စလာမ်မစ်အစွန်းရောက်တို့၏ ခြိမ်းခြောက်မှုကို ကာကွယ်ရန်နှင့် စုပေါင်းလုံခြုံရေးမှတစ်ဆင့် အဖွဲ့ဝင်နိုင်ငံများ၏ စီးပွားရေးပူးပေါင်းဆောင်ရွက်မှုကို မြှင့်တင်ရန်ဖြစ်သည်။

## ၂၈။ ကုလသမဂ္ဂ စက်မှုဖွံ့ဖြိုးရေးအဖွဲ့ (United Nations Industrial Development Organization)

ဖွံ့ဖြိုးဆဲနိုင်ငံများ၏ စက်မှုဖွံ့ဖြိုးမှု တိုးတက်မြင့်မားစေရန်နှင့် စက်မှုလက်မှုနိုင်ငံသို့ အသွင်ကူးပြောင်းနိုင်ရန်အတွက် ကုလသမဂ္ဂအထွေထွေညီလာခံသည် ၁၉၆၇ ခုနှစ်၊ ဇန်နဝါရီလ ၁ ရက်နေ့တွင် UNIDO ခေါ် ကုလသမဂ္ဂ စက်မှုဖွံ့ဖြိုးရေးအဖွဲ့ကို တည်ထောင်ဖွဲ့စည်းပေးခဲ့သည်။ ၁၉၈၅ ခုနှစ်တွင် UNIDO သည် ကုလသမဂ္ဂ၏ ၁၆ ခုမြောက် အထူးအေဂျင်စီဖြစ်လာခဲ့သည်။

ရည်ရွယ်ချက်မှာ –

(၁) ဖွံ့ဖြိုးဆဲနိုင်ငံများနှင့် စီးပွားရေးကျဆင်းနေသော နိုင်ငံများကို အကူအညီပေးရန်။

(၂) ဗဟုသုတ၊ အသိပညာ၊ သတင်းဆက်သွယ်ရေးနှင့် နည်းပညာရပ်

ဆိုင်ရာများကို စုစည်းပြီး ကုန်ထုတ်လုပ်မှုတိုးတက်ရေးကို မြှင့်တင်ပေးရန်။

(၃) ဆင်းရဲနွမ်းပါးမှုကို လျှော့နည်းသက်သာစေရန်၊ ကုန်ထုတ်စွမ်းအားမြင့်မားရေးကို ထောက်ပံ့ကူညီပေးရန်ဖြစ်သည်။

ယခုအခါ UNIDO တွင် အဖွဲ့ဝင် ၁၇၀ နိုင်ငံရှိသည်။ စက်မှုဆိုင်ရာ ဖွံ့ဖြိုးမှုဘုတ်အဖွဲ့တွင် အဖွဲ့ဝင် ၅၃ နိုင်ငံရှိပြီး စီမံကိန်းနှင့် ဘတ်ဂျက်ကော်မတီတွင် အဖွဲ့ဝင် ၂၇ နိုင်ငံရှိသည်။ အဖွဲ့ချုပ်ရုံးကို ဩစတြီးယားနိုင်ငံ၊ ဗီယင်နာတွင် ဖွင့်လှစ်ထားရှိပါသည်။

## ၂၉။ G 77 (ဖွံ့ဖြိုးဆဲ ၇၇ နိုင်ငံ အုပ်စု)

ဖွံ့ဖြိုးဆဲနိုင်ငံများ၏ အကျိုးစီးပွားနှင့် လိုအပ်ချက်များကို ဖြည့်ဆည်းကာကွယ်ပေးနိုင်မည့် အဖွဲ့အစည်းတစ်ရပ် ထူထောင်ပေးရန် ဖွံ့ဖြိုးဆဲနိုင်ငံများ၏ တောင်းဆိုချက်အရ ၁၉၆၄ ခုနှစ်တွင် ကုလသမဂ္ဂကုန်သွယ်ရေးနှင့် ဖွံ့ဖြိုးရေးညီလာခံ (UNCTAD) ကို ဂျီနီဗာမြို့၌ ပထမဆုံးအကြိမ်ကျင်းပခဲ့ရာ ယင်းညီလာခံကာလအတွင်း အာရှ၊ အာဖရိကနှင့် လက်တင်အမေရိကနိုင်ငံများမှ အကျိုးစီးပွားတူ ဖွံ့ဖြိုးဆဲနိုင်ငံ ၇၇ နိုင်ငံက စုစည်းပြီး ရပ်တည်ဆွေးနွေးခဲ့ကြရာမှ ယင်းညီလာခံအပြီးတွင် ၇၇ နိုင်ငံ အုပ်စု၏ ကြေညာစာတမ်းကို ထုတ်ပြန်ခဲ့ပြီးနောက် ဖွံ့ဖြိုးဆဲ ၇၇ နိုင်ငံအုပ်စု Group of 77 ဟူ၍ ပေါ်ထွန်းလာခဲ့ပါသည်။ ယခုအခါ အဖွဲ့ဝင်နိုင်ငံပေါင်း ၁၃၅ နိုင်ငံအထိ တိုးတက်လာခဲ့သော်လည်း ၇၇ နိုင်ငံအုပ်စုဟူ၍ပင် ဆက်လက်ခေါ်တွင်လျက် ကမ္ဘာ့စီးပွားရေးရာများတွင် ဖွံ့ဖြိုးဆဲနိုင်ငံများ၏ အကျိုးစီးပွားအတွက် တစ်သွေးတည်း၊ တစ်သံတည်း ရပ်တည်ဆောင်ရွက်လျက်ရှိပါသည်။ ဘက်မလိုက်လှုပ်ရှားမှုတွင် မပါဝင်သော ဖွံ့ဖြိုးဆဲနိုင်ငံများသည်လည်းကောင်း၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံသည်လည်းကောင်း ယင်းအုပ်စုတွင် ပါဝင်လှုပ်ရှားလျက်ရှိကြပါသည်။ လက်ရှိတွင် ဤအုပ်စု၌ နိုင်ငံပေါင်း ၁၃၅ နိုင်ငံ အဖွဲ့ဝင်အဖြစ် ပါဝင်နေပြီးဖြစ်ရာ ကုလသမဂ္ဂ၏ မျက်နှာစာတွင် အရေးပါသော အဖွဲ့ကြီးတစ်ခုအဖြစ် ရပ်တည်လာပြီဖြစ်ပါသည်။

## ၃၀။ တောင်အာရှနိုင်ငံများ ပူးပေါင်းဆောင်ရွက်ရေးအသင်း South Asian Association for Regional Cooperation(SAARC)

“တောင်အာရှနိုင်ငံများ ပူးပေါင်းဆောင်ရွက်ရေးအသင်း”ကို ၁၉၈၅ ခုနှစ်၊

ဒီဇင်ဘာလ ၈ ရက်တွင် စတင်ဖွဲ့စည်းခဲ့ပါသည်။ တောင်အာရှဒေသအတွင်းရှိ အိန္ဒိယ၊ ပါကစ္စတန်၊ ဘင်္ဂလားဒေ့ရှ်၊ သီရိလင်္ကာ၊ နီပေါ၊ မော်လ်ဒိုက်၊ ဘူတန်နှင့် အာဖဂန်နစ္စတန်နိုင်ငံတို့ ဖြစ်ကြသည်။ အဖွဲ့ဝင်နိုင်ငံများအကြား (၁) စိုက်ပျိုးရေးနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး၊ (၂) ဆက်သွယ်ရေး၊ သိပ္ပံနှင့် နည်းပညာ၊ မိုးလေဝသ ကဏ္ဍများ၊ (၃) ကျန်းမာရေးနှင့် လူဦးရေဖွံ့ဖြိုးတိုးတက်မှု ထိန်းသိမ်းရေးကဏ္ဍများ၊ (၄) ပို့ဆောင်ဆက်သွယ်ရေးကဏ္ဍများ၊ (၅) လူ့စွမ်းအားအရင်းအမြစ်များ ဖွံ့ဖြိုး တိုးတက်ရေးကဏ္ဍ စသည်တို့တွင် ပူးပေါင်းဆောင်ရွက်ကြရန် သဘောတူညီချက် များထားရှိပါသည်။ အသင်း၏ ဌာနချုပ်ကို နီပေါနိုင်ငံ ခတ္တမန္ဒူမြို့တွင် ဖွင့်လှစ် ထားရှိပါသည်။

## ၃၁။ အပြည်ပြည်ဆိုင်ရာ ရွှေ့ပြောင်းသွားလာသူများအဖွဲ့

**International Organization For Migration (IOM)**

ရွှေ့ပြောင်းသွားလာနေထိုင်ခြင်းဆိုင်ရာ နိုင်ငံတကာအဖွဲ့အစည်းကို ၁၉၅၁ ခုနှစ်တွင် စတင်တည်ထောင် ဖွဲ့စည်းခဲ့ပါသည်။ အစိုးရအချင်းချင်း ပါဝင်ဖွဲ့စည်း ထားသော နိုင်ငံတကာအဖွဲ့အစည်းတစ်ခုပင်ဖြစ်သည်။ အစိုးရအဖွဲ့အစည်းများ၊ အစိုးရအချင်းချင်း ပူးပေါင်းဖွဲ့စည်းထားသည့် အဖွဲ့အစည်းများ၊ အစိုးရမဟုတ် သော အဖွဲ့အစည်းများ စသည့် လုပ်ဖော်ကိုင်ဖက်များနှင့်အတူ လက်တွဲလုပ်ကိုင် လျက်ရှိပါသည်။ အဖွဲ့ဝင်နိုင်ငံပေါင်း ၁၄၈ နိုင်ငံရှိပြီး မြန်မာနိုင်ငံသည်လည်း အဖွဲ့ဝင် နိုင်ငံတစ်နိုင်ငံဖြစ်ပေသည်။ ဌာနချုပ်မှာ အီတလီနိုင်ငံ၊ ရောမမြို့တွင် တည်ရှိပါသည်။ ကမ္ဘာ့လူဦးရေ သန်း ၇၀၀၀ ခန့်ရှိသည့်အနက် ရွှေ့ပြောင်းအလုပ် သမား ၂၁၄ သန်း ခန့်ရှိသည်ဟု ကုလသမဂ္ဂအဖွဲ့ကြီးက ခန့်မှန်းထားပြီး လာမည့် ၂၀၅၀ ပြည့်နှစ်တွင် သန်း ၄၀၀ ကျော် ဖြစ်လာလိမ့်မည်ဟု ခန့်မှန်းထားပါသည်။

## ၃၂။ အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးရေးအသင်း

**(International Development Association)**

“အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးရေးအသင်း”ကို ၁၉၆၀ ပြည့်နှစ်၊ စက်တင်ဘာလ ၂၄ ရက်တွင် ဖွဲ့စည်းတည်ထောင်ခဲ့ပါသည်။ ကမ္ဘာ့ဘဏ်အဖွဲ့ဝင်နိုင်ငံတိုင်းသည် အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးရေးအသင်းတွင် အလိုအလျောက် အသင်းဝင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ယင်းအသင်းသည် ကမ္ဘာ့ဘဏ်၏ တစ်စိတ်တစ်ဒေသ လုပ်ငန်းအဖွဲ့ဖြစ်သောကြောင့်ဖြစ်သည်။ အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးရေးအသင်း၏ ရည်ရွယ်ချက်မှာ မဖွံ့ဖြိုးသေးသောအဖွဲ့ဝင်နိုင်ငံများ၏ နယ်မြေဒေသ စီးပွားရေး

ဖွံ့ဖြိုးမှု ကုန်ထုတ်စွမ်းအား တိုးတက်မြှင့်တင်ရေး၊ ငွေအင်အားချို့တဲ့၍ ကမ္ဘာ့ဘဏ်မှ ငွေချေးရန် အခက်အခဲရှိနေသော အဖွဲ့ဝင်နိုင်ငံများအတွက် ကမ္ဘာ့ဘဏ်က ကြီးကြပ်၍ ယင်းအသင်းက အတိုးမရှိ နှစ်ရှည်စနစ်ဖြင့် ငွေများထုတ်ချေးသည့် ငွေကြေးလုပ်ငန်းဆောင်ရွက်ပေးရေးတို့ဖြစ်သည်။ အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးရေးအသင်းတွင် ၎င်း၏လုပ်ငန်းများအတွက် တာဝန်ထမ်းဆောင်ရန် သီးခြားဝန်ထမ်းများမထားရှိပါ။ ကမ္ဘာ့ဘဏ်အုပ်ချုပ်ရေးအဖွဲ့က တာဝန်ယူကြီးကြပ်သည်။ ကမ္ဘာ့ဘဏ်ဝန်ထမ်းတို့သည် ကမ္ဘာ့ဘဏ်နှင့် အပြည်ပြည်ဆိုင်ရာ ဖွံ့ဖြိုးရေးအသင်း၏လုပ်ငန်းများကို တစ်ပြိုင်နက်တည်း တာဝန်ထမ်းဆောင်ကြပါသည်။ အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးရေးအသင်းတွင် အဖွဲ့ဝင်နိုင်ငံပေါင်း ၁၅၉ နိုင်ငံရှိပါသည်။ ကမ္ဘာ့ဘဏ်၏ဥက္ကဋ္ဌမှာ ယင်းအဖွဲ့၏ ဥက္ကဋ္ဌလည်းဖြစ်ပါသည်။ မြန်မာနိုင်ငံသည် အဆိုပါအသင်းသို့ ၁၉၆၂ ခုနှစ်၊ နိုဝင်ဘာလ ၅ ရက်တွင် အဖွဲ့ဝင်နိုင်ငံဖြစ်လာခဲ့သည်။
**ဌာနချုပ်–** အမေရိကန်ပြည်ထောင်စု၊ ဝါရှင်တန်မြို့။

## ၃၃။ အပြည်ပြည်ဆိုင်ရာတရားရုံး (International Court of Justice)

၁၉၄၅ ခုနှစ်၊ ဧပြီ ၂၂ ရက်တွင် ပြုလုပ်သော ဆန်ဖရန်စစ္စကို ညီလာခံ၌ ကမ္ဘာ့တရားရုံးခေါ် အပြည်ပြည်ဆိုင်ရာတရားရုံးကို ကုလသမဂ္ဂအဖွဲ့ကြီး၏ အဓိကတရားစီရင်ရေးအဖွဲ့အဖြစ် သတ်မှတ်ခဲ့ပြီး ၁၉၄၆ ခုနှစ်၊ ဖေဖော်ဝါရီ ၃ ရက်နေ့တွင် နိုင်ငံပေါင်းချုပ်အသင်းကြီး၏အောက်တွင် ဖွဲ့စည်းခဲ့သော အပြည်ပြည် ဆိုင်ရာ အမြဲတမ်းတရားခုံရုံးနေရာ၌ အစားထိုးဖွဲ့စည်းခဲ့သည်။ ကုလသမဂ္ဂအဖွဲ့ဝင်အားလုံးနှင့် သက်ဆိုင်ပါသည်။ ပထမအကြိမ်ကွန်ဖရင့်ကို နယ်သာလန်နိုင်ငံသည်ဟိတ်မြို့၌ ၁၈၉၉ ခုနှစ်၊ မေလ ၁၈ ရက်မှ ဇူလိုင်လ ၂၉ ရက်အတွင်း ကျင်းပခဲ့ပြီး၊ အမေရိကန်အပါအဝင် ၂၆ နိုင်ငံတို့ တက်ရောက်ခဲ့ပါသည်။ သို့သော် အောင်မြင်မှုမရရှိခဲ့ပေ။ ၁၉၀၇ ခုနှစ်၊ ဇွန် ၁၅ ရက်မှ အောက်တိုဘာလ ၁၈ ရက်နေ့အထိ ဒုတိယအကြိမ်ကွန်ဖရင့်ကို သည်ဟိတ်မြို့၌ ထပ်မံကျင်းပခဲ့သည်။ ၄၄ နိုင်ငံမှ ကိုယ်စားလှယ်များ တက်ရောက်ခဲ့သည်။ အဆိုပါ ကွန်ဖရင့်များတွင် နိုင်ငံတကာ တရားရုံးတစ်ခု ပေါ်ပေါက်လာရေးအတွက် အခြေခံဆွေးနွေးမှုများ ပြုလုပ်ခဲ့သည်။ နိုင်ငံပေါင်းချုပ်အသင်းကြီး ဖွဲ့စည်းပြီးနောက် ၁၉၁၉ ခုနှစ်တွင် အပြည်ပြည်ဆိုင်ရာ အမြဲတမ်းတရားခုံရုံးကို တည်ထောင်ခဲ့သည်။ အပြည်ပြည်ဆိုင်ရာတရားရုံးကို နယ်သာလန်နိုင်ငံသည်ဟိတ်မြို့တွင် ဖွင့်လှစ်ထားသော်လည်း လိုအပ်ပါက တရားရုံး က သင့်တော်သည်ဟု သတ်မှတ်သောနေရာတွင် ဖွင့်လှစ်လေ့ရှိသည်။ တရားသူကြီး ၁၅ ဦးကို လုံခြုံရေး

ကောင်စီနှင့် အထွေထွေညီလာခံမှ ရွေးချယ်သည်။ တရား သူကြီးများ၏သက်တမ်းမှာ ၃ နှစ်မှ ၉ နှစ်အတွင်း ဖြစ်သည်။ ဥက္ကဋ္ဌနှင့် ဒုတိယ ဥက္ကဋ္ဌကို တရားသူကြီးများက ရွေးချယ်သည်။ တရားရုံး၏ တရားဝင်ဘာသာ စကားမှာ အင်္ဂလိပ်နှင့် ပြင်သစ်တို့ ဖြစ်ပါသည်။

၃၄။ **အစ္စလာမ်မစ်နိုင်ငံများ ပူးပေါင်းဆောင်ရွက်ရေးအဖွဲ့**
**Organisation of Islamic Cooperation (OIC)**

အစ္စလာမ်မစ်နိုင်ငံများပူးပေါင်းဆောင်ရွက်ရေးအဖွဲ့ကို ၁၉၆၉ ခုနှစ်တွင် အဖွဲ့ဝင် ၅၇ နိုင်ငံဖြင့် ဖွဲ့စည်းခဲ့သည်။ OIC အဖွဲ့ဝင်နိုင်ငံများမှာ အာဖဂန်နစ္စတန်၊ အယ်လ်ဘေးနီးယား၊ အယ်လ်ဂျီးရီးယား၊ အဇာဘိုင်ဂျန်၊ ဘာရိန်း၊ ဘင်္ဂလားဒေ့ရှ်၊ ဘီနင်၊ ဘရူနိုင်းဒါရူဆလမ်၊ ဘာကီနာဖာဆို၊ ကင်မရွန်း၊ ချတ်၊ ကိုမိုရော့စ်၊ ကို့ဒီဗား၊ ဒစ်ချ်ဘိုတီ၊ အီဂျစ်၊ ဂဘွန်၊ သယ်ဂမ်ဘီယာ၊ ဂူနာ၊ ဂူနာ-ဘစ်ဆော့၊ ဂူယာနာ၊ အင်ဒိုနီးရှား၊ အီရန်၊ အီရတ်၊ ဂျော်ဒန်၊ ကာဇက်စတန်၊ ကူဝိတ်၊ ကာဂျစ်၊ လက်ဘနွန်၊ လစ်ဗျား၊ မလေးရှား၊ မော်လဒိုက်၊ မာလီ၊ မော်ရစ်တေးနီးယား၊ မိုရိုကို၊ မိုဇမ်ဘစ်၊ နီဂါ၊ နိုင်ဂျီးရီးယား၊ အိုမန်၊ ကာတာ၊ ဆော်ဒီအာရေဗျ၊ ဆီနီဂေါ၊ ဆီယာရာလီယွန်၊ ဆိုမာလီယာ၊ ဆူဒန်၊ ဆူရီနာမီ၊ ဆီရီးယား၊ တာဂျစ်ကစ္စတန်၊ တိုဂို၊ တူနီးရှား၊ တူရကီ၊ တာခ်မင်နစ္စတန်၊ ယူဂန်ဒါ၊ အာရပ်စော်ဘွားများပြည်ထောင်စု၊ ဥဇဘက်ကစ္စတန်၊ ယီမင်နိုင်ငံတို့ ဖြစ်သည်။

**ရွှေတြိဂံနယ်မြေနိုင်ငံများ**

(က) မြန်မာ ( ခ ) လာအို ( ဂ ) ထိုင်း

**ရွှေစတုဂံနယ်မြေနိုင်ငံများ**

(က) မြန်မာ ( ခ ) လာအို ( ဂ ) ထိုင်း (ဃ) တရုတ်

**အာရှကျား (၄)ကောင်**

(က) ထိုင်ဝမ် ( ခ ) ဟောင်ကောင် ( ဂ ) စင်ကာပူ (ဃ) တောင်ကိုရီးယား

**အာရှနဂါး(၆) ကောင်**

(က) ထိုင်ဝမ် ( ခ ) ထိုင်း ( ဂ ) တောင်ကိုရီးယား (ဃ) စင်ကာပူ
( င ) ဟောင်ကောင် ( စ ) မလေးရှား

**ရွှေလခြမ်းနယ်မြေနိုင်ငံများ**

(က) အီရန် ( ခ ) အာဖဂန်နစ္စတန် ( ဂ ) ပါကစ္စတန်

**တောင်အာရှနိုင်ငံများ (၈ နိုင်ငံ)**

(က) အာဖဂန်နစ္စတန် ( ခ ) ဘင်္ဂလားဒေ့ရှ် ( ဂ ) ဘူတန်

(ဃ) အိန္ဒိယ ( င ) မော်လ်ဒိုက် ( စ ) နီပေါ

(ဆ) ပါကစ္စတန် ( ဇ ) သီရိလင်္ကာ

**အရှေ့အလယ်ပိုင်းနိုင်ငံ ၁၈ နိုင်ငံ**

၁။ ဘူတန်
၂။ ဆိုက်ပရက်စ်
၃။ အီဂျစ်
၄။ အီရန်
၅။ အီရတ်
၆။ အစ္စရေး
၇။ ဂျော်ဒန်
၈။ ကူဝိတ်
၉။ လက်ဘနွန်
၁၀။ မြောက်ပိုင်းဆိုက်ပရက်စ်
၁၁။ အိုမန်
၁၂။ ပါလက်စတိုင်း
၁၃။ ကာတာ
၁၄။ ဆော်ဒီအာရေဗျ
၁၅။ ဆီးရီးယား
၁၆။ တူရကီ

**လက်တင်အမေရိကနိုင်ငံ ၂၆ နိုင်ငံ**

၁။ ဘရာဇီး
၂။ မက္ကဆီကို
၃။ ကိုလံဘီယာ
၄။ အာဂျင်တီးနား

၅။ ပီရူး
၆။ ဗင်နီဇွဲလား
၇။ ချီလီ
၈။ အီကွေဒေါ
၉။ ဂွာတီမာလာ
၁၀။ ကျူးဘား
၁၁။ ဟေတီ
၁၂။ ဘိုလီ
၁၃။ ဒိုမီနီကန်သမ္မတနိုင်ငံ
၁၄။ ဟွန်ဒူးရပ်စ်
၁၅။ ပါရာဂွေး
၁၆။ နီကာရာဂွာ
၁၇။ အယ်လ်ဆာဗေဒိုး
၁၈။ ကော်စတာရီကာ
၁၉။ ပနားမား
၂၀။ ပွာတိုရီကို
၂၁။ ဥရုဂွေး
၂၂။ ဂါဒီလုပ် (ပြင်သစ်)
၂၃။ မာတင်းနစ် (ပြင်သစ်)
၂၄။ ပြင်သစ်ဂီနီ
၂၅။ စိန့်မာတင် (ပြင်သစ်)
၂၆။ စိန့်ဘာသာလမီ (ပြင်သစ်)

**ပင်လယ်ကျွန်း နိုင်ငံ ၆ နိုင်ငံ**

၁။ ယူအေအီး
၂။ အိုမန်
၃။ ကူဝိတ်
၄။ ဘာရိန်း
၅။ ဆော်ဒီအာရေဗျ
၆။ ကာတာ

**အာရှကုန်းတွင်းပိတ်နိုင်ငံ ၁၂ နိုင်ငံ**

၁။ အာဖဂန်နစ္စတန်
၂။ ဘူတန်
၃။ ကာဇက်စတန်
၄။ လာအို
၅။ မွန်ဂိုလီးယား
၆။ နီပေါ
၇။ တာဂျစ်ကစ္စတန်
၈။ ကာဂျစ်စတန်
၉။ တာ့မင်နစ္စတန်
၁၀။ ဥဇဘက်ကစ္စတန်
၁၁။ အာမေးနီးယား
၁၂။ အဇာဘိုင်ဂျန်

**ဥရောပကုန်းတွင်းပိတ်နိုင်ငံ ၁၇ နိုင်ငံ**

၁။ အန်ဒိုရာ
၂။ အာမေးနီးယား
၃။ သြစတြေးယား
၄။ ဘယ်လာရုစ်
၅။ ဘော့စ်နီးယားနှင့် ဟာဇီဂိုဗီးနား
၆။ ချက်သမ္မတနိုင်ငံ
၇။ ဟန်ဂေရီ
၈။ ကာဇက်စတန်
၉။ လီချင်စတိန်း
၁၀။ လူဇင်ဘတ်
၁၁။ မက်ဆီဒိုနီးယား
၁၂။ မော်လ်ဒိုဗာ
၁၃။ ဆန်မာရီနို
၁၄။ ဆားဘီးယား
၁၅။ ဆလိုဗက်ကီးယား

၁၆။ ဆွစ်ဇာလန်
၁၇။ ဗာတီကန်စီးတီး

**အာဖရိကကုန်းတွင်းပိတ်နိုင်ငံ ၁၅ နိုင်ငံ**

၁။ ဘော့ဆွာနာ
၂။ ဘာကီနာဖာဆို
၃။ ဘူရွန်ဒီ
၄။ ချက်
၅။ အီသီယိုးပီးယား
၆။ လီဆိုသို
၇။ မာလာဝီ
၈။ မာလီ
၉။ နိုင်ဂျာ
၁၀။ ရဝမ်ဒါ
၁၁။ ဆွာဇီလန်
၁၂။ ယူဂန်ဒါ (ကမ္ဘာပေါ်တွင် ကုန်းတွင်းပိတ်နိုင်ငံပေါင်း ၄၄ + ၄ နိုင်ငံရှိသည်)
၁၃။ ဇမ်ဘီယာ
၁၄။ ဇင်ဘာဘွေ
၁၅။ ဗဟိုအာဖရိကသမ္မတနိုင်ငံ

**နိုင်ငံတော်နှင့် မြို့တော်အမည် တူညီသည့် နိုင်ငံအချို့**

၁။ စင်ကာပူ
၂။ မက္ကဆီကို
၃။ ဟောင်ကောင်
၄။ ပနားမား
၅။ ကူဝိတ်
၆။ ဆန်မာရီနို
၇။ မကာအို
၈။ ဘရာဇီး
၉။ မိုနာကို
၁၀။ လူဇင်ဘတ်

## အတိုကောက်စာစကားလုံးများ

၁။ ACO – ASEAN Cooperative Organization
အာဆီယံ သမဝါယမအဖွဲ့

၂။ ACWO – ASEAN Confederation of Women Organization
အာဆီယံ အမျိုးသမီးများအဖွဲ့ ကွန်ဖက်ဒရေးရှင်း

၃။ ACMECS – Arrawaddy–Chaophraya–Mekong Economic Cooperation Strategy
ဧရာဝတီ၊ ကျောက်ဖယား၊ မဲခေါင် စီးပွားရေးပူးပေါင်းဆောင်ရွက်မှု မဟာဗျူဟာ

၄။ ADB – Asian Development Bank
အာရှဖွံ့ဖြိုးရေးဘဏ်

၅။ ACC – ASEAN Coordinating Council
အာဆီယံပူးပေါင်းညှိနှိုင်းရေးကောင်စီ

၆။ AEC – ASEAN Economic Community
အာဆီယံစီးပွားရေးအသိုက်အဝန်း

၇။ AFTA – ASEAN Free Trade Area
အာဆီယံလွတ်လပ်သော ကုန်သွယ်ရေးဒေသ

၈။ AIPA – ASEAN Inter Parliamentry Assembly
အာဆီယံပါလီမန်များဆိုင်ရာ အထွေထွေညီလာခံ

၉။ APEC – Asia–Pacific Economic Cooperation
အာရှ–ပစိဖိတ် စီးပွားရေးပူးပေါင်းဆောင်ရွက်ရေးအဖွဲ့

၁၀။ APSC – AESEAN Political and Security Community
အာဆီယံနိုင်ငံရေး–လုံခြုံရေးအသိုက်အဝန်း

၁၁။ ARF – ASEAN Regional Forum
အာဆီယံဒေသတွင်း ပုံမှန်ဆွေးနွေးပွဲ

၁၂။ ASA – Association of Southeast Asia
အရှေ့တောင်အာရှအဖွဲ့

၁၃။ ASC – ASEAN Standing Committee
အာဆီယံအမြဲတမ်းကော်မတီ

| | | | |
|---|---|---|---|
| ၁၄။ | ASCC | – | ASEAN Social and Cultural Community<br>အာဆီယံလူမှု-ယဉ်ကျေးမှုအသိုက်အဝန်း |
| ၁၅။ | ASEAN | – | Association of South–East Asia Nations<br>အရှေ့တောင်အာရှနိုင်ငံများအဖွဲ့ |
| ၁၆။ | ASEM | – | Asia–Europe Meeting<br>အာရှ-ဥရောပ အစည်းအဝေး |
| ၁၇။ | BBC | – | British Broadcasting Channel (or) Cooperation<br>ဗြိတိသျှအသံလွှင့်ဌာန |
| ၁၈။ | BSI | – | Bureau of Special Investigation<br>အထူးစုံစမ်းစစ်ဆေးရေးဦးစီးဌာန |
| ၁၉။ | BIMSTEC | – | Bay of Bengal Intiative for Multi–Sectoral Technical and Economic Cooperation<br>ဘင်္ဂလားပင်လယ်အော်ဒေသ ကဏ္ဍစုံနည်းပညာနှင့် စီးပွားရေး ပူးပေါင်းဆောင်ရွက်မှုအဖွဲ့ |
| ၂၀။ | CEDAW | – | Convention on the Elimination of All Forms of Discrimination against Women<br>အမျိုးသမီးများအပေါ် ခွဲခြားဆက်ဆံမှုအားလုံး ပပျောက်ရေး သဘောတူစာချုပ် |
| ၂၁။ | CIA | – | Central Intelligence Agency(US)<br>အမေရိကန်ဗဟိုထောက်လှမ်းရေးအဖွဲ့ |
| ၂၂။ | CIS | – | Commonwealth of Independent States<br>လွတ်လပ်သော ဓနသဟာယနိုင်ငံများအဖွဲ့ |
| ၂၃။ | CLMV | – | Cambodia–Laos–Myanmar–Vietnam Economic Cooperation<br>ကမ္ဘောဒီးယား၊ လာအို၊ မြန်မာ၊ ဗီယက်နမ် စီးပွားရေး ပူးပေါင်းဆောင်ရွက်ရေးအဖွဲ့ |
| ၂၄။ | CMEA | – | The Council for Mutual Economics<br>စီးပွားရေးအပြန်အလှန် အကူအညီပေးရေးကောင်စီ |
| ၂၅။ | CRC | – | Convention on the Rights of the Child<br>ကလေးသူငယ်များ အခွင့်အရေးဆိုင်ရာ သဘောတူစာချုပ် |

၂၆။ ECOSOC – Economic and Social Council(UN)
စီးပွားရေးနှင့် လူမှုရေးကောင်စီ

၂၇။ EEC – European Economic Commnity
ဥရောပဘုံဈေးအဖွဲ့

၂၈။ EFTA – European Free Trade Association
ဥရောပလွတ်လပ်ခွင့် ကုန်သွယ်ရေးအဖွဲ့

၂၉။ ESCAP – Economic and Social Commission for Asia and the Pacifc
အာရှနှင့် ပစိဖိတ်ဒေသဆိုင်ရာ စီးပွားရေးနှင့် လူမှုရေး ကော်မရှင်

၃၀။ EU – European Union
ဥရောပသမဂ္ဂ

၃၁။ FAO – Food and Agriculture Organization
ကမ္ဘာ့စားနပ်ရိက္ခာနှင့် စိုက်ပျိုးရေးအဖွဲ့

၃၂။ FBI – Federal Bereau of Investigation(US)
အမေရိကန်အမျိုးသား ထောက်လှမ်းရေးအဖွဲ့

၃၃။ FIFA – Federation of International Football Associations
ကမ္ဘာ့ဘောလုံးအဖွဲ့ချုပ်(ဖီဖာ)

၃၄။ GATT – General Agreement on Tariffs and Trade
အကောက်ခွန်နှင့် ကုန်သွယ်မှုဆိုင်ရာ သဘောတူညီချက်

၃၅။ G–8 – Group of Eight
စက်မှုထိပ်သီး(၈)နိုင်ငံအဖွဲ့

၃၆။ GCC – Gulf Cooperation Council
ပင်လယ်ကွေ့ပူးပေါင်းဆောင်ရွက်ရေးကောင်စီ

၃၇။ GMS – Greater Mekong Sub–Region
မဟာမဲခေါင်ဒေသ

၃၈။ HRD – Human Resources Development
လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးတိုးတက်ရေး

၃၉။ IAEA – International Atomic Energy Agency
နိုင်ငံတကာ အနုမြူစွမ်းအင်အေဂျင်စီ

၄၀။ ICAO – International Civil Aviation Organization
နိုင်ငံတကာ မြို့ပြလေကြောင်းအဖွဲ့အစည်း

၄၁။ ICCPR – International Covenant on Civil and Political Rights
အရပ်ဖက်နှင့် နိုင်ငံရေးအခွင့်အရေးများဆိုင်ရာ အပြည်ပြည်ဆိုင်ရာစာချုပ်

၄၂။ ICJ – International Court of Justice
အပြည်ပြည်ဆိုင်ရာတရားရုံး

၄၃။ ICRC – International Committee of the Red–Cross
နိုင်ငံတကာ ကြက်ခြေနီအသင်း

၄၄။ IDA – International Development Association
နိုင်ငံတကာ ဖွံ့ဖြိုးရေးအဖွဲ့

၄၅။ IFAD – International Fund for Agricultural Development
အပြည်ပြည်ဆိုင်ရာ စိုက်ပျိုးရေးဖွံ့ဖြိုးမှုရန်ပုံငွေအဖွဲ့

၄၆။ IFC – International Finance Cooperation
နိုင်ငံတကာဘဏ္ဍာရေး ပူးပေါင်းဆောင်ရွက်မှုအဖွဲ့

၄၇။ ILO – International Labour Organization
အပြည်ပြည်ဆိုင်ရာ အလုပ်သမားအဖွဲ့ချုပ်

၄၈။ IMF – International Monetary Fund
အပြည်ပြည်ဆိုင်ရာ ငွေကြေးရန်ပုံငွေအဖွဲ့

၄၉။ INTERPOL – International Criminal Police Orginazition
အပြည်ပြည်ဆိုင်ရာ ရာဇဝတ်မှုများ ပူးပေါင်းထိန်းချုပ်ရေးရဲအဖွဲ့

၅၀။ IOM – International Organization for Migration
အပြည်ပြည်ဆိုင်ရာ ရွှေ့ပြောင်းသွားလာသူများအဖွဲ့

၅၁။ IPU – International Parliamentary Union
အပြည်ပြည်ဆိုင်ရာ လွှတ်တော်များသမဂ္ဂ

၅၂။ ITO – International Trade Organization
အပြည်ပြည်ဆိုင်ရာ ကုန်သွယ်ရေးအဖွဲ့

၅၃။ ITU – International Telecommunication Union
နိုင်ငံတကာသတင်းနှင့် ဆက်သွယ်ရေးသမဂ္ဂ

၅၄။ JICA – Japan International Cooperation Agency
ဂျပန်အပြည်ပြည်ဆိုင်ရာ ပူးပေါင်းဆောင်ရွက်ရေးအေဂျင်စီ

၅၅။ LCCI – London Chamber of Commerce and Industry
လန်ဒန်စက်မှုနှင့် စီးပွားကူးသန်းရောင်းဝယ်ရေး ကုန်သည်ကြီးများအသင်း

၅၆။ LUCC – Least Developed Countries Universities Consortium on Climate Change
ရာသီဥတုပြောင်းလဲခြင်းဆိုင်ရာ ဖွံ့ဖြိုးမှုအနည်းဆုံးနိုင်ငံများအတွက် တက္ကသိုလ်များဆိုင်ရာ အတိုင်ပင်ခံအဖွဲ့

၅၇။ MDC (or) MDGS – Millennium Development Goals
ကုလသမဂ္ဂထောင်စုနှစ် ရည်မှန်းချက်ပန်းတိုင်

၅၈။ MHR – Management on Human Resources
လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးရေး စီမံခန့်ခွဲမှု

၅၉။ MSCC – Myanmar Scout Central Committee
မြန်မာနိုင်ငံကင်းထောက်ဗဟိုကော်မတီ

၆၀။ NAM – Non–Aligned Movement
ဘက်မလိုက် လှုပ်ရှားမှုအဖွဲ့

၆၁။ NAFTA – North America Free Trade Agreement
မြောက်အမေရိက လွတ်လပ်သောကုန်သွယ်မှုသဘောတူညီချက်

၆၂။ NASA – National Aeronautics and Space Administration
အမျိုးသားလေကြောင်းနှင့် အာကာသအုပ်ချုပ်ရေးအဖွဲ့(နာဆာ)

၆၃။ NATO – North Atlantic Treaty Organization
မြောက်အတ္တလန္တိတ်စာချုပ်အဖွဲ့(နေတိုး)

၆၄။ OAU – Organization of African Unity
အာဖရိကညီညွတ်ရေးအဖွဲ့

၆၅။ OPEC – Organization of Petroleum Exporting Countries
ရေနံရောင်းနိုင်ငံများအဖွဲ့(အိုပက်)

၆၆။ OHCHR – Office of the High Commissioners for Human Rights
လူ့အခွင့်အရေးဆိုင်ရာ မဟာမင်းကြီးရုံး

၆၇။ SAARC – South Asia Association for Regional Cooperation
တောင်အာရှနိုင်ငံများ ပူးပေါင်းဆောင်ရွက်ရေးအသင်း

၆၈။ SC – Security Council
လုံခြုံရေးကောင်စီ

၆၉။ SEATO – South East Asia Treaty Organization
အရှေ့တောင်အာရှ စာချုပ်အဖွဲ့

၇၀။ SGA – Secretary General of Asean
အာဆီယံ အတွင်းရေးမှူးချုပ်

၇၁။ UDHR – Universal Declaration of Human Rights
ကမ္ဘာ့လူ့အခွင့်အရေးကြေညာစာတမ်း

၇၂။ UMFCCI – Union of Myanmar Federation of Chambers of Commerce and Industry
ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

၇၃။ UNAC – United Nations Atomic Commission
ကုလသမဂ္ဂ အနုမြူကော်မရှင်

၇၄။ UNCC – United Nations Compensation Commission
ကုလသမဂ္ဂ စစ်လျော်ကြေးကော်မရှင်

၇၅။ UNCDF – United Nations Capital Development Fund
ကုလသမဂ္ဂ အရင်းအနှီးဖွံ့ဖြိုးတိုးတက်ရေး ရန်ပုံငွေအဖွဲ့

၇၆။ UNCTAD – United Nations Conference on Trade and Development
ကုလသမဂ္ဂ ကုန်သွယ်ရေးနှင့် ဖွံ့ဖြိုးမှုညီလာခံ

၇၇။ UNDP – United Nations Development Programme
ကုလသမဂ္ဂ ဖွံ့ဖြိုးမှုအစီအစဉ်

၇၈။ UNDCP – United Nations Drug Control Programme
ကုလသမဂ္ဂ မူးယစ်ဆေးဝါးထိန်းချုပ်ရေးအစီအစဉ်

၇၉။ UNDRO – United Nations Disaster Relief Organization
ကုလသမဂ္ဂ ဘေးဒုက္ခကယ်ဆယ်ရေးအဖွဲ့

၈၀။ UNEP – United Nations Enviromental Programme
ကုလသမဂ္ဂ ပတ်ဝန်းကျင်အစီအစဉ်

၈၁။ UNESCO – United Nations Educational, Scientific and Cultural Organization
ကုလသမဂ္ဂ ပညာရေး၊ သိပ္ပံနှင့် ယဉ်ကျေးမှုအဖွဲ့

၈၂။ UNFCCC – United Nations Framework Convention on Climate Change
ရာသီဥတုပြောင်းလဲခြင်းဆိုင်ရာ ကုလသမဂ္ဂ ကွန်ဗင်းရှင်း

၈၃။ UNFPA – United Nations Fund for Population Activities
ကုလသမဂ္ဂ လူဦးရေဆိုင်ရာ လှုပ်ရှားမှုရန်ပုံငွေအဖွဲ့

၈၄။ UNGA – United Nations General Assembly
ကုလသမဂ္ဂ အထွေထွေညီလာခံ

၈၅။ UNHCR – United Nations High Commissioner For Refugees
ကုလသမဂ္ဂ ဒုက္ခသည်များဆိုင်ရာ မဟာမင်းကြီးရုံး

၈၆။ UNICEF – United Nations International Children's Emergency Fund
ကုလသမဂ္ဂ ကလေးများရန်ပုံငွေအဖွဲ့

၈၇။ UNICJ – United Nations International Court of Justice
ကုလသမဂ္ဂ အပြည်ပြည်ဆိုင်ရာတရားရုံး

၈၈။ UNIDO – United Nations Industrial Development Organization
ကုလသမဂ္ဂ စက်မှုဖွံ့ဖြိုးရေးအဖွဲ့

၈၉။ UNIDR – United Nations Institute for Disarmament Research
ကုလသမဂ္ဂ လက်နက်ဖျက်သိမ်းရေး သုတေသနသိပ္ပံ

၉၀။ UNPROFOR – United Nations Protection Forces
ကုလသမဂ္ဂ ကာကွယ်ရေးတပ်ဖွဲ့

၉၁။ UNRISD – United Nations Research Instiute for Social Development
ကုလသမဂ္ဂ လူမှုရေးဖွံ့ဖြိုးတိုးတက်မှု သုတေသနသိပ္ပံ

၉၂။ UNRRA – United Nations Relief and Rehabilitation Administration
ကုလသမဂ္ဂကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေး အုပ်ချုပ်မှုအဖွဲ့

၉၃။ UNRWA – United Nations Relief and Work Agency
ကုလသမဂ္ဂ ကယ်ဆယ်ရေးနှင့် လုပ်ငန်းများ ဆောင်ရွက်ရေးအဖွဲ့

၉၄။ UNS – United Nations Secretariat
ကုလသမဂ္ဂ အထွေထွေအတွင်းရေးမှူးချုပ်ရုံး

၉၅။ UNTC – United Nations Trusteeship Council
ကုလသမဂ္ဂ ထိန်းသိမ်းရေးကောင်စီ

၉၆။ UNSC – United Nations Security Council
ကုလသမဂ္ဂ လုံခြုံရေးကောင်စီ

၉၇။ UPU – Universal Postal Union
ကမ္ဘာ့စာပို့သမဂ္ဂ

၉၈။ UPR – Universal Periodic Review
ကမ္ဘာ့နိုင်ငံအားလုံး၏ လူ့အခွင့်အရေး အခြေအနေကို ပုံမှန်သုံးသပ်သည့် လုပ်ငန်းစဉ်

၉၁။ UNPF – United Nations Peace Keeping Force
ကုလသမဂ္ဂ ဘေးဒုက္ခကယ်ဆယ်ရေးအဖွဲ့

၉၂။ UN – United Nations
ကမ္ဘာ့ကုလသမဂ္ဂ

၉၃။ UNITAR – United Nations Institude for Training & Research
ကုလသမဂ္ဂ လေ့ကျင့်ရေးနှင့် သုတေသနသိပ္ပံ(ယူနီတာ)

၉၄။ UNICEF – United Nations International Children Emergency Fund
ကုလသမဂ္ဂ အပြည်ပြည်ဆိုင်ရာ ကလေးများ အရေးပေါ် ရန်ပုံငွေအဖွဲ့

၉၅။ UNCDF – United Nations Capital Development Fund
ကုလသမဂ္ဂ အရင်းအနှီးဖွံ့ဖြိုးတိုးတက်ရေး ရန်ပုံငွေအဖွဲ့

၉၆။ UNIFAD – United Nations International Funds for Agricultural Development
အပြည်ပြည်ဆိုင်ရာ စိုက်ပျိုးရေးဖွံ့ဖြိုးမှု ရန်ပုံငွေအဖွဲ့

၉၇။ UNIFEM – United Nations Settlement Fund for Women
ကုလသမဂ္ဂ အမျိုးသမီးများ ဖွံ့ဖြိုးရေးရန်ပုံငွေအဖွဲ့(ယူနီဖမ်း)

၉၈။ UNV – United Nations Volunteers
ကုလသမဂ္ဂ စေတနာ့ဝန်ထမ်းအစီအစဉ်

၉၉။ UNODC – United Nations Organization of Drug and Crime
ကုလသမဂ္ဂဆိုင်ရာ မူးယစ်ဆေးဝါးနှင့် ရာဇဝတ်မှုထိန်းချုပ်ရေးအဖွဲ့

၁၀၀။ UNOPS – United Nations Office for Project Services
ကုလသမဂ္ဂစီမံကိန်း ဝန်ဆောင်မှုရုံး

၁၀၁။ UEFA – Union of European Football Associations
ဥရောပဘောလုံးသမဂ္ဂ

၁၀၂။ WB – World Bank
ကမ္ဘာ့ဘဏ်

၁၀၃။ WHO – World Health Organization
ကမ္ဘာ့ကျန်းမာရေးအဖွဲ့ချုပ်

၁၀၄။ WMO – World Meteorological Organization
ကမ္ဘာ့မိုးလေဝသအဖွဲ့ချုပ်

၁၀၅။ WTC – World Trade Center
ကမ္ဘာ့ကုန်သွယ်မှုဌာန

၁၀၆။ WTO – World Trade Organization
ကမ္ဘာ့ကုန်သွယ်ရေးအဖွဲ့

၁၀၇။ WIBF – World International Boxing Federation
နိုင်ငံတကာလက်ဝှေ့အဖွဲ့ချုပ်

၁၀၈။ WWW – World Wide Web

၁၀၉။ IBRD – International Bank for Reconstruction & Development
နိုင်ငံတကာပြန်လည်ထူထောင်ရေးနှင့်ဖွံ့ဖြိုးရေးဘဏ်

၁၁၀။ MIGA – The Multilateral Invesment Guarantee Agency
နိုင်ငံရင်းနှီးမြှုပ်နှံမှု အာမခံအေဂျင်စီ

၁၁၁။ ICSID – The International Center for Settlement of Invesment Disputes
နိုင်ငံတကာရင်းနှီးမြှုပ်နှံမှု အငြင်းပွားမှုများ ဖြေရှင်းရေးအဖွဲ့ (အိုင်စီအက်စ်အိုင်ဒီ)

၁၁၂။ IMO – International Maritime Organization
နိုင်ငံတကာကုန်သွယ်ရေး ရေကြောင်းအဖွဲ့

၁၁၃။ ITU – International Telecommunication Union
နိုင်ငံတကာကြေးနန်း ဆက်သွယ်ရေးသမဂ္ဂ

၁၁၄။ WIPO – World Intellectual Property Organization
ကမ္ဘာ့အသိဉာဏ်ပိုင်ဆိုင်မှု

၁၁၅။ CARICOM – Caribbean Community and Common Market
ကာရစ်ဘီယံ ဓနသဟာယနှင့် ဘုံဈေးအဖွဲ့(ကာရီကွန်)

၁၁၆။ OAS – Organization of American States
အမေရိကန်နိုင်ငံများအဖွဲ့(အိုအေအက်စ်)

၁၁၇။ OSCE – Organization of Security and Cooperation in Europe
ဥရောပလုံခြုံရေးနှင့်ပူးပေါင်းဆောင်ရွက်ရေးအဖွဲ့

## ကုလသမဂ္ဂ၏ ထောင်စုနှစ်ရည်မှန်းချက်
## Millennium Development Goals

၁။ အလွန်အမင်းဆင်းရဲမှုနှင့် ငတ်မွတ်မှုတို့ကို ဖယ်ရှားရန်
To eradicate poverty and hunger

၂။ ကမ္ဘာ့အခြေခံပညာရေးအဆင့်သို့ ရောက်ရှိစေရေး
Universal Education

၃။ ကျား/မအခွင့်အရေး တန်းတူညီမျှမှုနှင့် အမျိုးသမီးများလုပ်ပိုင်ခွင့်တိုးမြှင့်စေရေး
To promote gender equality and empower women

၄။ ကလေးသူငယ်သေဆုံးနှုန်း လျှော့ချရေး
To improve maternal health

၅။ ကိုယ်ဝန်ဆောင်မိခင်များ၏ကျန်းမာရေး တိုးတက်စေရေး
Maternal Health

၆။ HIV / AIDS ရောဂါ၊ ငှက်ဖျားရောဂါနှင့် အခြားရောဂါများတိုက်ဖျက်ရန်
To combact HIV/AIDS, malaria and other diseases

၇။ သဘာဝပတ်ဝန်းကျင်တည်တံ့မှု ရရှိစေရေး
To ensure environmental sustainability

၈။ ဖွံ့ဖြိုးမှုအတွက် တစ်ကမ္ဘာလုံးဆိုင်ရာ ပူးပေါင်းဆောင်ရွက်မှုတည်ဆောက်ရန်
To develop a global partnership for development

## ကုလသမဂ္ဂစာတတ်မြောက်ရေးဆယ်စုနှစ်ရည်မှန်းချက် (၇)ရပ်

၁။ စာမတတ်သူ ပြည်သူတစ်ရပ်လုံး စာတတ်မြောက်လာစေရန်
၂။ အတွေးအခေါ်သစ်များနှင့် မှန်ကန်သောသဘောထားများကို ပိုမိုရင့်သန်လာစေရန်
၃။ လူ့ဘဝအမြင်ပိုမိုကျယ်ပြန့်လာစေရန်
၄။ ရပ်ရွာလူမှုရေးလုပ်ငန်းများတွင် ပိုမိုတက်ကြွစွာပါဝင်လာစေရန်
၅။ ကုန်ထုတ်လုပ်ငန်းနှင့် လူနေမှုအဆင့်အတန်း ပိုမိုမြင့်မားလာစေရန်

၆။ ပြည်သူတစ်ရပ်လုံး၏ ပညာရေးအဆင့်အတန်း ပိုမိုမြင့်မားလာစေရန်
၇။ နိုင်ငံတော်၏စီးပွားရေး၊ လူမှုရေးဖွံ့ဖြိုးတိုးတက်မှုလုပ်ငန်းများတွင် အထောက်အပံ့ဖြစ်စေရန်

## ကုလသမဂ္ဂ၏ စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်မှု ရည်မှန်းချက်ပန်းတိုင် (၁၇)ချက်

၁။ နေရာတိုင်း၌ ဆင်းရဲမှုအမျိုးမျိုးကို အဆုံးသတ်ရန်၊
၂။ ငတ်မွတ်မှုကို အဆုံးသတ်ရန်၊ စားနပ်ရိက္ခာဖူလုံမှုနှင့် အာဟာရပိုမိုပြည့်ဝမှု ရှိရန်နှင့် စဉ်ဆက်မပြတ် တိုးတက်မှုရှိသည့် စိုက်ပျိုးရေးကို မြှင့်တင်ရန်၊
၃။ ကျန်းမာသောဘဝများကို ပိုင်ဆိုင်မှုရရှိရန်နှင့် အသက်အရွယ်အားလုံးအတွက် သာယာဝပြောမှု တိုးမြှင့်ရန်၊
၄။ လူတိုင်းတက်ရောက်သင်ကြားနိုင်ပြီး အရည်အသွေးတူညီမျှတမှုရှိသည့် ပညာရေးကို ရရှိရန်နှင့် လူတိုင်းအတွက် တစ်သက်တာ ပညာသင်ကြားနိုင်သည့် အခွင့်အလမ်းများ တိုးမြှင့်ရန်၊
၅။ ကျား၊ မ တန်းတူညီတူရှိမှု ရရှိရန်နှင့် အမျိုးသမီးများနှင့် အမျိုးသမီးငယ်များ အားလုံးကို စွမ်းဆောင်ရည် မြှင့်တင်ပေးရန်၊
၆။ လူတိုင်းအတွက် ရေနှင့် သန့်ရှင်းမှုရရှိရန်နှင့် ထိုသို့ရရှိရန်အတွက် စဉ်ဆက်မပြတ် စီမံခန့်ခွဲမှုရှိရန်၊
၇။ လူတိုင်းကုန်ကျစရိတ် သက်သာကာ ယုံကြည်အားထားလောက်ပြီး စဉ်ဆက်မပြတ် ရေရှည်သုံးစွဲနိုင်သော ခေတ်မီစွမ်းအင်ရရှိရန်၊
၈။ ရေရှည်ထိန်းသိမ်းထားနိုင်ပြီး အားလုံးပါဝင်သည့် စဉ်ဆက်မပြတ် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုနှင့် လူတိုင်းအတွက် စွမ်းအားအပြည့်ဖြင့် ကုန်ထုတ်လုပ်မှု စွမ်းအားမြင့်မားသော အလုပ်အကိုင်နှင့် ကောင်းမွန်သော အလုပ်အကိုင် ရရှိရန်၊
၉။ ကြံ့ခိုင်မှုရှိသော အခြေခံအဆောက်အဦများ တည်ဆောက်ရန်၊ အားလုံးပါဝင်ပြီး စဉ်ဆက်မပြတ် တိုးတက်မှုရှိသည့် စက်မှုလုပ်ငန်းထွန်းကားမှုကို မြှင့်တင်ရန်နှင့် တီထွင်ဆန်းသစ်မှု ထွန်းကားရန်၊
၁၀။ ပြည်တွင်း၌လည်းကောင်း၊ နိုင်ငံများအကြား၌လည်းကောင်း မညီမျှမှုများကို လျှော့ချရန်၊

၁၁။ မြို့ကြီးများနှင့် လူသားများ အခြေချနေထိုင်မှုများကို အားလုံးပါဝင်ပြီး ဘေးကင်းလုံခြုံကြံ့ခိုင်၍ ရေရှည်တည်တံ့မှုရှိစေရန်၊

၁၂။ ရေရှည်စဉ်ဆက်မပြတ်စားသုံးမှုနှင့် ထုတ်လုပ်မှုလုပ်ငန်းစဉ်များ ဖြစ်စေရန်

၁၃။ ရာသီဥတုပြောင်းလဲခြင်းနှင့် ၎င်း၏ အကျိုးဆက်များကို တိုက်ဖျက်ရေး အတွက် အရေးပေါ်ဆောင်ရွက်ရန်၊

၁၄။ စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်မှုအတွက် သမုဒ္ဒရာများ၊ ပင်လယ်များနှင့် အဏ္ဏဝါအရင်းအမြစ်များကို ထိန်းသိမ်းစောင့်ရှောက်ရန်နှင့် ချွေတာစွာသုံးစွဲရန်၊

၁၅။ ကမ္ဘာ့သဘာဝဂေဟစနစ်များ (Terrestrial Ecosystem) ကို ကာကွယ် ထိန်းသိမ်း၍ စဉ်ဆက်မပြတ် ရေရှည်သုံးစွဲနိုင်မှုကို မြှင့်တင်ရန်၊ သစ်တော များ ရေရှည်ခံမှုအတွက် စီမံခန့်ခွဲရန်၊ မြေဆီလွှာဆုံးရှုံးမှုကို ရပ်တန့်ရန်၊ မြေဆီလွှာအရည်အသွေး ပြန်လည်ကောင်းမွန်လာရေးအတွက် ဆောင်ရွက် ရန်နှင့် ဇီဝ မျိုးကွဲ ဆုံးရှုံးမှုကို ရပ်တန့်ရန်၊

၁၆။ စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်ရေးအတွက် ငြိမ်းချမ်းပြီး အားလုံးပါဝင် သော လူမှုအသိုက်အဝန်းများ တိုးမြှင့်ရန်၊ လူတိုင်းအတွက် မျှတစွာတရား စီရင်မှု ရရှိစေရန်နှင့် ထိရောက်၍ ယုံကြည်အားထားလောက်သော မျှတစွာ တရားစီရင်မှု ရရှိစေရန်နှင့် ထိရောက်၍ ယုံကြည်အားထားလောက်ကာ အားလုံးပါဝင်သော အဖွဲ့အစည်းများကို အဆင့်အသီးသီး၌ တည်ထောင်ရန်၊

၁၇။ အကောင်အထည်ဖော်မှုနည်းလမ်းများ (Means of Implementation)ကို တိုးတက်ခိုင်မာစေရန်နှင့် စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်မှုအတွက် ကမ္ဘာလုံး ဆိုင်ရာ မိတ်ဖက်ပူးပေါင်းဆောင်ရွက်မှုကို ပြန်လည်ရှင်သန်လာစေရန်။

## သံတမန်ကြီးတို့၌ ထားရှိရမည့် အင်္ဂါ (၆) ပါး

၁။ ပညာဝါ - ပညာဉာဏ်ရှိခြင်း
၂။ ဝါကျဆေက - စကားတတ်ရခြင်း
၃။ သူရ - ရဲရင့်သတ္တိရှိရခြင်း
၄။ ပရစိတ္တဇာန - သူတစ်ပါးစိတ်ထားကိုသိတတ်ရခြင်း
၅။ ဒန္တ - ယဉ်ကျေးသိမ်မွေ့ခြင်း
၆။ ပဋိဝါကျ - သူဆိုတင်သောစကားကိုပြန်လည်ချေပဆိုနိုင်ရခြင်း

**သံတမန်အင်္ဂါ (၈) ပါး**

၁။ အရှင်ပြောကြားလိုက်သောစကားကို အကင်းပါးစွာသိကြားလွယ်ခြင်း
၂။ အရှင်ပြောကြားလိုက်သောစကားကို လုံးစေ့ပတ်စေ့ပြန်ဆိုတင်ပြနိုင်ခြင်း
၃။ အားထုတ်၍ မှတ်သားလေ့လာခြင်း
၄။ ဆိုတိုင်းမှန်ကန်ခိုင်မြဲစွာ အောင်နိုင်ခြင်း
၅။ အနက်အဓိပ္ပာယ်အရိပ်အကဲသိခြင်း
၆။ သူတစ်ပါးအား ကြားသိနားလည်အောင် ပြောတတ်ခြင်း
၇။ အကျိုးရှိမည်? မရှိမည်ကို ဝေဖန်တတ်ခြင်း
၈။ ငြင်းခုန်ခိုက်ရန် ဆန့်ကျင်မှုမပြုခြင်း

**သံလွှတ်ရာ (၄) ပါး**

၁။ သူ့ကိုကား နိုင်နင်းလို၍ စေလွှတ်ရခြင်းလည်းတစ်ပါး
၂။ သူက စစ်မက်ပြုလာအံ့သို့ထင်၍ ခြင်းရာနူးညံ့စမ်းလို့သောငှာ စေလွှတ်ခြင်းလည်းတစ်ပါး
၃။ သူ့ကိုကြောက်ရွံ့ခန့်ညားစေလို၍ စေလွှတ်ခြင်းလည်းတစ်ပါး
၄။ သူ့ပြည်သူ့ရပ်၌ဖြစ်သော အထူးအဆန်းသနစ်တို့ကိုသိလို၍ ရောင်းဝယ်ဖောက်ကားသင့်တင့်ကြောင်းကို စေလွှတ်ခြင်းလည်းတစ်ပါး

**သံတမန်၏ လုပ်ငန်းတာဝန်များ**

၁။ စေလွှတ်သည့်နိုင်ငံအတွက် ကိုယ်စားပြုရန်

၂။ လက်ခံသောနိုင်ငံ၏ ဥပဒေဘောင်အတွင်းမှ စေလွှတ်သည့်နိုင်ငံနှင့် ယင်းနိုင်ငံသားတို့၏ အကျိုးစီးပွားကို ကာကွယ်စောင့်ရှောက်ရန်

၃။ စေလွှတ်သည့်နိုင်ငံကိုယ်စား လက်ခံသည့်နိုင်ငံနှင့်စေ့စပ်ညှိနှိုင်းဆွေးနွေးရန်

၄။ လက်ခံသည့်နိုင်ငံနှင့်ပတ်သက်၍အရေးကြီးသည့်ဖြစ်ရပ်များကိုဥပဒေဘောင်အတွင်းမှ စိစစ်စူးစမ်း လေ့လာသုံးသပ်ပြီး စေလွှတ်သောနိုင်ငံ အစိုးရထံသို့ သတင်းပို့အစီရင်ခံရန်

၅။ နှစ်နိုင်ငံချစ်ကြည်ရေး တိုးတက်ကောင်းမွန်ရေးအတွက် ဆောင်ရွက်ပေးရန်

**သံတမန်အခွင့်အရေးများနှင့် ကင်းလွတ်ခွင့်**

၁။ ပုဂ္ဂိုလ်အရထိပါးခြင်းမှ ကင်းလွတ်ခွင့်

၂။ တရားရုံးမှအုပ်ချုပ်ရေးစီရင်ပိုင်ခွင့်အာဏာမှကင်းလွတ်ခွင့်

၃။ လောကဝတ်အရခွင့်ပြုသည့် အခွင့်အရေးများ

**စံပြသံတမန်တစ်ယောက်၏အရည်အချင်းများ**

၁။ **မှန်** – မှန်ကန်သောစကားကိုသာဆိုခြင်း(Truthfulness)

၂။ **တိ** – တိကျသေချာခြင်း(Accuracy)

၃။ **တည်** – တည်ငြိမ်ခြင်း(Calm)

၄။ **စိတ်** – စိတ်ရှည်ဖွဲ့ကောင်းခြင်း(Patience)

၅။ **နှစ်** – နှစ်လိုဖွယ်၊ ခင်မင်ဖွယ်ရှိခြင်း(Good Temper)

၆။ **နှိမ့်** – နှိမ့်ချသောစိတ်ထားရှိခြင်း(Modesty)

၇။ **သစ်** – သစ္စာစောင့်သိခြင်း(Loyalty)

**သံတမန်များ လိုက်နာရန် အချက် (၉) ချက်**

၁။ ရိုးသားပါ(Be Honest)

၂။ အားကိုးထိုက်ပါစေ(Be Reliable)

၃။ တစ်ဖက်သားအားနားလည်ပါ(Be Understanding)

၄။ အတင်းအကျပ်အနိုင်မယူပါနှင့်(Be Gentle)

၅။ မထောင်လွှားပါနှင့်(Be Modest)

၆။ လိုက်လျောညီထွေကျင့်ပါ(Be Accomodating)

၇။ လေးစားဖွယ်ဖြစ်ပါစေ(Be Respectable)

၈။ ချင့်ချိန်နိုင်းဆနိုင်ပါစေ(Be Wise)
၉။ အစဉ်သတိရှိပါ(Be Alert)

**သားကောင်းတမန်၏ဂုဏ်ရည်**

၁။ ရိုးသားဖြောင့်မတ်တည်ကြည်သော စိတ်သဘောထားရှိရမည်။
၂။ အပေါ်ယံဟန်ဆောင်မှုကင်းပြီး ပကတိဖြူစင်သောစိတ်ထားဖြင့် လူတကာကို ဆက်ဆံတတ်ရမည်။
၃။ သပ်ရပ်သောဝတ်စားဆင်ယင်မှု၊ လိမ္မာယဉ်ကျေး၍ မြို့ကြီးသားပီသသော အမူအရာနှင့်သိမ်မွေ့ပျူငှာသော ပြောဆိုဆက်ဆံမှုရှိရမည်။
၄။ တစ်မုဟုတ်ချင်း ဒေါသထွက်ခြင်း၊ စိတ်ဆိုးမာန်ဆိုးဖြင့် တုံ့ပြန်ခြင်းတို့ကို ရှောင်ရှားနိုင်ရမည်။
၅။ မာန်မာနထောင်လွှားမှုကင်းရမည်။
၆။ ယဉ်ကျေးသော အသုံးအနှုန်းနှင့်စကားပရိယာယ်ကြွယ်ရမည်။
၇။ တစ်ဖက်သား၏ အခြေခံရပ်တည်ချက်နှင့်အတွင်းသားစိတ်ခံစားချက်ကို သိရှိအကဲခတ်နိုင်သည့် အကင်းပါးမှုရှိရမည်။
၈။ စကားပြောဆိုရာတွင် “ငါ့စကားနွားရ” ဟူသော သဘောဖြင့် စကားနိုင်ပြောဆိုမှုကို ရှောင်ကြဉ်ရမည်။
၉။ ဗဟုသုတအကြားအမြင်နှင့်ပြည့်စုံရမည်။
၁၀။ Debating Skill နှင့် ပြည့်စုံရမည်။
၁၁။ တူညီသောအခြေခံရပ်တည်ချက်တစ်ရပ်ကို ရှာဖွေတည်ရှိပြီး ထိုမှတစ်ဆင့် ကွာဟချက်များ တဖြည်းဖြည်းကျဉ်းမြောင်းယူသော သံရေးတမန်ရေးနည်းနာကို ကျွမ်းကျင်ရမည်။
၁၂။ အလွန်အကျွံ မူးယစ်သောက်စားခြင်းနှင့် အပျော်အပါးလိုက်စားခြင်းမှ ရှောင်ရှားနိုင်ရမည်။
၁၃။ ယဉ်ကျေးသိမ်မွေ့စွာနှင့် အဆင့်အတန်းမီစွာ ညှိ့ဝတ်ကျေပွန်မှုရှိရမည်။
၁၄။ မိမိနိုင်ငံတော်အပေါ် အထင်အမြင်သေးသိမ်စေနိုင်သည့် ပြောဆိုဆက်ဆံမှု၊ ဝတ်စားဆင်ယင်မှု၊ တည်ခင်းညှိ့ခံမှု၊ နေထိုင်ခင်းကျင်းမှုတို့ကို အစဉ်ရှောင်ရှားပြီး နိုင်ငံကြီးသားပီသစွာ နိုင်ငံတော်၏ဂုဏ်နှင့်လျော်ညီစွာ ပြောဆိုဆက်ဆံခြင်း၊ ဝတ်စားဆင်ယင်ခြင်း၊ ပရိဘောဂခင်းကျင်းခြင်း၊ ညှိ့ခံကျွေးမွေးခြင်းတို့ကို ပြုလုပ်ရပါမည်။

**မြန်မာ့သမိုင်းဝင် အမျိုးသမီးသံအမတ်ကြီးများ**

၁။ ဒေါ်ခင်ကြည် (ဗိုလ်ချုပ်အောင်ဆန်းဇနီး)

၂။ ဒေါ်ယဉ်ယဉ်မြင့် (ညွှန်ကြားရေးမှူးချုပ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန)

၃။ ဒေါ်မော်မော် (ညွှန်ကြားရေးမှူးချုပ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန)

၄။ ဒေါ်အိအိခင်ဇ (ညွှန်ကြားရေးမှူးချုပ်၊ နိုင်ငံခြားရေးဝန်ကြီးဌာန)

**နိုင်ငံခြားရေးဝန်ကြီးဌာနတွင် တာဝန်ထမ်းဆောင်ခဲ့သည့် ဝန်ကြီးများ**

| စဉ် | အမည် | မှ | ထိ |
|---|---|---|---|
| ၁။ | ဗိုလ်ချုပ်အောင်ဆန်း | ၁၇-၃-၁၉၄၇ | ၁၉-၇-၁၉၄၇ |
| ၂။ | ဦးနု | ၂၀-၇-၁၉၄၇ | ၁-၈-၁၉၄၇ |
| ၃။ | ဦးလွန်းဘော် | ၂-၈-၁၉၄၇ | ၃၀-၁၀-၁၉၄၇ |
| ၄။ | ဦးတင်ထွဋ် | ၃၀-၁၀-၁၉၄၇ | ၁၆-၈-၁၉၄၈ |
| ၅။ | ဦးကျော်ငြိမ်း | ၁၄-၉-၁၉၄၈ | ၃၁-၃-၁၉၄၉ |
| ၆။ | သခင်နု | ၁-၄-၁၉၄၉ | ၄-၄-၁၉၄၉ |
| ၇။ | ဦးအေးမောင် | ၅-၄-၁၉၄၉ | ၂၀-၁၂-၁၉၄၉ |
| ၈။ | စပ်ခွန်ချို | ၂၀-၁၂-၁၉၄၉ | ၂၈-၁၀-၁၉၅၈ |
| ၉။ | ဦးသိန်းမောင် | ၂၉-၁၀-၁၉၅၈ | ၁၃-၂-၁၉၅၉ |
| ၁၀။ | ဦးချန်ထွန်းအောင် | ၂၇-၂-၁၉၅၉ | ၃-၄-၁၉၆၀ |
| ၁၁။ | စပ်ခွန်ချို | ၄-၄-၁၉၆၀ | ၁-၃-၁၉၆၂ |
| ၁၂။ | ဦးသီဟန် | ၂-၃-၁၉၆၂ | ၁၈-၆-၁၉၆၉ |
| ၁၃။ | ဒေါက်တာမောင်လွင် | ၁၉-၆-၁၉၆၉ | ၄-၈-၁၉၇၀ |
| ၁၄။ | ဒေါက်တာလှဟန် | ၄-၈-၁၉၇၀ | ၂၀-၄-၁၉၇၂ |
| ၁၅။ | ဦးကျော်စိုး | ၂၀-၄-၁၉၇၂ | ၁-၃-၁၉၇၄ |
| ၁၆။ | ဦးလှဘုန်း | ၂-၄-၁၉၇၄ | ၃-၃-၁၉၇၈ |
| ၁၇။ | ဦးမြင့်မောင် | ၃-၃-၁၉၇၈ | ၁၈-၃-၁၉၈၀ |
| ၁၈။ | ဦးလေးမောင် | ၁၉-၃-၁၉၈၀ | ၉-၁၁-၁၉၈၀ |
| ၁၉။ | ဦးချစ်လှိုင် | ၉-၁၁-၁၉၈၁ | ၄-၁၁-၁၉၈၅ |
| ၂၀။ | ဦးရဲခေါင် | ၄-၁၁-၁၉၈၅ | ၁၈-၉-၁၉၈၈ |

| | | | |
|---|---|---|---|
| ၂၁။ | ဗိုလ်ချုပ်မှူးကြီးစောမောင် | ၂၀-၉-၁၉၈၈ | ၁၇-၉-၁၉၉၁ |
| ၂၂။ | ဦးအုံးကျော် | ၁၈-၉-၁၉၉၁ | ၁၄-၁၁-၁၉၉၈ |
| ၂၃။ | ဦးဝင်းအောင် | ၁၄-၁၁-၁၉၉၈ | ၁၈-၉-၁၉၈၈ |
| ၂၄။ | ဦးဉာဏ်ဝင်း | ၁၈-၉-၂၀၀၄ | ၃၁-၃-၂၀၁၁ |
| ၂၅။ | ဦးဝဏ္ဏမောင်လွင် | ၃၁-၃-၂၀၁၁ | ၃၁-၃-၂၀၁၆ |
| ၂၆။ | ဒေါ်အောင်ဆန်းစုကြည် | ၃၀-၃-၂၀၁၆ | လက်ရှိကာလအထိ |

**ပြည်ဝင်ဗီဇာစနစ်သစ် (၁၂) မျိုးနှင့် ပြည်ပြန်ဝင်ခွင့်ဗီဇာ (၃) မျိုး**

| စဉ် | ဗီဇာအမျိုးအစား | အခကြေး | နေခွင့် |
|---|---|---|---|
| ၁။ | သံတမန်/သံအဖွဲ့ဝင်ဗီဇာ (Gratis Diplomatic/Offical Countesy Visa) | အခမဲ့ | တာဝန်ထမ်းဆောင်ကာလ |
| ၂။ | နိုင်ငံတကာအဖွဲ့အစည်းများဗီဇာ (Offical Visa) | | |
| ၃။ | ကမ္ဘာလှည့်ဗီဇာ (Tourist Visa) | US$ ၄၀ | ၂၈ ရက် |
| ၄။ | လုပ်ငန်းဗီဇာ (Business Visa – Single) | US$ ၅၀ | ၇၀ ရက် |
| ၅။ | လုပ်ငန်းဗီဇာ(Business Visa – Multiple) | US$ ၂၀၀ | ၃ လ |
| ၆။ | လုပ်ငန်းဗီဇာ(Business Visa – Multiple) | US$ ၄၀၀ | ၆ လ |
| ၇။ | လုပ်ငန်းဗီဇာ (Business Visa – Multiple) | US$ ၆၀၀ | ၁ နှစ် |
| ၈။ | အလုပ်သမားဗီဇာ (Employmentm Visa) | US$ ၅၀ | ၇၀ ရက် |
| ၉။ | လူမှုရေးဗီဇာ (Social Visa – Single) | US$ ၅၀ | ၇၀ ရက် |
| ၁၀။ | လူမှုရေးဗီဇာ (Social Visa – Multiple) | US$ ၁၅၀ | ၃ လ |
| ၁၁။ | လူမှုရေးဗီဇာ (Social Visa – Multiple) | US$ ၃၀၀ | ၆ လ |
| ၁၂။ | လူမှုရေးဗီဇာ (Social Visa – Multiple) | US$ ၄၅၀ | ၁ နှစ် |
| ၁၃။ | သာသနာရေးဗီဇာ (Religious Visa – Single) | US$ ၅၀ | ၇၀ ရက် |
| ၁၄။ | သာသနာရေးဗီဇာ (Religious Visa – Multiple) | US$ ၁၅၀ | ၃ လ |
| ၁၅။ | သာသနာရေးဗီဇာ (Religious Visa – Multiple) | US$ ၃၀၀ | ၆ လ |
| ၁၆။ | သာသနာရေးဗီဇာ (Religious Visa – Multiple) | US$ ၄၅၀ | ၁ နှစ် |
| ၁၇။ | ပညာရေးဗီဇာ (Education Visa – Single) | US$ ၅၀ | ၉၀ ရက် |
| ၁၈။ | ပညာရေးဗီဇာ (Education Visa – Multiple) | US$ ၁၆၀ | ၁ နှစ် |

| | | | |
|---|---|---|---|
| ၁၉။ | စာနယ်ဇင်း/မီဒီယာဗီဇာ(Journalist Visa) | US$ ၄၀ | ၂၈ ရက် |
| ၂၀။ | ယာဉ်အမှုထမ်းဗီဇာ (Crew Visa – Single) | US$ ၅၀ | ၉၀ ရက် |
| ၂၁။ | ယာဉ်အမှုထမ်းဗီဇာ (Crew Visa – Multiple) | US$ ၁၆၀ | ၂ နှစ် |
| ၂၂။ | အလုပ်ရုံ/ဆွေးနွေးပွဲ/အစည်းအဝေး/ သုတေသနဗီဇာ (Worlshop/Semiar/Meeting/Research Visa) | US$ ၄၀ | ၂၈ ရက် |
| ၂၃။ | ဖြတ်သန်းဗီဇာ(Transit Visa) | US$ ၂၀ | ၂၄ နာရီ |

**ပြည်ပြန်ဝင်ခွင့်ဗီဇာ (Re–entry Visa) (၃) မျိုး (ယခင်အတိုင်းသာ)**

| စဉ် | ဗီဇာအမျိုးအစား | အခကြေး | နေခွင့် |
|---|---|---|---|
| ၁။ | အကြိမ်ကြိမ်အထူးပြည်ပြန်ဝင်ခွင့်ဗီဇာ (Multiple Journey Special Re–entry Visa) | US$ ၁၈၀ | ခွင့်ပြုကာလ |
| ၂။ | အထူးပြည်ပြန်ဝင်ခွင့်ဗီဇာ(သို့မဟုတ်)တစ်ကြိမ် ပြည်ပြန်ဝင်ခွင့်ဗီဇာ (Special Re–entry Visa) | US$ ၅၄ | ခွင့်ပြုကာလ |
| ၃။ | ပြည်ပြန်ဝင်ခွင့်ဗီဇာ (Re–entry Visa) (ပြည်တွင်း၌ နေထိုင်သည့်အမြဲနေ အရည်အချင်းရှိ နိုင်ငံခြားသားများအတွက်သာ) | ၅၀၀၀ကျပ် | ခွင့်ပြုကာလ (၆)လ |

## မြန်မာနိုင်ငံနှင့် သံတမန်ဆက်သွယ်ထားသော နိုင်ငံများ (၁၉၄၇ ခုနှစ်မှ ၃၁–၇–၂၀၁၉ အထိ)

| စဉ် | နိုင်ငံအမည် | သံတမန်ဆက်သွယ်မှုသည့်နေ့ရက် |
|---|---|---|
| ၁။ | ဗြိတိန်နိုင်ငံ | ၇–၇–၁၉၄၇ |
| ၂။ | ပါကစ္စတန်နိုင်ငံ | ၁–၈–၁၉၄၇ |
| ၃။ | အမေရိကန်နိုင်ငံ | ၁၉–၉–၁၉၄၇ |
| ၄။ | နယ်သာလန်နိုင်ငံ | ၂၂–၁၂– ၁၉၄၇ |
| ၅။ | အိန္ဒိယနိုင်ငံ | ၄–၁–၁၉၄၈ |
| ၆။ | ရုရှားနိုင်ငံ | ၁၈–၂–၁၉၄၈ |
| ၇။ | ပြင်သစ်နိုင်ငံ | ၂၈–၂–၁၉၄၈ |
| ၈။ | ထိုင်းနိုင်ငံ | ၂၄–၈–၁၉၄၈ |
| ၉။ | သီရိလင်္ကာနိုင်ငံ | ၇–၆–၁၉၄၉ |

| | | |
|---|---|---|
| ၁၀။ | အင်ဒိုနီးရှားနိုင်ငံ | ၂၇-၁၂-၁၉၄၉ |
| ၁၁။ | တရုတ်နိုင်ငံ | ၈-၆-၁၉၅၀ |
| ၁၂။ | အီတလီနိုင်ငံ | ၂၄-၁၁-၁၉၅၀ |
| ၁၃။ | ဆားဗီးယားနိုင်ငံ | ၂၉-၁၂-၁၉၅၀ |
| ၁၄။ | သြစတြီးယားနိုင်ငံ | ၉-၇-၁၉၅၃ |
| ၁၅။ | အစ္စရေးနိုင်ငံ | ၁၃-၇-၁၉၅၃ |
| ၁၆။ | သြစတြေးလျနိုင်ငံ | ၁-၈-၁၉၅၃ |
| ၁၇။ | အီဂျစ်နိုင်ငံ | ၈-၈-၁၉၅၃ |
| ၁၈။ | ဘယ်လ်ဂျီယံနိုင်ငံ | ၁၉၅၃ |
| ၁၉။ | ဂျာမနီနိုင်ငံ | ၃-၈-၁၉၅၄ |
| ၂၀။ | ဖင်လန်နိုင်ငံ | ၂၂-၇-၁၉၅၄ |
| ၂၁။ | ဂျပန်နိုင်ငံ | ၁-၁၂-၁၉၅၄ |
| ၂၂။ | ဒိန်းမတ်နိုင်ငံ | ၂၂-၄-၁၉၅၅ |
| ၂၃။ | လာအိုနိုင်ငံ | ၁၂-၇-၁၉၅၅ |
| ၂၄။ | ကမ္ဘောဒီးယားနိုင်ငံ | ၁၂-၇-၁၉၅၅ |
| ၂၅။ | ပိုလန်နိုင်ငံ | ၁၁-၁၁-၁၉၅၅ |
| ၂၆။ | ဘူလ်ဂေးရီးယားနိုင်ငံ | ၁၈-၁၁-၁၉၅၅ |
| ၂၇။ | ချက်သမ္မတနိုင်ငံ | ၃-၁-၁၉၅၆ |
| ၂၈။ | စလိုဗက်နိုင်ငံ | ၃-၁-၁၉၅၆ |
| ၂၉။ | ဟန်ဂေရီနိုင်ငံ | ၅-၃-၁၉၅၆ |
| ၃၀။ | ရိုမေးနီးယားနိုင်ငံ | ၁၅-၃-၁၉၅၆ |
| ၃၁။ | နော်ဝေးနိုင်ငံ | ၁၈-၅-၁၉၅၆ |
| ၃၂။ | အီရတ်နိုင်ငံ | ၂၃-၇-၁၉၅၆ |
| ၃၃။ | ဖိလစ်ပိုင်နိုင်ငံ | ၃၀-၇-၁၉၅၆ |
| ၃၄။ | မွန်ဂိုလီးယားနိုင်ငံ | ၂၈-၉-၁၉၅၆ |
| ၃၅။ | အာဖဂန်နစ္စတန်နိုင်ငံ | ၈-၁၁-၁၉၅၆ |
| ၃၆။ | ဆွီဒင်နိုင်ငံ | ၁၉၅၆ |
| ၃၇။ | ဆွစ်ဇာလန်နိုင်ငံ | ၁၉၅၇ |
| ၃၈။ | မလေးရှားနိုင်ငံ | ၁-၃-၁၉၅၈ |
| ၃၉။ | ဂရိစ်နိုင်ငံ | ၂၀-၃-၁၉၅၈ |
| ၄၀။ | ကနေဒါနိုင်ငံ | ၉-၈-၁၉၅၈ |

| | | |
|---|---|---|
| ၄၁။ | တူရကီနိုင်ငံ | ၂-၉-၁၉၅၈ |
| ၄၂။ | နယူးဇီလန်နိုင်ငံ | ၁၅-၁၁-၁၉၅၈ |
| ၄၃။ | နီပေါနိုင်ငံ | ၃-၃-၁၉၆၀ |
| ၄၄။ | စင်ကာပူနိုင်ငံ | ၁၂-၈-၁၉၆၆ |
| ၄၅။ | စပိန်နိုင်ငံ | ၁၁-၃-၁၉၆၇ |
| ၄၆။ | အီရန်နိုင်ငံ | ၈-၈-၁၉၆၈ |
| ၄၇။ | အယ်လ်ဂျီးရီးယားနိုင်ငံ | ၁၅-၁၁-၁၉၆၈ |
| ၄၈။ | မော်လ်ဒိုက်နိုင်ငံ | ၁၅-၁-၁၉၇၀ |
| ၄၉။ | နိုင်ဂျီးရီးယားနိုင်ငံ | ၂၄-၁-၁၉၇၀ |
| ၅၀။ | ဘင်္ဂလားဒေ့ရှ်နိုင်ငံ | ၂၁-၃-၁၉၇၂ |
| ၅၁။ | ဆီးရီးယားနိုင်ငံ | ၁၅-၆-၁၉၇၂ |
| ၅၂။ | အာဂျင်တီးနားနိုင်ငံ | ၂၈-၂-၁၉၇၅ |
| ၅၃။ | တောင်ကိုးရီးယားနိုင်ငံ | ၁၉-၅-၁၉၇၅ |
| ၅၄။ | ဗီယက်နမ်နိုင်ငံ | ၂၈-၅-၁၉၇၅ |
| ၅၅။ | မက္ကဆီကိုနိုင်ငံ | ၁-၁၀-၁၉၇၆ |
| ၅၆။ | မော်ရီတေးနီးယားနိုင်ငံ | ၅-၁၀-၁၉၇၆ |
| ၅၇။ | ကျူးဘားနိုင်ငံ | ၁၂-၁၀-၁၉၇၆ |
| ၅၈။ | ပေါ်တူဂီနိုင်ငံ | ၁၄-၁၁-၁၉၇၆ |
| ၅၉။ | အယ်လ်ဘေးနီးယားနိုင်ငံ | ၁၅-၁၂-၁၉၇၆ |
| ၆၀။ | ကို့စ်တာရီကာနိုင်ငံ | ၈-၃-၁၉၇၇ |
| ၆၁။ | မော်ရိုကိုနိုင်ငံ | ၃၁-၇-၁၉၇၈ |
| ၆၂။ | မောရစ်ရှပ်စ်နိုင်ငံ | ၃၀-၁၂-၁၉၇၈ |
| ၆၃။ | ချီလီနိုင်ငံ | ၂၂-၄-၁၉၈၂ |
| ၆၄။ | ပနားမားနိုင်ငံ | ၁၅-၇-၁၉၈၂ |
| ၆၅။ | ဘရာဇီးလ်နိုင်ငံ | ၁-၉-၁၉၈၂ |
| ၆၆။ | ဆိုက်ပရပ်စ်နိုင်ငံ | ၁၅-၇-၁၉၈၅ |
| ၆၇။ | ဗာနေ့ဒ္ဒတူနိုင်ငံ | ၂၈-၁-၁၉၈၇ |
| ၆၈။ | ကိုလံဘီယာနိုင်ငံ | ၂၈-၁၁-၁၉၈၈ |
| ၆၉။ | ပီရူးနိုင်ငံ | ၂၈-၈-၁၉၈၉ |
| ၇၀။ | ဗင်နီဇွဲလားနိုင်ငံ | ၂၀-၁၁-၁၉၉၀ |

၇၁။ ပါပူဝါနယူးဂီနီယာနိုင်ငံ ၂၄-၇-၁၉၈၁
၇၂။ ဘရူနိုင်းနိုင်ငံ ၂၁-၉-၁၉၈၃
၇၃။ ဂါနာနိုင်ငံ ၁၃-၁-၁၉၈၅
၇၄။ တောင်အာဖရိကနိုင်ငံ ၂၀-၄-၁၉၈၅
၇၅။ ကင်ညာနိုင်ငံ ၂၆-၉-၁၉၈၇
၇၆။ ကူဝိတ်နိုင်ငံ ၁၆-၁၂-၁၉၉၈
၇၇။ ယူကရိန်းနိုင်ငံ ၁၉-၁-၁၉၉၉
၇၈။ အဇာဘိုင်ဂျန်နိုင်ငံ ၃-၈-၁၉၉၉
၇၉။ ဂျော်ဂျီယာနိုင်ငံ ၁၆-၈-၁၉၉၉
၈၀။ တာ့ခ်မင်နစ္စတန်နိုင်ငံ ၂၆-၈-၁၉၉၉
၈၁။ ခရိုအေးရှားနိုင်ငံ ၃-၉-၁၉၉၉
၈၂။ ဘယ်လာရုစ်နိုင်ငံ ၂၂-၉-၁၉၉၉
၈၃။ ကာဇက်စတန်နိုင်ငံ ၂၃-၉-၁၉၉၉
၈၄။ တာဂျစ်ကစ္စတန်နိုင်ငံ ၂၉-၉-၁၉၉၉
၈၅။ ဂျမေကာနိုင်ငံ ၆-၁၂-၁၉၉၉
၈၆။ ကာဂျီစတန်နိုင်ငံ ၉-၁၁-၂၀၀၀
၈၇။ ဥဇဘက်ကစ္စတန်နိုင်ငံ ၈-၂-၂၀၀၁
၈၈။ ဥရုဂွေးနိုင်ငံ ၂၂-၂-၂၀၀၁
၈၉။ မက်စီဒိုနီးယားနိုင်ငံ ၉-၇-၂၀၀၃
၉၀။ အိုင်ယာလန်နိုင်ငံ ၁၀-၂-၂၀၀၄
၉၁။ ဆူဒန်နိုင်ငံ ၂၀-၅-၂၀၀၄
၉၂။ ဆော်ဒီအာရေဗျနိုင်ငံ ၂၅-၈-၂၀၀၄
၉၃။ ကာတာနိုင်ငံ ၂၆-၉-၂၀၀၅
၉၄။ အရှေ့တီမောနိုင်ငံ ၂၆-၉-၂၀၀၆
၉၅။ မွန်တီနီဂရိုးနိုင်ငံ ၂၇-၁၁-၂၀၀၆
၉၆။ ဆလိုဗေးနီးယားနိုင်ငံ ၁၈-၁၂-၂၀၀၆
၉၇။ မြောက်ကိုရီးယားနိုင်ငံ ၁၉၇၅ တွင်စတင်သံတမန်ဆက်သွယ်၍ ၁၉၈၃ တွင် သံတမန်ဆက်သွယ်မှု ဖြတ်တောက်ပြီး (၂၆-၄-၂၀၀၇ ရက်နေ့တွင် သံတမန်ဆက်သွယ်မှု ပြန်လည်ပြုလုပ်ခဲ့ပါသည်။)

| | | |
|---|---|---|
| ၉၈။ | အင်ဒိုရာနိုင်ငံ | ၁၁-၂-၂၀၀၉ |
| ၉၉။ | ဖင်ဘာဘွေနိုင်ငံ | ၂၇-၈-၂၀၀၉ |
| ၁၀၀။ | ဘာရိန်းနိုင်ငံ | ၁၀-၁၁-၂၀၀၉ |
| ၁၀၁။ | ဖီဂျီနိုင်ငံ | ၁၀-၅-၂၀၁၀ |
| ၁၀၂။ | အိုမန်နိုင်ငံ | ၁၄-၁၂-၂၀၁၀ |
| ၁၀၃။ | ဂမ်ဘီယာနိုင်ငံ | ၁၃-၁-၂၀၁၁ |
| ၁၀၄။ | ဘော့စ်နီးယားနှင့် ဟာဇီဂိုဗီးနားနိုင်ငံ | ၂၅-၈-၂၀၁၁ |
| ၁၀၅။ | မာလာဝီနိုင်ငံ | ၃၀-၁-၂၀၁၂ |
| ၁၀၆။ | ဘူတန်နိုင်ငံ | ၁-၂-၂၀၁၂ |
| ၁၀၇။ | လူဇင်ဘတ်နိုင်ငံ | ၃၁-၇-၂၀၁၂ |
| ၁၀၈။ | လတ်ဗီးယားသမ္မတနိုင်ငံ | ၂၆-၉-၂၀၁၂ |
| ၁၀၉။ | အက်စ်တိုးနီးယားသမ္မတနိုင်ငံ | ၂၆-၉-၂၀၁၂ |
| ၁၁၀။ | အိုက်စလန်သမ္မတနိုင်ငံ | ၁၉-၁၂-၂၀၁၂ |
| ၁၁၁။ | အာမေးနီးယားသမ္မတနိုင်ငံ | ၃၁-၁-၂၀၁၃ |
| ၁၁၂။ | အင်ဂိုလာသမ္မတနိုင်ငံ | ၁၉-၉-၂၀၁၃ |
| ၁၁၃။ | လစ်သူယေးနီးယားသမ္မတနိုင်ငံ | ၈-၁၀-၂၀၁၃ |
| ၁၁၄။ | အီသီယိုးပီးယားဖက်ဒရယ် ဒီမိုကရက်တစ်သမ္မတနိုင်ငံ | ၂၈-၁၂-၂၀၁၅ |
| ၁၁၅။ | မော်လ်တာသမ္မတနိုင်ငံ | ၅-၄-၂၀၁၇ |
| ၁၁၆။ | အီကွေဒေါသမ္မတနိုင်ငံ | ၆-၄-၂၀၁၇ |
| ၁၁၇။ | မာရှယ်ကျွန်းစုသမ္မတနိုင်ငံ | ၂၁-၄-၂၀၁၇ |
| ၁၁၈။ | ဟိုလီဆီး(ဗာတီကန်နန်းတော်) | ၄-၅-၂၀၁၇ |
| ၁၁၉။ | လိုက်ဘေးရီးယားသမ္မတနိုင်ငံ | ၅-၅-၂၀၁၇ |
| ၁၂၀။ | ဂီနီသမ္မတနိုင်ငံ | ၆-၆-၂၀၁၇ |
| ၁၂၁။ | ဆေးရှဲလ်သမ္မတနိုင်ငံ | ၁၂-၇-၂၀၁၇ |
| ၁၂၂။ | ဘီနင်သမ္မတနိုင်ငံ | ၂-၇-၂၀၁၉ |
| ၁၂၃။ | တိုဂိုသမ္မတနိုင်ငံ | ၃၁-၇-၂၀၁၉ |

**မြန်မာသံရုံး၊ အဖွဲ့ရုံး၊ ကောင်စစ်ဝန်ချုပ်ရုံး ဖွင့်လှစ်ထားရှိသောနိုင်ငံများ**

**ကုလသမဂ္ဂ**

၁။ ဆွစ်ဇာလန်နိုင်ငံ၊ ဂျီနီဗာမြို့။

**အာရှ၊ အာဖရိက**

၁။ သြစတြေးလျနိုင်ငံ၊ ကန်ဘာရာမြို့။

၂။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ၊ ဘေဂျင်းမြို့၊ ဟောင်ကောင်၊ ကူမင်းမြို့၊ နန်နင်းမြို့။

၃။ အိန္ဒိယနိုင်ငံ၊ နယူးဒေလီမြို့၊ ကာလကတ္တားမြို့။

၄။ ကူဝိတ်နိုင်ငံ၊ ကူဝိတ်မြို့။

၅။ ဆော်ဒီအာရေဗျနိုင်ငံ၊ ရီယာ့ဒ်မြို့။

**ဥရောပ**

၁။ နော်ဝေနိုင်ငံ၊ အော်စလိုမြို့။

၂။ သြစတြီးယားနိုင်ငံ၊ ဗီယင်နာမြို့။

၃။ ချက်သမ္မတနိုင်ငံ၊ ပါရာဂွေးမြို့။

**အမေရိက**

၁။ အမေရိကန်ပြည်ထောင်စု၊ လော့အိန်ဂျလိမြို့။

**မြန်မာနိုင်ငံ၏ နိုင်ငံခြားရေးမူဝါဒ**

နိုင်ငံတစ်နိုင်ငံအနေဖြင့် ရည်မှန်းချက်များ အောင်မြင်ပေါက်မြောက်စေရန်အတွက် ပြည်တွင်း၊ ပြည်ပဆိုင်ရာ မူဝါဒများ ချမှတ်အကောင်အထည်ဖော်ဆောင်ရွက်ရပါသည်။ သို့သော် ပြည်ပမူဝါဒများ ချမှတ်အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် အခြားနိုင်ငံများနှင့် ဆက်စပ်မှုရှိနေခြင်းကြောင့် မူဝါဒများချမှတ်ရာတွင် အထူးပင်အရေးကြီးပါသည်။ ထိုသို့ ပြည်ပဆိုင်ရာမူဝါဒများ ချမှတ်အကောင်အထည်ဖော်ခြင်းကို နိုင်ငံခြားရေးမူဝါဒဟု ခေါ်ဆိုလေ့ရှိကြပါသည်။

နိုင်ငံတစ်နိုင်ငံ၏ နိုင်ငံခြားရေးမူဝါဒကို လေ့လာလိုပါက အဆိုပါနိုင်ငံ၏ နိုင်ငံခြားရေးဆိုင်ရာ အခြေခံဦးတည်ချက် (သို့မဟုတ်) အခြေခံမဟာဗျူဟာကို ဦးစွာလေ့လာသင့်သည်။ နိုင်ငံများအနေဖြင့် ၎င်းတို့၏ နိုင်ငံခြားရေးမူဝါဒကို ချမှတ်ရာတွင်အောက်ပါဦးတည်ချက်တစ်ရပ်ရပ်အပေါ်တွင်အခြေခံချမှတ်လေ့ရှိကြောင်း လေ့လာတွေ့ရှိရပါသည်–

(က) သီးသန့် တစ်ဦးတည်း ရပ်တည်ရေး

(ခ) ဘက်မလိုက်ရေး

(ဂ) နိုင်ငံအချင်းချင်း ဘက်မလိုက်ပူးပေါင်းရေးတို့ ဖြစ်သည်။

မြန်မာနိုင်ငံအနေဖြင့် လွတ်လပ်ရေးရရှိချိန်မှစ၍ လွတ်လပ်၍ ဘက်မလိုက်သော နိုင်ငံခြားရေးမူဝါဒကို ချမှတ်ကျင့်သုံးခဲ့ပါသည်။ ထိုကဲ့သို့ ကျင့်သုံးခဲ့ခြင်းမှာ–

(က) စစ်အေးကာလ အရှေ့အုပ်စုနှင့် အနောက်အုပ်စုဟူ၍ ကွဲပြားနေချိန်တွင် ကိုလိုနီလက်အောက်ခံနိုင်ငံများ လွတ်လပ်ရေးရရှိပြီး လွတ်လပ်စ မြန်မာနိုင်ငံအနေဖြင့် လွတ်လပ်သော နိုင်ငံခြားရေးမူဝါဒကို ကျင့်သုံးလိုခြင်းကြောင့်လည်းကောင်း၊

( ခ ) လွတ်လပ်ရေးရရှိရန် ကြိုးပမ်းရခြင်း၏ တန်ဖိုးနှင့် လွတ်လပ်သောနိုင်ငံခြားရေးမူဝါဒကိုတစ်ထပ်တည်းထားလိုသောကြောင့်လည်းကောင်း၊

( ဂ ) ပြည်တွင်းသောင်းကျန်းမှုဒဏ်ကို ခံစားသိရှိပြီး အရှေ့အုပ်စုနှင့် အနောက်အုပ်စု အားပြိုင်မှုကြား စစ်မြေပြင်ဖြစ်လာနိုင်ခြင်းကို ရှောင်ရှားလိုသောကြောင့်လည်းကောင်း၊

(ဃ) ပြန်လည်ထူထောင်ရေးနှင့် စီးပွားရေး ပြန်လည်ဦးမော့လာစေရေး ဆောင်ရွက်ရာတွင် အုပ်စုနှစ်စု၏ နှောင်ကြိုးမဲ့ အကူအညီများကိုသာ လက်ခံလိုသောကြောင့်လည်းကောင်း၊

( င ) လူဦးရေများ၍ ဝါဒခြင်းမတူညီသည့် တရုတ်နှင့် အိန္ဒိယနိုင်ငံကြားတွင်ရှိနေ၍ ဘက်မလိုက်လိုသောကြောင့်လည်းကောင်း၊ လွတ်လပ်၍ ဘက်မလိုက်သော နိုင်ငံခြားရေးမူဝါဒကို ချမှတ်ကျင့်သုံးခဲ့ခြင်း ဖြစ်ပါသည်။

## ငြိမ်းချမ်းစွာအတူယှဉ်တွဲနေထိုင်ရေးမူ (၅) ချက်

## (The Five Principles of Peaceful Co–existence)

ငြိမ်းချမ်းစွာ အတူယှဉ်တွဲနေထိုင်ရေး မူ(၅)ချက်သည် မြန်မာနိုင်ငံ နိုင်ငံခြားရေးမူဝါဒ၏ အခြေခံရေသောက်မြစ်ဖြစ်သည်။ အဆိုပါမူဝါဒသည် ၁၉၅၄ ခုနှစ်တွင် မြန်မာ၊ တရုတ်နှင့် အိန္ဒိယနိုင်ငံခေါင်းဆောင်များက ချမှတ်ခဲ့ကြခြင်းဖြစ်သည်။ ၂၈–၆–၁၉၅၄ ရက်နေ့တွင် နယူးဒေလီမြို့၌ တရုတ်နှင့် အိန္ဒိယ ခေါင်းဆောင်များသည်လည်းကောင်း၊ ၂၉–၆–၁၉၅၄ ရက်နေ့တွင် ရန်ကုန်မြို့၌ မြန်မာနှင့် တရုတ်ခေါင်းဆောင်များသည်လည်းကောင်း အောက်ပါမူကြီး(၅)ချက်ကို သဘောတူလက်မှတ်ရေးထိုးခဲ့ကြသည်–

(က) တစ်နိုင်ငံ၏ နယ်မြေတည်တံ့မှုနှင့် အချုပ်အခြာအာဏာ ပိုင်ဆိုင်မှုကို တစ်နိုင်ငံက လေးစားရန်၊

Mutual respect for each other's territorial integrity and sovereignty

( ခ ) တစ်နိုင်ငံနှင့်တစ်နိုင်ငံ ကျူးကျော်တိုက်ခိုက်မှုမပြုရန်၊
To abide by mutual non-aggression

( ဂ ) တစ်နိုင်ငံနှင့်တစ်နိုင်ငံ ပြည်တွင်းရေးကိစ္စများတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန်၊
Non-interference in each other's internal affairs

(ဃ) တစ်နိုင်ငံနှင့်တစ်နိုင်ငံ တန်းတူရည်တူရှိရန်နှင့် နှစ်ဦးနှစ်ဖက်အကျိုးဖြစ်ထွန်းရန်၊
Respect for mutual equality and to work for mutual benefit

( င ) ငြိမ်းချမ်းစွာ အတူယှဉ်တွဲ နေထိုင်ရန် တို့ဖြစ်ပါသည်။
Peaceful co-existence

မြန်မာနိုင်ငံသည် အထက်ပါ ငြိမ်းချမ်းစွာ အတူယှဉ်တွဲနေထိုင်ရေး အခြေခံမူကြီး(၅)ချက်ကိုကိုင်စွဲလျက် ကုလသမဂ္ဂအခြေခံမူများ၊ရည်မှန်းချက်များနှင့်အညီ အောက်ပါအတိုင်း ဆောက်ရွက်ခဲ့ပါသည်-

(က) ကုလသမဂ္ဂ၏ လှုပ်ရှားမှုများတွင် မိမိ၏ အခြေခံမူနှင့်အညီ နိုးကြားတက်ကြွစွာ ပါဝင်လှုပ်ရှားခြင်း၊

( ခ ) လက်နက်ဖျက်သိမ်းရေးကို အစဉ်အားပေးထောက်ခံခြင်း၊

( ဂ ) လက်နက်အပြိုင်အဆိုင် ထုတ်လုပ်ရောင်းချမှုကို ဆန့်ကျင်ကန့်ကွက်ခြင်း၊

(ဃ) အမျိုးသားလွတ်မြောက်ရေး တိုက်ပွဲများကို အားပေးထောက်ခံခြင်း၊

( င ) နယ်ချဲ့ဝါဒီများ၏ ကျူးကျော်စွက်ဖက်မှုများကို ဆန့်ကျင်ကန့်ကွက်ခြင်း၊

( စ ) ကိုလိုနီစနစ် ဖျက်သိမ်းရေးကို အားပေးထောက်ခံခြင်း၊

(ဆ) ကိုလိုနီဝါဒအသားအရောင်ခွဲခြားမှုနှင့်လူမျိုးခွဲခြားမှုစနစ်များကို ဆန့်ကျင်ကန့်ကွက်ခြင်း၊

( ဇ ) ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် ဆောင်ရွက်ချက်များကိုအားပေးထောက်ခံခြင်း၊

(ဈ) နယ်ချဲ့ကျူးကျော်ရေးစစ်ပွဲများကို ဆန့်ကျင်ကန့်ကွက်ခြင်းတို့ ဆောင်ရွက်ခဲ့ပါသည်။

**ကမ္ဘာ့အဖွဲ့အစည်းများသို့ မြန်မာဝင်ရောက်ခဲ့သည့်ရက်စွဲများ**

| | | |
|---|---|---|
| ၁။ | ကမ္ဘာ့စားနပ်ရိက္ခာနှင့်စိုက်ပျိုးရေးအဖွဲ့ (FAO) | ၁၁-၉-၁၉၄၇ |
| ၂။ | အပြည်ပြည်ဆိုင်ရာအလုပ်သမားအဖွဲ့ (ILO) | ၁၈-၅-၁၉၄၈ |
| ၃။ | ကမ္ဘာ့ကျန်းမာရေးအဖွဲ့ (WHO) | ၁-၇-၁၉၄၈ |
| ၄။ | အပြည်ပြည်ဆိုင်ရာကြေးနန်းဆက်သွယ်ရေးသမဂ္ဂ (ITU) | ၁-၁၀-၁၉၄၉ |
| ၅။ | ကုလသမဂ္ဂပညာရေး၊သိပ္ပံနှင့်ယဉ်ကျေးမှုအဖွဲ့ (UNESCO) | ၂၇-၆-၁၉၄၉ |
| ၆။ | ကမ္ဘာ့မိုးလေဝသအဖွဲ့ (WMO) | ၁၉-၈-၁၉၄၉ |
| ၇။ | အပြည်ပြည်ဆိုင်ရာလေကြောင်းအဖွဲ့ (ICAO) | ၈-၇-၁၉၄၈ |
| ၈။ | ကမ္ဘာ့စာပို့လုပ်ငန်းသမဂ္ဂ (UPC) | ၄-၁၀-၁၉၄၉ |
| ၉။ | အပြည်ပြည်ဆိုင်ရာငွေကြေးရန်ပုံငွေအဖွဲ့ (IMF) | ၃-၁-၁၉၅၂ |
| ၁၀။ | ဘက်မလိုက်လှုပ်ရှားမှုအဖွဲ့ (NAMC) | ၂၉-၆-၁၉၅၄ |
| ၁၁။ | အပြည်ပြည်ဆိုင်ရာဘဏ္ဍာရေးကော်ပိုရေးရှင်းအဖွဲ့ (IFC) | ၃-၁၂-၁၉၅၆ |
| ၁၂။ | အပြည်ပြည်ဆိုင်ရာပြန်လည်တည်ဆောက်ရေးနှင့် ဖွံ့ဖြိုးရေးဘဏ် (IBRD) | ၃-၁-၁၉၅၂ |
| ၁၃။ | အပြည်ပြည်ဆိုင်ရာရေကြောင်းအဖွဲ့(IMO) | ၆-၇-၁၉၅၁ |
| ၁၄။ | အပြည်ပြည်ဆိုင်ရာအနုမြူစွမ်းအင်အဖွဲ့(IAEA) | ၁၈-၁၀-၁၉၅၇ |
| ၁၅။ | အပြည်ပြည်ဆိုင်ရာဖွံ့ဖြိုးမှုအသင်း(IDA) | ၅-၁၁-၁၉၆၂ |
| ၁၆။ | ကုလသမဂ္ဂကုန်သွယ်ရေးနှင့်ဖွံ့ဖြိုးမှုညီလာခံ (UNCTAD) | ၃၀-၁၂-၁၉၆၄ |
| ၁၇။ | အပြည်ပြည်ဆိုင်ရာစိုက်ပျိုးရေးဖွံ့ဖြိုးမှုရန်ပုံငွေ အဖွဲ့ (IFAD) | ၂၃-၁-၁၉၉၀ |
| ၁၈။ | ကုလသမဂ္ဂစက်မှုဖွံ့ဖြိုးရေးအဖွဲ့ (UNIDO) | ၁၂-၄-၁၉၉၀ |
| ၁၉။ | အရှေ့တောင်အာရှနိုင်ငံများအသင်း (ASEAN) | ၂၃-၇-၁၉၉၇ |
| ၂၀။ | ဘင်းစ်တက်စီးပွားရေးပူးပေါင်းဆောင်ရွက်မှုအဖွဲ့ (BIMST-EC) | ၂၂-၁၂-၁၉၉၇ |
| ၂၁။ | ကမ္ဘာ့ဉာဏ်ရည်ဉာဏ်သွေးဆိုင်ရာအဖွဲ့အစည်း (WIPO) | ၁၅-၅-၂၀၀၁ |
| ၂၂။ | နိုင်ငံတကာရွှေ့ပြောင်းသွားလာခြင်းဆိုင်ရာအဖွဲ့ (IOM) | ၂၇-၁၁-၂၀၁၂ |

## နေစကြာဝဠာအကြောင်း

နေသည် အနန္တစကြဝဠာကြီးအတွင်း တည်ရှိနေသော ကြယ်များအနက် တစ်လုံးဖြစ်သည်။ နေကို ကမ္ဘာအပါအဝင် ဂြိုဟ်ကြီးကိုးလုံးက (နောက်ပိုင်းတွင် ပလူတိုအား ဂြိုဟ်အဖြစ်မှ ပယ်ဖျက်ခဲ့သည်) မိမိတို့၏ ပတ်လမ်းကြောင်းများမှ လှည့်ပတ်နေသကဲ့သို့နေသည်လည်း နဂါးငွေ့တန်း ကြယ်စုကြီး၏အလယ်ကိုဗဟိုပြု၍ လည်ပတ်နေသည်။

**နေ၏သက်တမ်း**

- နှစ်ပေါင်း ၄,၆၀၀,၀၀၀,၀၀၀ နှစ်။

**နေနှင့် ကမ္ဘာအကွာအဝေး**

- အနီးဆုံးအချိန်တွင် ၁၄၇,၁၀၀,၀၀၀ ကီလိုမီတာဝေးသည်။
- အဝေးဆုံးအချိန်တွင် ၁၅၂,၁၀၀,၀၀၀ ကီလိုမီတာဝေးသည်။

**နေ၏အပူချိန်**

- နေ၏မျက်နှာပြင်တွင် ၅,၅၀၀ ဒီဂရီစင်တီဂရိတ်
- နေ၏အတွင်းဘက်တွင် ၁၅,၀၀၀,၀၀၀ ဒီဂရီစင်တီဂရိတ်

**နေ၏ဝင်ရိုးပေါ်တွင်လည်ပတ်နှုန်း**

- တစ်လလျှင် တစ်ပတ်။

**နေ၏အချင်း**

- ၁,၃၉၂,၀၀၀ ကီလိုမီတာ (ကမ္ဘာ၏ ၁၀၉ဆ နီးပါးခန့်)

## ကမ္ဘာအကြောင်း

နေကို လှည့်ပတ်နေသော ဂြိုဟ်များအနက် မာကျူရီနှင့် ဗီးနပ်စ်ဂြိုဟ်များ ပြီးလျှင် ကမ္ဘာသည် နေနှင့်တတိယအနီးဆုံးဖြစ်သည်။ နေစကြဝဠာအတွင်းရှိ ဂြိုဟ်များအနက် ပဉ္စမအကြီးဆုံးလည်းဖြစ်သည်။ ကမ္ဘာ့မျက်နှာပြင်၏ ရာခိုင်နှုန်း ၇၀ မှာ ရေပြင်များဖြစ်ပြီး ရာခိုင်နှုန်း ၃၀မှာ ကုန်းမြေဖြစ်သည်။ ကမ္ဘာကြီးသည် ရွေ့လျားမှု သုံးမျိုးဖြင့်ရွေ့လျားနေသည် –

(၁) မိမိဝင်ရိုးပေါ်တွင် လည်ပတ်နေခြင်း၊
(၂) နေကို မိမိ၏ပတ်လမ်းကြောင်းဖြင့် လည်ပတ်နေခြင်း၊
(၃) အနန္တစကြဝဠာ နဂါးငွေ့တန်းကြယ်စုကြီးအတွင်း နေစကြဝဠာမှ နေနှင့်တကွ အခြားဂြိုဟ်များနှင့်အတူ ဖြတ်သန်းရွေ့လျားနေခြင်းတို့ ဖြစ်သည်။

**ကမ္ဘာ၏သက်တမ်း**

- နှစ်ပေါင်းအနည်းဆုံး ၄ ဒသမ ၅ ဘီလီယံနှစ်ခန့်။

**ကမ္ဘာ၏အပူချိန်**

- ပျမ်းမျှကမ္ဘာ့မျက်နှာပြင်အပူချိန်မှာ ၁၄ ဒီဂရီစင်တီဂရိတ်ဖြစ်သည်။

**ကမ္ဘာ၏ မိမိဝင်ရိုးပေါ်တွင်လည်ပတ်မှု**

- ၂၃ နာရီ၊ ၅၆ မိနစ်၊ ၄ ဒသမ ၀၉ စက္ကန့်လျှင် တစ်ပတ်နှုန်း။

**ကမ္ဘာ၏အချင်း**

- ၁၂၇၃၃.၅၄ ကီလိုမီတာ

## လအကြောင်း

လသည် နေစကြဝဠာအတွင်း ကမ္ဘာ၏အနီးဆုံးသော တစ်ခုတည်းဖြစ်သည့် အရန်လဖြစ်သည်။ လသည် ကိုယ်ပိုင်အလင်းရောင်မရှိဘဲ ကမ္ဘာကို ၂၇ ရက်၊ ၇ နာရီနှင့် ၄၃ မိနစ်တွင် တစ်ပတ်နှုန်းဖြင့် လှည့်ပတ်နေသည်။

**လ၏သက်တမ်း**

- ၄,၆၀၀,၀၀၀,၀၀၀ (၄.၆ ဘီလီယံ)နှစ်ပေါင်း

**လ၏အချင်း**

- ၃၄၇၆ ကီလိုမီတာ

**ကမ္ဘာနှင့် လအကွာအဝေး**

- အနီးဆုံးအချိန်တွင် အကွာအဝေး ၃၅၆,၃၉၉ ကီလိုမီတာ
- အဝေးဆုံးအချိန်တွင် အကွာအဝေး ၄၀၆,၆၉၉ ကီလိုမီတာ

## ကမ္ဘာ့တိုက်ကြီးများ

**အာရှတိုက်**

| | | | |
|---|---|---|---|
| ၁။ | ဧရိယာ | = | ၄၄၅၇၉၀၀၀ စတုရန်းကီလိုမီတာ |
| ၂။ | ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း | = | ၂၉.၉ ရာခိုင်နှုန်း |
| ၃။ | ပင်လယ်ရေမျက်နှာပြင် အမြင့်ဆုံးနေရာ | = | ဧဝရက်တောင်၊ တရုတ်နိုင်ငံ – နီပေါနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အထက် ၈၈၄၈ မီတာ၊ ၂၉၀၂၉ ပေ) |
| ၄။ | ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ | = | ပင်လယ်ကမ်းခြေ၊ အစ္စရေးနိုင်ငံ – ဂျော်ဒန်နိုင်ငံ – ပါလက်စတိုင်းနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အောက် ၄၂၇ မီတာ၊ ၁၄၀၁ ပေ) |

**အာဖရိကတိုက်**

| | | | |
|---|---|---|---|
| ၁။ | ဧရိယာ | = | ၃၀၃၇၀၀၀၀ စတုရန်းကီလိုမီတာ |
| ၂။ | ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ရာခိုင်နှုန်း | = | ၂၀.၄ ရာခိုင်နှုန်း |
| ၃။ | ပင်လယ်ရေမျက်နှာပြင် အထက် အမြင့်ဆုံးနေရာ | = | ကီလီမန်ဂျာရိုတောင်၊ တန်ဇန်းနီးယားနိုင်ငံ၊ (ပင်လယ်ရေမျက်နှာပြင်အထက် ၅၈၉၅ မီတာ၊ ၁၉၃၄၁ ပေ) |

| | | | |
|---|---|---|---|
| ၄။ | ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ | = | အက်ဆယ်ရေကန်၊ ဂျီဘူတီနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အောက် ၁၅၅ မီတာ၊ ၅၀၉ ပေ) |

**မြောက်အမေရိကတိုက်**

| | | | |
|---|---|---|---|
| ၁။ | ဧရိယာ | = | ၂၄၇၀၉၀၀၀ စတုရန်းကီလိုမီတာ |
| ၂။ | ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း | = | ၁၆.၅ ရာခိုင်နှုန်း |
| ၃။ | ပင်လယ်ရေမျက်နှာပြင် အထက်အမြင့်ဆုံးနေရာ | = | ဒီနာလီတောင်၊ အလာစကာ ပြည်နယ်၊ အမေရိကန်ပြည်ထောင်စု၊(ပင်လယ်ရေမျက်နှာပြင်အထက် ၆၁၉၈ မီတာ၊ ၂၀၃၃၅ ပေ) |
| ၄။ | ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ | = | ဒက်သ်တောင်ကြား၊ ကာလီဖိုးနီးယား ပြည်နယ်၊ အမေရိကန်ပြည်ထောင်စု၊ (ပင်လယ်ရေမျက်နှာပြင်အောက် ၈၆ မီတာ၊ ၂၈၂ ပေ) |

**တောင်အမေရိကတိုက်**

| | | | |
|---|---|---|---|
| ၁။ | ဧရိယာ | = | ၁၇၈၄၀၀၀၀ စတုရန်းကီလိုမီတာ |
| ၂။ | ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း | = | ၁၂ ရာခိုင်နှုန်း |
| ၃။ | ပင်လယ်ရေမျက်နှာပြင် အထက်အမြင့်ဆုံးနေရာ | = | အာကွန်ကာဂွါတောင်၊ အာဂျင်တီးနားနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အထက် ၆၉၆၀ မီတာ၊ ၂၂၈၃၀ ပေ) |
| ၄။ | ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ | = | လာဂူနာဒီကာဗွန်ကန်၊ အာဂျင်တီးနားနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အောက် ၁၀၅ မီတာ၊ ၃၄၄ ပေ) |

**အန္တာတိကတိုက်**

| | | | |
|---|---|---|---|
| ၁။ | ဧရိယာ | = | ၁၄၀၀၀၀၀၀ စတုရန်းကီလိုမီတာ |
| ၂။ | ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း | = | ၉.၂ ရာခိုင်နှုန်း |
| ၃။ | ပင်လယ်ရေမျက်နှာပြင် | = | ဗီဆင်မက်ဆစ်တောင် (ပင်လယ်ရေမျက်နှာ |

| | | | |
|---|---|---|---|
| | အထက်အမြင့်ဆုံးနေရာ | | ပြင်အထက် ၄၈၉၂ မီတာ၊ ၁၆၀၅၀ ပေ) |
| ၄။ | ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ | = | ဗက်စ်ဖိုးတောင်၊ ရေနက်ကန်(ပင်လယ်ရေမျက်နှာပြင်အောက် ၅၀ မီတာ၊ ၁၆၀ ပေ) |

## ဥရောပတိုက်

| | | | |
|---|---|---|---|
| ၁။ | ဧရိယာ | = | ၁၀၁၈၀၀၀၀ စတုရန်းကီလိုမီတာ |
| ၂။ | ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း | = | ၆.၈ ရာခိုင်နှုန်း |
| ၃။ | ပင်လယ်ရေမျက်နှာပြင် အထက်အမြင့်ဆုံးနေရာ | = | အဲလ်ဘရုစ်တောင်ထိပ်၊ အယ်လ်ပိုင်းတောင်တန်း၊ ရုရှားနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အထက် ၅၆၄၂ မီတာ၊ ၁၈၅၁၀ ပေ) |
| ၄။ | ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ | = | ကက်စပီယံပင်လယ်၊ ရုရှားနိုင်ငံ (ပင်လယ်ရေမျက်နှာပြင်အောက် ၂၈ မီတာ၊ ၉၂ ပေ) |

## သြစတြေးလျတိုက်

| | | | |
|---|---|---|---|
| ၁။ | ဧရိယာ | = | ၈၆၀၀၀၀၀ စတုရန်းကီလိုမီတာ |
| ၂။ | ကမ္ဘာ့ကုန်းမြေစုစုပေါင်း ဧရိယာ၏ ရာခိုင်နှုန်း | = | ၅.၉ ရာခိုင်နှုန်း |
| ၃။ | ပင်လယ်ရေမျက်နှာပြင် အထက်အမြင့်ဆုံးနေရာ | = | ပန်ကတ်ဂျရာတောင်၊ ပါပူရာပြည်နယ်၊ အင်ဒိုနီးရှားနိုင်ငံ(ပင်လယ်ရေမျက်နှာပြင်အထက် ၄၈၈၄ မီတာ၊ ၁၆၀၂၄ ပေ) |
| ၄။ | ပင်လယ်ရေမျက်နှာပြင် အောက် အနိမ့်ဆုံးနေရာ | = | အီရီကန် (ပင်လယ်ရေမျက်နှာပြင်အောက် ၁၅ မီတာ၊ ၄၉ ပေ) |

## ကမ္ဘာ့သဘာဝရေကန်ကြီးများ

| စဉ် | အမည် | တည်နေရာ | ဧရိယာ | |
|---|---|---|---|---|
| | | | စတုရန်းမိုင် | စတုရန်းကီလိုမီတာ |
| ၁။ | ကက်စပီယံပင်လယ် | အရှေ့အလယ်ပိုင်း | ၁၄၃၀၀၀ | ၃၇၁၀၀၀ |
| ၂။ | ဆူပရီးယား | ကနေဒါ-အမေရိကန် | ၃၁၇၀၀ | ၈၂၁၀၀ |
| ၃။ | ဗစ်တိုးရီးယား | အရှေ့ပိုင်းအာဖရိက | ၂၆၅၉၀ | ၆၈၈၇၀ |
| ၄။ | ဟူရွန် | ကနေဒါ-အမေရိကန် | ၂၃၀၀၀ | ၅၉၆၀၀ |
| ၅။ | မီချီဂန် | အမေရိကန် | ၂၂၀၀၀ | ၅၈၀၀၀ |
| ၆။ | တန်ဂန်ယိက | အရှေ့ပိုင်းအာဖရိက | ၁၂၆၀၀ | ၃၂၆၀၀ |
| ၇။ | ဘိုင်ကယ်ကန် | ရုရှားဖက်ဒရယ်ပြည်ထောင်စုသမ္မတနိုင်ငံ | ၁၂၂၀၀ | ၃၁၅၀၀ |
| ၈။ | ဂရိတ်ဘဲယားကန် | ကနေဒါအနောက်မြောက်ပိုင်းနယ်မြေများ | ၁၂၀၀၀ | ၃၁၀၀၀ |
| ၉။ | မာလာဝီကန် | အရှေ့ပိုင်းအာဖရိက | ၁၁၄၀၀ | ၂၉၅၀၀ |
| ၁၀။ | ဂရိတ်ဆလေ့ဗ်ကန် | ကနေဒါအနောက်မြောက်ပိုင်းနယ်မြေများ | ၁၀၀၀၀ | ၂၇၀၀၀ |

## တစ်ကမ္ဘာလုံးဆိုင်ရာရေအရင်းအမြစ်ပိုင်ဆိုင်မှုအခြေအနေ (ထုထည်ပမာဏ)

| စဉ် | နိုင်ငံအမည် | သုံးစွဲနိုင်သော ရေ အရင်းအမြစ် | မြေအောက် ရေ အရင်းအမြစ် | မြေပြင်ပေါ်ရှိ ရေပမာဏ ရေအရင်းအမြစ် | ပြန်လည်ဖြည့်တင်းနိုင်သော ရေအရင်းအမြစ် |
|---|---|---|---|---|---|
| ၁။ | ဘရာဇီး | ၅၄၁၈ | ၁၈၇၄ | ၅၄၁၈ | ၈၂၃၃ |
| ၂။ | ရုရှား | ၄၃၁၃ | ၇၈၈ | ၄၀၃၇ | ၄၅၀၇ |
| ၃။ | ကနေဒါ | ၂၈၅၀ | ၃၇၀ | ၂၈၄၀ | ၂၉၀၂ |
| ၄။ | တရုတ် | ၂၈၇၉ | ၈၃၃ | ၂၇၇၅ | ၂၈၉၇ |

| | | | | | |
|---|---|---|---|---|---|
| ၅။ | အင်ဒိုနီးရှား | ၂၈၃၈ | ၄၅၅ | ၂၇၉၃ | ၂၈၃၈ |
| ၆။ | ကိုလံဘီယာ | ၂၁၁၂ | ၅၁၀ | ၂၁၁၂ | ၂၁၃၂ |
| ၇။ | အမေရိကန် | ၂၀၀၀ | ၁၃၀၀ | ၁၈၆၂ | ၂၀၇၁ |
| ၈။ | ပီရူး | ၁၆၁၆ | ၃၀၃ | ၁၆၁၆ | ၁၉၁၃ |
| ၉။ | အိန္ဒိယ | ၁၂၆၁ | ၄၁၉ | ၁၂၂၂ | ၁၉၀၈ |
| ၁၀။ | ကွန်ဂို | ၉၀၀ | ၄၂၁ | ၈၉၉ | ၁၂၈၃ |
| ၁၁။ | ဗင်နီဇွဲလား | ၇၂၃ | ၂၂၇ | ၇၀၀ | ၁၂၃၃ |
| ၁၂။ | ဘင်္ဂလားဒေ့ရှ် | ၁၀၅ | ၂၁ | ၈၄ | ၁၂၁၁ |
| ၁၃။ | မြန်မာ | ၈၈၁ | ၁၅၆ | ၈၇၅ | ၁၀၄၆ |

## ကမ္ဘာ့သမုဒ္ဒရာကြီးများ

| စဉ် | အမည် | ဧရိယာစတုရန်းကီလိုမီတာ | ပျမ်းမျှအနက်(ပေ) |
|---|---|---|---|
| ၁။ | ပစိဖိတ်သမုဒ္ဒရာ | ၁၆၈၇၂၃၀၀၀ | ၃၅၈၂၇ |
| ၂။ | အတ္တလန္တိတ်သမုဒ္ဒရာ | ၈၅၁၃၃၀၀၀ | ၃၀၂၄၆ |
| ၃။ | အိန္ဒိယသမုဒ္ဒရာ | ၇၀၅၆၀၀၀၀ | ၂၄၄၆၀ |
| ၄။ | အာတိတ်သမုဒ္ဒရာ | ၁၅၅၅၈၀၀၀ | ၁၈၄၅၆ |

## ကမ္ဘာ့အရှည်ဆုံးမြစ်ကြီးများ

| စဉ် | အမည် | စီးဝင်ရာမြေပြင် | မြစ်အရှည်(မိုင်) |
|---|---|---|---|
| ၁။ | နိုင်းမြစ် | မြေထဲပင်လယ် | ၄၁၃၀ |
| ၂။ | အမေဇုံမြစ် | အတ္တလန္တိတ်သမုဒ္ဒရာ | ၄၀၈၆ |
| ၃။ | ယန်စီမြစ် | အရှေ့တရုတ်ပင်လယ် | ၃၉၁၇ |
| ၄။ | မစ္စစ္စပီမြစ် | မက္ကဆီကိုပင်လယ်ကွေ့ | ၃၉၀၂ |
| ၅။ | ယန်နီဆိုင်မြစ် | ကာရာပင်လယ် | ၃၄၄၅ |
| ၆။ | မြစ်ဝါမြစ် | ဘိုဟိုင်းပင်လယ် | ၃၃၉၅ |
| ၇။ | အော့ဘ်အီရောတစ်မြစ် | အော့ဘ်ပင်လယ်ကွေ့ | ၃၃၆၄ |

| | | | |
|---|---|---|---|
| ၈။ | ရီယိုဒီလာပလာတာမြစ် | အတ္တလန္တိတ်သမုဒ္ဒရာ | ၃၀၃၀ |
| ၉။ | ကွန်ဂိုမြစ် | အတ္တလန္တိတ်သမုဒ္ဒရာ | ၂၉၂၂ |
| ၁၀။ | အေမာဂါဟန်ဂဟီတန်မြစ် | အိုကာဘတ်စ်ပင်လယ် | ၂၇၆၃ |

## ကမ္ဘာ့အံ့ဖွယ်ခုနစ်ပါး

၁။ ပီထရာရှေးဟောင်းအဆောက်အအုံ (ဂျော်ဒန်နိုင်ငံ)
၂။ မဟာတံတိုင်းကြီး (တရုတ်ပြည်)
၃။ ယေရှုခရစ်တော်ရုပ်တု (ဘရာဇီးလ်နိုင်ငံ)
၄။ ချီချန်အီဇာအဆောက်အအုံ (မက္ကဆီကိုနိုင်ငံ)
၅။ တာ့ဂျ်မဟာအဆောက်အအုံ (အိန္ဒိယနိုင်ငံ)
၆။ မာချူပီချူရှေးဟောင်းမြို့ (ပီရူးနိုင်ငံ)
၇။ ဂိုမင်ကိုလိုစီယမ်ရှေးဟောင်းအားကစားရုံ (အီတလီနိုင်ငံ)

## ကမ္ဘာ့အကြီးဆုံးသဲကန္တာရများ

| စဉ် | အမည် | တည်ရှိရာဒေသ | အကျယ်အဝန်း ကီလိုမီတာ |
|---|---|---|---|
| ၁။ | ဆာဟာရ | အတ္တလန္တိတ်သမုဒ္ဒရာမှ ပင်လယ်နီဒေသအထိ ကျယ်ဝန်းပြီး မြောက်အာဖရိကဒေသအတွင်း တည်ရှိသည်။ | ၉,၀၀၀,၀၀၀ |
| ၂။ | အာရေဗျ | အာရေဗျကျွန်းဆွယ် | ၁,၃၀၀,၀၀၀ |
| ၃။ | ကိုဘီ | မွန်ဂိုလီးယားနိုင်ငံ တောင်ပိုင်းမှ တရုတ်ပြည်သူ့သမ္မတနိုင်ငံ မြောက်ပိုင်းအထိ | ၁,၃၀၀,၀၀၀ |
| ၄။ | ဂရိတ်ဗစ်တိုးရီးယား | သြစတြေးလျနိုင်ငံတောင်ပိုင်း | ၆၄၇,၀၀၀ |
| ၅။ | ကာလာဟာရီ တောင်အာဖရိက နိုင်ငံ | ဘော့စဝါးနား၊ နမီးဘီးယားနှင့် တောင်အာဖရိကနိုင်ငံ အစိတ်အပိုင်းများ အပါအဝင် တောင်အာဖရိကဒေသ အတွင်း တည်ရှိသည်။ | ၅၀၀,၀၀၀ |

## လူပြောအများဆုံး ကမ္ဘာ့ဘာသာစကားများ

၁။ တရုတ်
၂။ စပိန်
၃။ အင်္ဂလိပ်
၄။ အာရဗီ
၅။ ဟင်ဒူစတန်နီ
၆။ ဘင်္ဂါလီ
၇။ ပေါ်တူဂီ
၈။ ရုရှား
၉။ ဂျပန်
၁၀။ လန်ဒါ

## ကမ္ဘာ့လူဦးရေစုစုပေါင်း

ကမ္ဘာ့လူဦးရေသည် ၂၀၂၀ ပြည့်နှစ်၊ မတ်လတွင် ခန့်မှန်းခြေ ၇ ဒသမ ၇၇ ဘီလီယံရှိပြီး ၂၁၀၀ ပြည့်နှစ်တွင် ၁၁ ဒသမ ၂ ဘီလီယံအထိ ရောက်ရှိနိုင်ကြောင်း ကမ္ဘာ့ကုလသမဂ္ဂအဖွဲ့က ခန့်မှန်းထားသည်။

## လူဦးရေအများဆုံး (၁၀)နိုင်ငံ

| အဆင့် | နိုင်ငံ | လူဦးရေ |
|---|---|---|
| ၁။ | တရုတ် | ၁၄၃၉၃၂၃၇၇၆ |
| ၂။ | အိန္ဒိယ | ၁၃၈၀၀၀၄၃၈၅ |
| ၃။ | အမေရိကန် | ၃၃၁၀၀၂၆၅၁ |
| ၄။ | အင်ဒိုနီးရှား | ၂၇၃၅၂၃၆၁၅ |
| ၅။ | ပါကစ္စတန် | ၂၂၀၈၉၂၃၄၀ |
| ၆။ | ဘရာဇီးလ် | ၂၁၂၅၅၉၄၁၇ |
| ၇။ | နိုင်ဂျီးရီးယား | ၂၀၆၁၃၉၅၈၉ |
| ၈။ | ဘင်္ဂလားဒေ့ရှ် | ၁၆၄၆၈၉၃၈၃ |
| ၉။ | ရုရှ | ၁၄၅၉၃၄၄၆၂ |
| ၁၀။ | မက္ကဆီကို | ၁၂၈၉၃၂၇၅၃ |

## လူဦးရေအနည်းဆုံး (၁၀)နိုင်ငံ

| အဆင့် | နိုင်ငံ | လူဦးရေ |
|---|---|---|
| ၁။ | ဟိုဆေး | ၈၀၁ |
| ၂။ | တိုကာလူး | ၁၃၅၇ |
| ၃။ | နီရူး | ၁၆၂၆ |
| ၄။ | ဖောက်ကလန်ကျွန်း | ၃၄၈၀ |
| ၅။ | မွန်ဆာရတ် | ၄၉၉၂ |
| ၆။ | စိန့်ပီယားနှင့် မစ်ကလန် | ၅၇၉၄ |
| ၇။ | စိန့်ဟယ်လန်နာ | ၆၀၇၇ |
| ၈။ | စိန့်ဘတ်သယ်လစ်မိုင် | ၉၈၇၇ |
| ၉။ | နော်ရူး | ၁၀၈၂၄ |
| ၁၀။ | ဝေါလ်လစ်နှင့် ဖူတူးနား | ၁၁၂၃၉ |

## လူဦးရေအများဆုံးမြို့ကြီးများ

| အဆင့် | မြို့တော် | နိုင်ငံ | တစ်မိုင်ပတ်လည်အတွင်း နေထိုင်သည့် လူဦးရေ |
|---|---|---|---|
| ၁။ | တိုကျို | ဂျပန် | ၃၈၅၀၅၀၀၀ |
| ၂။ | ဂျက်ကာတာ | အင်ဒိုနီးရှား | ၃၄၃၆၅၀၀၀ |
| ၃။ | မနီလာ | ဖိလစ်ပိုင် | ၂၉၇၀၀၀၀၀ |
| ၄။ | ဒေလီ | အိန္ဒိယ | ၂၈၁၂၅၀၀၀ |
| ၅။ | ဆိုးလ် | တောင်ကိုးရီးယား | ၂၄၃၁၅၀၀၀ |
| ၆။ | မွန်ဘိုင်း | အိန္ဒိယ | ၂၃၆၄၅၀၀၀ |
| ၇။ | ရှန်ဂရီ | တရုတ် | ၂၂၁၂၅၀၀၀ |
| ၈။ | ဆိုးပေါင်လို | ဘရာဇီးလ် | ၂၀၉၃၅၀၀၀ |
| ၉။ | ဘေဂျင်း | တရုတ် | ၁၉၄၃၀၀၀၀ |
| ၁၀။ | နယူးယောက် | အမေရိကန် | ၂၁၀၄၅၀၀၀ |
| ၁၁။ | လေဂို | နိုင်ဂျီးရီးယား | ၁၄၆၃၀၀၀၀ |

## လူဦးရေအထူထပ်ဆုံး (၁၀) နိုင်ငံ

| အဆင့် | မြို့တော် | နေထိုင်သည့်ဦးရေ |
|---|---|---|
| ၁။ | မကာအို | ၂၁၃၀၀ ခန့် |
| ၂။ | မိုနာကို | ၁၈၅၀၀ ခန့် |
| ၃။ | စင်ကာပူ | ၇၈၀၀ ခန့် |
| ၄။ | ဟောင်ကောင် | ၆၇၀၀ ခန့် |
| ၅။ | ဂျီဘရာလ်တာ | ၄၉၀၀ ခန့် |
| ၆။ | ဘာရိန်း | ၁၉၀၀ ခန့် |
| ၇။ | ဘာတီကန်စီးတီး | ၁၈၀၀ ခန့် |
| ၈။ | မော်လ်တာ | ၁၅၀၀ ခန့် |
| ၉။ | မော်ဒိုက် | ၁၃၀၀ ခန့် |
| ၁၀။ | ဘာမြူဒါ | ၂၃၀၀ ခန့် |

## လူဦးရေအကျဲဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | (၁) စတုရန်းကီလိုမီတာတွင် နေထိုင်သည့်ဦးရေ |
|---|---|---|
| ၁။ | ဂရင်းလန်း | ၀.၀၁ |
| ၂။ | ဖောက်ကလန်ကျွန်း | ၀.၂၈ |
| ၃။ | မွန်ဂိုလီးယား | ၂.၀၆ |
| ၄။ | အနောက်ဆာဟာရ | ၂.၁၉ |
| ၅။ | နမ်မီးဘီးယား | ၃.၀၂ |
| ၆။ | အိုက်စ်လန်း | ၃.၂၉ |
| ၇။ | ဩစတြေးလျ | ၃.၂၈ |
| ၈။ | ဖရန့်ဂီယာနာ | ၃.၄၈ |
| ၉။ | ဆူရီနာမီ | ၃.၅၅ |
| ၁၀။ | ဂိုင်ယာနာ | ၃.၆၄ |

## မြေဧရိယာအကျယ်ဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | မြေပြင်ဧရိယာ (စတုရန်းကီလိုမီတာ) | ရေပြင်ဧရိယာ (စတုရန်းကီလိုမီတာ) |
|---|---|---|---|
| ၁။ | ရုရှား | ၁၆၃၇၇၇၄၂ | ၇၂၀၅၀၀ |
| ၂။ | ကနေဒါ | ၉၀၉၃၅၀၇ | ၈၉၁၁၆၃ |
| ၃။ | တရုတ် | ၉၃၂၆၄၁၀ | ၂၇၀၅၅၀ |
| ၄။ | အမေရိကန် | ၉၁၄၇၆၄၃ | ၆၈၅၉၂၄ |
| ၅။ | ဘရာဇီးလ် | ၈၄၆၀၄၁၅ | ၅၅၃၅၂ |
| ၆။ | သြစတြေးလျ | ၇၆၃၃၅၆၅ | ၅၈၄၉၅ |
| ၇။ | အိန္ဒိယ | ၂၉၇၃၁၉၀ | ၃၁၄၀၇၃ |
| ၈။ | အာဂျင်တီးနား | ၂၇၃၆၆၉၀ | ၄၃၇၁၀ |
| ၉။ | ကာဇက်စတန် | ၂၆၆၉၇၀၀ | ၂၅၂၀၀ |
| ၁၀။ | အယ်လ်ဂျီးရီးယား | ၂၃၈၁၇၄၁ | ၀ |

## မြေဧရိယာအကျဉ်းဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | မြေပြင်ဧရိယာ (စတုရန်းကီလိုမီတာ) | ရေပြင်ဧရိယာ (စတုရန်းကီလိုမီတာ) |
|---|---|---|---|
| ၁။ | ဗာတီကန်စီးတီး | ၀.၁၇ | ၀ |
| ၂။ | မိုနာကို | ၂.၀၂ | ၀ |
| ၃။ | နော်ရူး | ၂၁ | ၀ |
| ၄။ | တူဗာလူး | ၂၆ | ၀ |
| ၅။ | စန်မာရီနို | ၆၁ | ၀ |
| ၆။ | လီချင်စတိန်း | ၁၆၀ | ၀ |
| ၇။ | မာရှယ်ကျွန်းစု | ၁၈၁ | ၁၁၆၇၃ |
| ၈။ | စိန့်ကစ်နှင့်နီဗစ် | ၂၆၁ | ၀ |
| ၉။ | မော်လ်ဒိုက် | ၂၉၈ | ၀ |
| ၁၀။ | မော်လ်တာ | ၃၁၆ | ၀ |

## ကမ္ဘာ့အချမ်းသာဆုံး (၁၀) နိုင်ငံ

| အဆင့် | နိုင်ငံ | တစ်ဦးချင်းဝင်ငွေ (ဒေါ်လာ) |
|---|---|---|
| ၁။ | လူဇင်ဘက် | ၁၁၉၇၁၉ |
| ၂။ | နော်ဝေ | ၈၆၃၆၂ |
| ၃။ | ဆွစ်ဇာလန် | ၈၃၈၃၂ |
| ၄။ | အိုင်ယာလန် | ၈၁၄၇၇ |
| ၅။ | အိုက်စ်လန် | ၇၈၁၈၁ |
| ၆။ | ကာတာ | ၆၅၀၆၂ |
| ၇။ | အမေရိကန် | ၆၄၉၀၆ |
| ၈။ | ဒိန်းမက် | ၆၃၄၃၄ |
| ၉။ | စင်ကာပူ | ၆၂၆၉၀ |
| ၁၀။ | ဩစတြေးလျ | ၅၈၈၂၄ |

## ကမ္ဘာ့အချမ်းသာဆုံးပုဂ္ဂိုလ် (၁၀) ဦး

| စဉ် | အမည် | နိုင်ငံ | ပိုင်ဆိုင်မှု |
|---|---|---|---|
| ၁။ | Jeff Bezos | အမေရိကန်နိုင်ငံ | ၁၁၉.၉ ဘီလီယံဒေါ်လာ |
| ၂။ | Bill Gates | အမေရိကန်နိုင်ငံ | ၁၁၃.၁ ဘီလီယံဒေါ်လာ |
| ၃။ | Bernard Arnault | ပြင်သစ်နိုင်ငံ | ၁၀၆.၂ ဘီလီယံဒေါ်လာ |
| ၄။ | Warren Buffett | အမေရိကန်နိုင်ငံ | ၈၉.၄ ဘီလီယံဒေါ်လာ |
| ၅။ | Mark Zuckerberg | အမေရိကန်နိုင်ငံ | ၇၉.၃ ဘီလီယံဒေါ်လာ |
| ၆။ | Amancio Ortega | စပိန်နိုင်ငံ | ၇၇ ဘီလီယံဒေါ်လာ |
| ၇။ | Larry Ellison | အမေရိကန်နိုင်ငံ | ၆၉.၄ ဘီလီယံဒေါ်လာ |
| ၈။ | Carlos Slim Helu | မက္ကဆီကိုနိုင်ငံ | ၆၉.၂ ဘီလီယံဒေါ်လာ |
| ၉။ | Larry Page | အမေရိကန်နိုင်ငံ | ၆၇.၉ ဘီလီယံဒေါ်လာ |
| ၁၀။ | Sergey Brin | အမေရိကန်နိုင်ငံ | ၆၅.၅ ဘီလီယံဒေါ်လာ |

## နိဘယ်ဆု(၆)မျိုး

၁။ ဆေးဝါးထူးချွန်ဆု
၂။ စာပေဆု
၃။ ရူပဗေဒထူးချွန်ဆု
၄။ ဓာတုဗေဒထူးချွန်ဆု
၅။ ငြိမ်းချမ်းရေးဆု
၆။ စီးပွားရေးသိပ္ပံထူးချွန်ဆု

## စကြာဝဠာဂြိုဟ်ကြီး(၈)လုံး

| စဉ် | ဂြိုဟ်အမည် | မြန်မာအခေါ် | အင်္ဂလိပ်အခေါ် | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ကမ္ဘာ | ကမ္ဘာ | Earth | သက်ရှိများနေထိုင်သောဂြိုဟ် |
| ၂။ | အင်္ဂါ | မားစ် | Mars | အနီရောင်ရှိဂြိုဟ် |
| ၃။ | ဗုဒ္ဓဟူး | မာကျူရီ | Mercury | နေနှင့်အနီးဆုံးဂြိုဟ် |
| ၄။ | ကြာသပတေး | ဂျူပီတာ | Jupiter | အကြီးဆုံးဂြိုဟ် |
| ၅။ | သောကြာ | ဗီးနပ်စ် | Venus | အတောက်ပဆုံးဂြိုဟ် |
| ၆။ | စနေ | စေတန် | Saturn | အဝါရောင်ရှိဂြိုဟ် |
| ၇။ | ယူရေးနပ်စ် | ယူရေးနပ်စ် | Uranus | ဝင်ရိုးပေါ် ပြောင်းပြန်လည် |
| ၈။ | နတ်ပ်ကျွန်း | နပ်ပကျွန်း | Neptune | အပြာရောင်ရှိဂြိုဟ် |

## ကမ္ဘာ့ထင်ရှားသောပင်လယ်များ

(က) မြေထဲပင်လယ် (အကြီးဆုံး)
( ခ ) ပင်လယ်သေ (အသေးဆုံး)
( ဂ ) ဟက်ဆမ်ပင်လယ် (အကျယ်ဆုံး)
(ဃ) အမေရိကန်ပင်လယ် (အနက်ဆုံး)
( င ) ဘောလ်တစ်ပင်လယ် (အတိမ်ဆုံး)
( စ ) ကက်စပီယံပင်လယ် (အကြီးဆုံးအိုင်)

## ကမ္ဘာ့အကြီးဆုံးရေတံခွန်များ

(က) **ဝိတိုရိယရေတံခွန်**
တည်ရှိသည့်နေရာ - ဇမ်ဘီယာနှင့်ဇင်ဘာဘွေနိုင်ငံအကြား
အမြင့် - တစ်မိုင်ခန့်

( ခ ) **နိုင်ရာဂါရာရေတံခွန်**
တည်ရှိသည့်နေရာ - ကနေဒါနိုင်ငံ
အမြင့် - ပေ-၃၂၀၀

( ဂ ) **အိန်ဂျယ်လ်ရေတံခွန်**
တည်ရှိသည့်နေရာ - ဗင်နီဇွဲလားနိုင်ငံ
အမြင့် - ပေ-၁၀၀၀

(ဃ) **အိဂွစူရေတံခွန်**
တည်ရှိသည့်နေရာ - အာဂျင်တီးနားနှင့်ဘရာဇီးနိုင်ငံတို့အကြား
အမြင့် - ပေ - ၂၆၉

## ကမ္ဘာပေါ်တွင်တိုက်ခတ်လျက်ရှိသော မုန်တိုင်းအမျိုးအစားများ

| စဉ် | ဖြစ်ပေါ်ရာနေရာဒေသ | မုန်တိုင်းအမျိုးအစား |
|---|---|---|
| ၁။ | အိန္ဒိယသမုဒ္ဒရာ | ဆူနာမီ |
| ၂။ | ပစိဖိတ်နှင့်အတ္တလန္တိတ်သမုဒ္ဒရာ | ဟာရီကိန်း |
| ၃။ | တောင်တရုတ်ပင်လယ် | တိုင်ဖွန်း |
| ၄။ | ဘင်္ဂလားပင်လယ်အော် | ဆိုင်ကလုန်း |

## ကမ္ဘာ့ရေနံတင်ပို့မှုအများဆုံးနိုင်ငံ

၁။ ဆော်ဒီအာရေဗျနိုင်ငံ
၂။ ရုရှားနိုင်ငံ
၃။ အီရတ်နိုင်ငံ
၄။ အမေရိကန်နိုင်ငံ
၅။ ကနေဒါနိုင်ငံ
၆။ ယူအေအီးနိုင်ငံ
၇။ ကူဝိတ်နိုင်ငံ
၈။ နိုင်ဂျီးရီးယားနိုင်ငံ
၉။ ကာတာနိုင်ငံ
၁၀။ အန်ဂိုလာနိုင်ငံ

## ကမ္ဘာ့ရေနံတင်သွင်းမှုအများဆုံးနိုင်ငံ

၁။ တရုတ်နိုင်ငံ
၂။ အမေရိကန်နိုင်ငံ
၃။ အိန္ဒိယနိုင်ငံ
၄။ ဂျပန်နိုင်ငံ
၅။ တောင်ကိုရီးယားနိုင်ငံ
၆။ ဂျာမနီနိုင်ငံ
၇။ ဖိလစ်ပိုင်နိုင်ငံ
၈။ အီတလီနိုင်ငံ
၉။ စပိန်နိုင်ငံ
၁၀။ အင်္ဂလန်နိုင်ငံ

## ကမ္ဘာ့ရေနံအကြွယ်ဝဆုံးနိုင်ငံများ

၁။ ဗင်နီဇွဲလားနိုင်ငံ
၂။ ဆော်ဒီအာရေဗျနိုင်ငံ
၃။ အီရန်နိုင်ငံ
၄။ ကနေဒါနိုင်ငံ
၅။ အီရတ်နိုင်ငံ
၆။ ယူအေအီးနိုင်ငံ
၇။ ကူဝိတ်နိုင်ငံ
၈။ ရုရှားနိုင်ငံ
၉။ လစ်ဗျားနိုင်ငံ
၁၀။ နိုင်ဂျီးရီးယားနိုင်ငံ

## ၂၀၁၉ ခုနှစ်အတွင်း ကမ္ဘာ့ဆန်တင်ပို့မှု အများဆုံး (၁၀)နိုင်ငံ

| စဉ် | နိုင်ငံ | ဆန်တင်ပို့မှု (၁၀၀၀ မက်ထရစ်တန်) |
|---|---|---|
| ၁။ | အိန္ဒိယ | ၁၂၅၀၀ |
| ၂။ | ထိုင်း | ၁၀၃၀၀ |
| ၃။ | ဗီယက်နမ် | ၇၀၀၀ |
| ၄။ | ပါကစ္စတန် | ၄၂၅၀ |
| ၅။ | အမေရိကန် | ၃၂၀၀ |
| ၆။ | မြန်မာ | ၃၀၀၀ |
| ၇။ | တရုတ် | ၁၉၀၀ |
| ၈။ | ကမ္ဘောဒီးယား | ၁၃၀၀ |
| ၉။ | ဘရာဇီး | ၈၅၀ |
| ၁၀။ | ဥရုဂွေး | ၈၀၀ |

## ကမ္ဘာ့အကြီးဆုံး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဒေသ ၁၀ ခု

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဒေသတွင် ဂေဟာစနစ်ဆိုင်ရာ သဘာဝ ပတ်ဝန်းကျင်နှင့် သို့မဟုတ် ယဉ်ကျေးမှုဆိုင်ရာ တန်ဖိုးများ မပျက်စီးအောင် ထိန်းသိမ်းခြင်းခံထားရသည့် သီးခြားသတ်မှတ်ထားသော ဒေသဖြစ်သည်။ အစိုးရ များသည် ယင်းဒေသများအား လူတို့၏ စီမံခန့်ခွဲမှုတက်နိုင်သမျှ အနည်းဆုံးနှင့် သဘာဝအတိုင်း ဆက်လက်လည်ပတ်နေစေရန် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း စောင့်ရှောက်သူများနှင့် ပူးပေါင်းလုပ်ဆောင်ကြသည်။ဘေးမဲ့ဒေသအများအပြား ထိန်းသိမ်းထားခြင်းအားဖြင့် ဇီဝမျိုးစိတ်များ မျိုးသုဉ်းပျောက်ကွယ်မှုမှ ရပ်တန့် သို့မဟုတ် လျော့နည်းစေသည်။ လက်ရှိအချိန်၌ ကမ္ဘာကြီး၏ (ကုန်းမြေနှင့်ရေထု အပါအဝင်) ၁၀ မှ ၁၅ ရာခိုင်နှုန်းရှိသည့် ဘေးမဲ့ဒေသ ၁၆၀၀၀၀ ကျော်ရှိသည်။

### ၁။ ဝရန်းဂဲလ်-စိန့်အီလီယက်စ် အမျိုးသားဥယျာဉ်

၅၃၃၂၁ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ အလာစကာတောင်ပိုင်းတွင် တည်ရှိသည့်အဆိုပါ အမေရိကန် အမျိုးသားဥယျာဉ်သည် ကုလသမဂ္ဂပညာရေး၊ သိပ္ပံနှင့်ယဉ်ကျေးမှုအဖွဲ့ (ယူနက်စကို) ၏ ကမ္ဘာ့အမွေအနှစ်ဒေသတစ်ခုအဖြစ် လည်း သတ်မှတ်ခံထားရသည်။ နိုင်ငံတကာဆိုင်ရာ လေထုထိန်းသိမ်းရေးတွင်လည်း ပါဝင်သည်။ အမေရိကန်ပြည်ထောင်စုတွင် အကြီးဆုံးအမျိုးသားဥယျာဉ်ဖြစ်ပြီး ပြည်နယ်ကိုးခုထက်ပင် ကြီးမားသည်။ ယင်းဥယျာဉ်အတွင်းတွင်တည်ရှိသည့် စိန့်အီ လီယက်စ်တောင်သည် ကနေဒါနှင့်အမေရိကန်ပြည်ထောင်စု၌ ဒုတိယအမြင့်ဆုံး တောင်ဖြစ်ပြီး အမေရိကန်ရှိ အမြင့်ဆုံးတောင် ၁၆ လုံးအနက် ကိုးလုံးမှာ ယင်းဥယျာဉ်တွင် တည်ရှိသည်။

### ၂။ အဲယားနှင့်တီရီသဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဒေသ

၇၇၃၆၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ နိုင်ဂျာနိုင်ငံတွင် တည်ရှိသည့် အဆိုပါဒေသသည် ယူနက်စကိုကမ္ဘာ့အမွေအနှစ်ဒေသအဖြစ် သတ်မှတ်ခံထားရသည်။ အဆိုပါဒေသသည် အဲယားတောင်တန်းအရှေ့ဘက်ပိုင်းတစ်ဝက်နှင့် တီနီရီကန္တာရ၏ အနောက်ပိုင်းဒေသများလည်း ပါဝင်သည်။ ယင်းဒေသတွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးပိုင်းနှင့် တောရိုင်းတိရစ္ဆာန် ကန့်သတ်ထိန်းသိမ်းရေးပိုင်းဟူ၍ နှစ်ပိုင်း ပါဝင်သည်။

## ၃။ ဂရိတ်လင်မ်ပိုပို နယ်စပ်ဖြတ်ကျော်ထိန်းသိမ်းရေးဒေသ

၉၉၈၀၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ အစဉ်ကြီးထွားနေသည့် အဆိုပါငြိမ်းချမ်းရေးဥယျာဉ်သည် မိုဇမ်ဘစ်၊ တောင်အာဖရိကနှင့် ဇင်ဘာဘွေ နိုင်ငံတို့၏ ကုန်းမြေများပါဝင်ပြီး ဘန်ဟိုင်းအမျိုးသားဥယျာဉ်၊ ခရူဂါအမျိုးသား ဥယျာဉ်နှင့် လင်မ်ပိုပို အမျိုးသားဥယျာဉ်အပါအဝင် အမျိုးသားဥယျာဉ် ၁၀ ခု ပေါင်းစပ်ဖွဲ့စည်းထားရာဒေသဖြစ်သည်။ အာဖရိကဆင်များ၊ သစ်ကုလားအုပ်များ၊ အာဖရိကကျားသစ်၊ သစ်ကျုတ်နှင့်ခွေးအကျားများနှင့် အခြားတောရိုင်းတိရိစ္ဆာန်များ ကျက်စားရာဒေသဖြစ်သည်။

## ၄။ ဂါလာပါဂို့ ပင်လယ်ပြင်ထိန်းသိမ်းရေးဒေသ

၁၃၃၀၀၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ ဂါလာပါဂို့ကျွန်းစုသည် အီကွေဒေါကမ်းရိုးတန်းနှင့် ၁၀၀၀ ကီလိုမီတာ အကွာတွင်တည်ရှိသည်။ ဂါလာပါဂိုစ့် ပင်လယ်ပြင်ထိန်းသိမ်းရေးဒေသသည် ဖွံ့ဖြိုးဆဲနိုင်ငံများတွင် အကြီးဆုံး ပင်လယ်ပြင်ထိန်းသိမ်းရေးဒေသအဖြစ် ကမ္ဘာပေါ်တွင် ဒုတိယအကြီးဆုံးဖြစ်သည်။ ယင်းဒေသသည် ငမန်း၊ ဝေလငါး၊ လိပ်၊ ငါးနှင့် ငါးလိပ်ကျောက်မျိုးအပါအဝင် အဏ္ဏဝါသက်ရှိမျိုးစိတ် အများအပြား ကျင်လည်ကျက်စားရာဒေသဖြစ်သည်။ ပင်လယ်ရေ ရေပူနှင့် ရေနွေးစီးကြောင်းများနှင့် ရေချိုနှင့် ပင်လယ်ရေငန်များ ရောနှောစီးဆင်းရာဒေသဖြစ်ခြင်းကြောင့် ယင်းဒေသတွင် ထူးခြားသော မျိုးစိတ် အများအပြားရှိသည်။ ချားစ်ဒါဝင်သည် ၎င်း၏ဆင့်ကဲဖြစ်စဉ်သီအိုရီအတွက် မျိုးစိတ်အများအပြားကို ဤဒေသတွင် လေ့လာခဲ့သည်။

## ၅။ ခါဗန်ဂို-ဇမ်ဘီဇီနယ်စပ်ဖြတ်ကျော် ထိန်းသိမ်းရေးဒေသ

၂၈၇၁၃၂ ကီလိုမီတာကျယ်ဝန်းသည်။ အာဖရိကန်ကုန်းမြေပေါ်ရှိ အန်ဂိုလာ၊ ဇမ်ဘီယာ၊ ဘော့ဆွာနာ၊ နမ်မီးဘီးယားနှင့်ဇင်ဘာဘွေနိုင်ငံတို့၏ ကုန်းမြေများ ပါဝင်သည့် ဒေသဖြစ်သည်။ ချိုဘီအမျိုးသားဥယျာဉ် ဟွမ်ဂီအမျိုးသားဥယျာဉ်၊ အိုကာဗန်ဂိုမြစ်ဝကျွန်းပေါ်နှင့် ဗစ်တိုးရီးယားရေတံခွန်တို့ ပါဝင်သည့် အမျိုးသား ဥယျာဉ်အများအပြားပေါင်းစပ်ထားသည့် ထိန်းသိမ်းရေးဒေသဖြစ်သည်။

## ၆။ သန္တာကျောက်တန်း အဏ္ဏဝါဒေသ

၃၄၅၄၀၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ ယင်းသန္တာကျောက်တန်း ဥယျာဉ်တွင် ကမ္ဘာပေါ်ရှိ အကြီးဆုံးသန္တာကျောက်တန်းအစုအဝေးကြီး ပါဝင်ပြီး ထူးခြားဆန်းပြားသော အဏ္ဏဝါသက်ရှိမျိုးစိတ်များ ကျင်လည်ရာဒေသဖြစ်သည်။ သြစတြေးလျ၏ သန္တာကျောက်တန်းကြီးများ ပျက်စီးဆုံးရှုံးခြင်းမှ ကာကွယ်ရန်

ယင်းဒေသကို တည်ထောင်ခဲ့ခြင်း ဖြစ်သည်။

## ၇။ ပါဝါပန်နော်မိုကွာကီယာ အဏ္ဏဝါအမျိုးသား အထိမ်းအမှတ်ဒေသ

၃၆၀၀၀၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ အဆိုပါ ကမ္ဘာ့အမွေအနှစ်စာရင်းဝင် ထိန်းသိမ်းရေးဒေသသည် ဟာဝိုင်ယီပြည်နယ်ရှိ အမေရိကန်အမျိုးသားအထိမ်းအမှတ်ဒေသဖြစ်သည်။ ကျွန်းဆု ၁၀ ခုနှင့် အနောက်မြောက် ဟာဝိုင်ယီကျွန်းစု၏ အလယ်၌ ရေငန်အိုင်ရှိ သန္တာကျောက်ကျွန်းတို့ဖြင့် ဖွဲ့စည်းထားသည်။ ရှားပါးဟာဝိုင်ယီပင်လယ်ဖျံမျိုးအပါအဝင် သက်ရှိမျိုးစိတ် ၇၀၀၀ ခန့် ကျင်လည်ရာဒေသဖြစ်သည်။

## ၈။ ဖီးနစ်ကျွန်းစု ထိန်းသိမ်းရေးဒေသ

၄၀၈၂၅၀ ကီလိုမီတာ ကျယ်ဝန်းသည်။ ကီရီဘတ်တီနိုင်ငံတွင် တည်ရှိသည့်အဆိုပါဒေသသည် ပစိဖိတ်သမုဒ္ဒရာတွင် အကြီးဆုံးအဏ္ဏဝါပြင် ထိန်းသိမ်းရေးဒေသဖြစ်ပြီး ကမ္ဘာ့ပထမဆုံးရေနက်ပိုင်း၊ သမုဒ္ဒရာအလယ်ပိုင်းထိန်းသိမ်းရေးဒေသဖြစ်သည်။ ၁၉၃၇ ခုနှစ် ယင်းကျွန်းစုပေါ်တစ်ခုပေါ်တွင် လေယာဉ်ပျက်ကျရာမှ လေယာဉ်မှူး အမ်မလီယာအားဟတ် ပျောက်ဆုံးသည်ဟူသော ကောလဟာလများရှိသည်။

## ၉။ ချာဂိုစ့်အဏ္ဏဝါပြင် ကာကွယ်ထိန်းသိမ်းရေးဒေသ

၅၄၅၀၀၀ စတုရန်းကီလိုမီတာ ကျယ်ဝန်းသည်။ ဗြိတန်-အိန္ဒိယ သမုဒ္ဒရာပိုင်နက်နယ်မြေတွင်တည်ရှိသည့်အဆိုပါဒေသည်ကမ္ဘာ့ပေါ်တွင်အကြီးဆုံးအဏ္ဏဝါပြင်ကာကွယ်ထိန်းသိမ်းရေးဒေသဖြစ်သည်။ ပြင်သစ်နိုင်ငံထက်ပင် ကြီးမားပြီး မော်လ်ဒိုက်နိုင်ငံတောင်ဘက် ကီလိုမီတာ ၅၀၀ အကွာတွင် တည်ရှိသည်။ ချာဂိုစ့်ကျွန်းစု ၇ ခုသည် ဇီဝမျိုးကွဲများ ကြွယ်ဝပြီး ရင်သပ်ရှုမောဖွယ်ဒေသတစ်ခုဖြစ်သည်။

## ၁၀။ အရှေ့မြောက် ဂရင်းလန်း အမျိုးသားအထိမ်းအမှတ်ဒေသ

၉၇၂၀၀၀ စတုရန်းကီလိုမီတာ ကျယ်ဝဝင်ရိုးစွန်း ဝက်ဝံများ၊ အစွယ်ရှိပင်လယ်ဖျံမျိုးများ၊ အာတိတ်မြေခွေး၊ နွင်းဇီးကွက်များနှင့် အခြားသက်ရှိမျိုးစိတ်များကျက်စားရာဒေသဖြစ်သည်။ အရှေ့မြောက်ဂရင်းလန်သည် ကမ္ဘာပေါ်တွင်မြောက်ဘက်ပိုင်းအကျဆုံး ဝင်ရိုးစွန်း ဝက်ဝံများ၊ အစွယ်ရှိပင်လယ်ဖျံမျိုးများ၊ အာတိတ်မြေခွေး၊ နွင်းဇီးကွက်များနှင့် အခြားသက်ရှိမျိုးစိတ်များကျက်စားရာဒေသဖြစ်သည်။ အရှေ့မြောက်ဂရင်းလန်သည် ကမ္ဘာပေါ်တွင် မြောက်ဘက်ပိုင်းအကျဆုံး အထိမ်းအမှတ်ဒေသဖြစ်သည်။

## ကျင်းပပြီး အရှေ့တောင်အာရှ အားကစားပြိုင်ပွဲများတွင် နိုင်ငံအလိုက်အဆင့်နှင့် ဆုတံဆိပ်ရရှိမှုများ

| ခုနှစ် | အကြိမ် | အိမ်ရှင်နိုင်ငံ | ပထမ (ရွှေ) | ဒုတိယ (ငွေ) | တတိယ (ကြေး) | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁၉၅၉ | ၁ | ထိုင်း | ထိုင်း(၃၅) | မြန်မာ(၁၁) | မလေးရှား(၈) | မြန်မာ ဒုတိယ |
| ၁၉၆၁ | ၂ | မြန်မာ | မြန်မာ(၃၅) | ထိုင်း(၂၁) | မလေးရှား(၁၆) | မြန်မာပထမ |
| ၁၉၆၅ | ၃ | မလေးရှား | ထိုင်း(၃၈) | မလေးရှား(၃၃) | စင်္ကာပူ(၂၆) | |
| ၁၉၆၇ | ၄ | ထိုင်း | ထိုင်း(၇၇) | စင်္ကာပူ(၂၈) | မလေးရှား(၂၃) | |
| ၁၉၆၉ | ၅ | မြန်မာ | မြန်မာ(၅၇) | ထိုင်း(၃၂) | စင်္ကာပူ(၃၁) | မြန်မာပထမ |
| ၁၉၇၁ | ၆ | မလေးရှား | ထိုင်း(၄၄) | မလေးရှား(၄၁) | စင်္ကာပူ (၃၂) | |
| ၁၉၇၃ | ၇ | စင်ကာပူ | ထိုင်း(၄၇) | စင်္ကာပူ (၄၅) | မလေးရှား(၃၀) | |
| ၁၉၇၅ | ၈ | ထိုင်း | ထိုင်း(၈၀) | စင်္ကာပူ (၃၈) | မြန်မာ (၂၈) | မြန်မာ တတိယ |
| ၁၉၇၇ | ၉ | မလေးရှား | အင်ဒိုနီးရှား(၆၂) | ထိုင်း (၃၇) | ဖိလစ်ပိုင် (၃၁) | |
| ၁၉၇၉ | ၁၀ | အင်ဒိုနီးရှား | အင်ဒိုနီးရှား(၉၂) | ထိုင်း (၅၀) | မြန်မာ(၂၅) | မြန်မာ တတိယ |
| ၁၉၈၁ | ၁၁ | ဖိလစ်ပိုင် | အင်ဒိုနီးရှား(၈၅) | ထိုင်း (၆၂) | ဖိလစ်ပိုင်(၅၅) | |
| ၁၉၈၃ | ၁၂ | စင်ကာပူ | အင်ဒိုနီးရှား(၆၄) | ဖိလစ်ပိုင် (၄၉) | ထိုင်း(၄၉) | |
| ၁၉၈၅ | ၁၃ | ထိုင်း | ထိုင်း(၉၂) | အင်ဒိုနီးရှား(၆၂) | ဖိလစ်ပိုင်(၄၃) | |
| ၁၉၈၇ | ၁၄ | အင်ဒိုနီးရှား | အင်ဒိုနီးရှား(၁၈၃) | ထိုင်း(၆၃) | ဖိလစ်ပိုင်(၅၉) | |

| ခုနှစ် | အကြိမ် | အိမ်ရှင်နိုင်ငံ | ပထမ (ရွှေ) | ဒုတိယ (ငွေ) | တတိယ (ကြေး) | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁၉၈၉ | ၁၅ | မလေးရှား | အင်ဒိုနီးရှား(၁၀၂) | မလေးရှား(၆၇) | ထိုင်း(၆၂) | |
| ၁၉၉၁ | ၁၆ | ဖိလစ်ပိုင် | အင်ဒိုနီးရှား(၉၂) | ဖိလစ်ပိုင်(၉၁) | ထိုင်း(၇၂) | |
| ၁၉၉၃ | ၁၇ | စင်ကာပူ | အင်ဒိုနီးရှား(၈၈) | ထိုင်း(၆၃) | ဖိလစ်ပိုင်(၅၇) | |
| ၁၉၉၅ | ၁၈ | ထိုင်း | ထိုင်း(၁၅၇) | အင်ဒိုနီးရှား(၇၇) | ဖိလစ်ပိုင်(၃၃) | |
| ၁၉၉၇ | ၁၉ | အင်ဒိုနီးရှား | အင်ဒိုနီးရှား(၁၉၄) | ထိုင်း(၈၃) | မလေးရှား(၅၅) | |
| ၁၉၉၉ | ၂၀ | ဘရူနိုင်း | ထိုင်း(၆၅) | မလေးရှား(၅၇) | အင်ဒိုနီးရှား(၄၄) | |
| ၂၀၀၁ | ၂၁ | မလေးရှား | မလေးရှား(၁၁၁) | ထိုင်း(၁၀၃) | အင်ဒိုနီးရှား(၇၂) | |
| ၂၀၀၃ | ၂၂ | ဗီယက်နမ် | ဗီယက်နမ်(၁၅၈) | ထိုင်း(၉၀) | အင်ဒိုနီးရှား(၅၅) | |
| ၁၉၈၉ | ၁၅ | မလေးရှား | အင်ဒိုနီးရှား(၁၀၂) | မလေးရှား(၆၇) | ထိုင်း(၆၂) | |
| ၂၀၀၅ | ၂၃ | ဖိလစ်ပိုင် | ဖိလစ်ပိုင်(၁၁၃) | ထိုင်း(၈၇) | ဗီယက်နမ်(၇၁) | |
| ၂၀၀၇ | ၂၄ | ထိုင်း | ထိုင်း(၁၈၃) | မလေးရှား(၆၈) | ဗီယက်နမ်(၆၄) | |
| ၂၀၀၉ | ၂၅ | လာအို | ထိုင်း(၈၆) | ဗီယက်နမ်(၈၃) | အင်ဒိုနီးရှား(၄၃) | |
| ၂၀၁၁ | ၂၆ | အင်ဒိုနီးရှား | အင်ဒိုနီးရှား(၁၈၂) | ထိုင်း(၁၀၉) | ဗီယက်နမ်(၉၆) | |
| ၂၀၁၃ | ၂၇ | မြန်မာ | ထိုင်း(၁၀၈) | မြန်မာ(၈၄) | ဗီယက်နမ်(၇၄) | မြန်မာဒုတိယ |
| ၂၀၁၅ | ၂၈ | စင်ကာပူ | ထိုင်း(၉၅) | စင်္ကာပူ(၈၄) | ဗီယက်နမ်(၇၃) | |
| ၂၀၁၇ | ၂၉ | မလေးရှား | မလေးရှား(၁၄၅) | ထိုင်း(၇၂) | ဗီယက်နမ်(၅၈) | |
| ၂၀၁၉ | ၃၀ | ဖိလစ်ပိုင် | ဖိလစ်ပိုင်(၁၄၉) | ဗီယက်နမ်(၉၈) | ထိုင်း(၉၂) | |
| ၂၀၁၉ | ၃၁ | ဗီယက်နမ်နိုင်ငံက အိမ်ရှင်အဖြစ် လက်ခံကျင်းပမည်ဖြစ်သည်။ | | | | |

## တောင်အာရှအားကစားပြိုင်ပွဲ
## (South Asia Football Federation – SAFF)

| စဉ် | ခုနှစ် | အိမ်ရှင်နိုင်ငံ | ချန်ပီယံအသင်း |
|---|---|---|---|
| ၁။ | ၁၉၉၃ | ပါကစ္စတန် | အိန္ဒိယ |
| ၂။ | ၁၉၉၅ | သီရိလင်္ကာ | သီရိလင်္ကာ |
| ၃။ | ၁၉၉၇ | နီပေါ | အိန္ဒိယ |
| ၄။ | ၁၉၉၉ | အိန္ဒိယ | အိန္ဒိယ |
| ၅။ | ၂၀၀၃ | ဘင်္ဂလားဒေ့ရှ် | ဘင်္ဂလားဒေ့ရှ် |
| ၆။ | ၂၀၀၅ | ပါကစ္စတန် | အိန္ဒိယ |
| ၇။ | ၂၀၀၈ | မော်လ်ဒိုက်+သီရိလင်္ကာ | မော်လ်ဒိုက် |
| ၈။ | ၂၀၀၉ | ဘင်္ဂလားဒေ့ရှ် | အိန္ဒိယ |
| ၉။ | ၂၀၁၁ | အိန္ဒိယ | အိန္ဒိယ |
| ၁၀။ | ၂၀၁၃ | နီပေါ | အာဖဂန်နစ္စတန် |
| ၁၁။ | ၂၀၁၅ | အိန္ဒိယ | အိန္ဒိယ |
| ၁၂။ | ၂၀၁၈ | ဘင်္ဂလားဒေ့ရှ် | မော်ဒိုက် |
| ၁၃။ | ၂၀၂၀ | ဘင်္ဂလားဒေ့ရှ် | |

## ကမ္ဘာ့ဖလားဘောလုံးပြိုင်ပွဲ (World Cup)

| စဉ် | ခုနှစ် | အိမ်ရှင်နိုင်ငံ | ချန်ပီယံအသင်း |
|---|---|---|---|
| ၁။ | ၁၉၃၀ | ဥရုဂွေး | ဥရုဂွေး |
| ၂။ | ၁၉၃၄ | အီတလီ | အီတလီ |
| ၃။ | ၁၉၃၈ | ပြင်သစ် | အီတလီ |
| ၄။ | ၁၉၅၀ | ဘရာဇီးလ် | ဥရုဂွေး |
| ၅။ | ၁၉၅၄ | ဆွစ်ဇာလန် | ဂျာမနီ |
| ၆။ | ၁၉၅၈ | ဆွီဒင် | ဘရာဇီးလ် |
| ၇။ | ၁၉၆၂ | ချီလီ | ဘရာဇီးလ် |
| ၈။ | ၁၉၆၆ | အင်္ဂလန် | အင်္ဂလန် |
| ၉။ | ၁၉၇၀ | မက္ကဆီကို | ဘရာဇီးလ် |
| ၁၀။ | ၁၉၇၄ | ဂျာမနီ (န) | ဂျာမနီ |
| ၁၁။ | ၁၉၇၈ | အာဂျင်တီးနား | အာဂျင်တီးနား |
| ၁၂။ | ၁၉၈၂ | စပိန် | အီတလီ |
| ၁၃။ | ၁၉၈၆ | မက္ကဆီကို | အာဂျင်တီးနား |
| ၁၄။ | ၁၉၉၀ | အီတလီ | ဂျာမနီ (န) |
| ၁၅။ | ၁၉၉၄ | အမေရိကန် | ဘရာဇီးလ် |
| ၁၆။ | ၁၉၉၈ | ပြင်သစ် | ပြင်သစ် |
| ၁၇။ | ၂၀၀၂ | ဂျပန်+ကိုရီးယား | ဘရာဇီးလ် |
| ၁၈။ | ၂၀၀၆ | ဂျာမနီ | အီတလီ |
| ၁၉။ | ၂၀၁၀ | တောင်အာဖရိက | စပိန် |
| ၂၀။ | ၂၀၁၄ | ဘရာဇီးလ် | ဂျာမနီ |
| ၂၁။ | ၂၀၁၈ | ရုရှား | ပြင်သစ် |
| ၂၂။ | ၂၀၂၂ | ကာတာ | |

## ကမ္ဘာ့စစ်ပွဲများ

၁။ **ပထမကမ္ဘာစစ်(၁၉၁၄–၁၉၁၈)**

(က) စတင်ဖြစ်ပွားသည့်ရက် - ၁၉၁၄ ခုနှစ်၊ ဇွန်လ ၂၈ ရက်

(ခ) ပြီးဆုံးသည့်ရက် - ၁၉၁၈ ခုနှစ်၊ နိုဝင်ဘာ ၁၁ ရက်တွင် စစ်ပြေငြိမ်းခဲ့ပြီး ၁၉၁၉ ခုနှစ်၊ ဇွန်လ ၂၈ ရက်နေ့တွင် ဗာဆိုင်းစာချုပ်ချုပ်ဆိုပြီး စစ်ပွဲပြီးဆုံးခဲ့သည်။

(ဂ) စစ်ဖြစ်ပွားရခြင်းအကြောင်းရင်း - ဩစတြီးယားအိမ်ရှေ့မင်းသား ဖရန်စစ်ဖာဒီနန်နှင့် ကြင်ရာတော်တို့ ဆာရာဂျေဗိုမြို့တွင် လုပ်ကြံခံရပြီး ဆားဘီးယားတို့၏ လုပ်ကြံမှုဟု ဩစတြီးယားကစွပ်စွဲပြီး စစ်ကြေညာခဲ့သည်။

(ဃ) တိုက်ခိုက်ကြသောနိုင်ငံများ - ဂျာမနီ၊ ဩစတြီးယား၊ အမေရိကန်၊ အင်္ဂလိပ်၊ အီတလီ၊ ပြင်သစ်၊ ရုရှား

၂။ **ဒုတိယကမ္ဘာစစ်(၁၉၃၉–၁၉၄၅)**

(က) စတင်ဖြစ်ပွားသည့်ရက် - ၁၉၃၉ ခုနှစ်၊ စက်တင်ဘာလ ၃ ရက်

(ခ) ပြီးဆုံးသည့်ရက် - ၁၉၄၅ ခုနှစ်၊ ဩဂုတ်လ ၁၅ ရက်

(ဂ) စစ်ဖြစ်ပွားရသည့်အကြောင်းရင်း - ကိုလိုနီနယ်မြေများ အပြိုင်အဆိုင်ရှာဖွေခြင်း၊ လက်နက်အပြိုင်အဆိုင်တပ်ဆင်ခြင်း

(ဃ) တိုက်ခိုက်ကြသောနိုင်ငံများ - အင်္ဂလိပ်၊ အမေရိကန်၊ ပြင်သစ် (မဟာမိတ်နိုင်ငံများ)
ဂျပန်၊ အီတလီ၊ ဂျာမနီ (ဝင်ရိုးတန်းနိုင်ငံများ)

**ခရူးဆိတ်စစ်ပွဲ**

၁၁ ရာစုအတွင်းက ခရစ်ယာန်ဘာသာဝင်များနှင့် အစ္စလာမ်ဘာသာဝင်များအကြား ဖြစ်ပွားခဲ့သော ဘာသာရေးစစ်ပွဲဖြစ်သည်။ နှစ်ပေါင်း ၂၀၀ ကျော်ကြာအောင် တိုက်ခိုက်ခဲ့ကြရသည့် ကမ္ဘာ့အရှည်ကြာဆုံးတိုက်ပွဲလည်း ဖြစ်သည်။

## ဝါတာလူးစစ်ပွဲ

ပြင်သစ်ဘုရင်နပိုလီယံဘိုနာပတ်နှင့်အင်္ဂလိပ်လူမျိုးဝယ်လင်တန်မြို့စား တို့ ၁၈၁၅ ခုနှစ်တွင် စတင်တိုက်ခိုက်ခဲ့ကြသော စစ်ပွဲဖြစ်သည်။ ယင်းစစ်ပွဲတွင် စစ်ဘုရင်နပိုလီယံ စစ်ရှုံးခဲ့သည်။

## နော်မန်ဒီတိုက်ပွဲ

ဒုတိယကမ္ဘာစစ်အတွင်း မဟာမိတ်တပ်ပေါင်းစုသည် ပြင်သစ်နိုင်ငံ နော်မန်ဒီ ကမ်းခြေတွင် နာဇီဂျာမနီတို့ကို အောင်နိုင်ခဲ့သော သမိုင်းဝင်စစ်ပွဲကြီးဖြစ်သည်။ ၁၉၄၄ ခုနှစ်၊ ဇွန်လ ၆ ရက်ကို ဒီဒေး (D–Dဧ)အဖြစ်သတ်မှတ်ပြီး နော်မန်ဒီ ကမ်းခြေကို ဝင်ရောက်တိုက်ခိုက်ခဲ့သော မဟာမိတ်များမှာ အင်အား ၁၅၆၀၀၀ ခန့်ရှိခဲ့သည်။ အင်အား ၂၅၀၀၀ ခန့် အသက်ဆုံးရှုံးခဲ့ပြီး မဟာမိတ်များ အောင်ပွဲ ရရှိခဲ့သည်။ မဟာမိတ်တပ်များ၏ တပ်ပေါင်းစုမှူးမှာ ဗိုလ်မှူးကြီး အိုက်ဆင် ဟောင်ဝါ ဖြစ်သည်။

## ဒိန်ဘင်ဖူးတိုက်ပွဲ

၁၉၅၄ ခုနှစ်တွင် နယ်ချဲ့ပြင်သစ်တပ်များနှင့် ဗီယက်နမ်တို့ တိုက်ခိုက်ခဲ့ သော တိုက်ပွဲဖြစ်သည်။ ပြင်သစ်တို့၏ ခိုင်ခံ့လှသော ဒိန်ဘင်ဖူးခံတပ်ကို ဗိုလ်မှူးကြီး ဗိုငုယင်ဇီယပ်ဦးဆောင်သော ဗီယက်နမ်တို့ သိမ်းပိုက်နိုင်ခဲ့သည်။

## ဖောက်ကလန်ကျွန်းတိုက်ပွဲ

ဖောက်ကလန်ကျွန်းပိုင်ဆိုင်မှုနှင့် ပတ်သက်၍ ၁၉၈၂ ခုနှစ်တွင် အာဂျင် တီးနားနှင့်အင်္ဂလန်တို့အကြားဖြစ်ပွားခဲ့သောတိုက်ပွဲဖြစ်သည်။အာဂျင်တီးနားတို့ ရှုံးနိမ့်ခဲ့ပြီး ဖောက်ကလန်ကျွန်းကို အင်္ဂလိပ်တို့ ပြန်လည်သိမ်းပိုက်ရရှိခဲ့သည်။

## ထင်ရှားသော ကမ္ဘာ့စစ်ခေါင်းဆောင်များ

| | | |
|---|---|---|
| ၁။ | ဟစ်တလာ | ဂျာမနီ |
| ၂။ | မူဆိုလီနီ | အီတလီ |
| ၃။ | နပိုလီယံ | ပြင်သစ် |
| ၄။ | ဗိုလ်ချုပ်ကြီး ဒေါက်ကလပ်မက်အာသာ | အမေရိကန် |
| ၅။ | ဗိုလ်ချုပ်ကြီး မာရှယ်ဇူးကော့ဗ် | ဆိုဗီယက် |

| | | |
|---|---|---|
| ၆။ | ဗိုလ်ချုပ်ကြီး မောင်ဂိုမာရီ(သဲကန္တာရကြွက်) | ဗြိတိန် |
| ၇။ | ဗိုလ်ချုပ်ကြီး အိုက်ဆင်ဟောင်ဝါ | အမေရိကန် |
| ၈။ | ဗိုလ်ချုပ်ကြီး အာဝင်ရွန်းမဲလ်(သဲကန္တာရမြေခွေး) | ဂျာမနီ |
| ၉။ | ဗိုလ်ချုပ်ကြီး ယာမာမိုတို | ဂျပန် |
| ၁၀။ | ဗိုလ်ချုပ်ကြီး လော့ဒ်မောင့်ဘက်တန် | ဗြိတိန် |
| ၁၁။ | ဗိုလ်ချုပ်ကြီး စတီးဝဲလ် | အမေရိကန် |
| ၁၂။ | ဗိုလ်ချုပ်ကြီး မာရှယ်တီးတိုး | ယူဂိုဆလားဗီးယား |
| ၁၃။ | ဗိုလ်ချုပ်ကြီး မိုရှေဒါယန်း | အစ္စရေးလ် |
| ၁၄။ | ဗိုလ်ချုပ်ကြီး ဂျော့ဂ်ျပက်တန် | အမေရိကန် |

## နျူကလီးယားလက်နက်ပိုင်ဆိုင်သည့်နိုင်ငံများ

၁။ အမေရိကန်ပြည်ထောင်စု

၂။ ရုရှား

၃။ ဗြိတိန်

၄။ ပြင်သစ်

၅။ တရုတ်

၆။ အိန္ဒိယ

၇။ ပါကစ္စတန်

၈။ မြောက်ကိုရီးယား

**မှတ်ချက်။** အမှတ်စဉ်(၁) မှ (၅) အထိ ငါးနိုင်ငံသည် နျူကလီးယားလက်နက် မပြန့်ပွားရေးစာချုပ်အောက်ရှိ နျူကလီးယားဒုံးကျည်ပိုင်ဆိုင်သည့် နိုင်ငံများဖြစ်သည်။

အမှတ်စဉ်(၆) မှ (၈) အထိ သုံးနိုင်ငံသည် နျူကလီးယားလက်နက် မပြန့်ပွားရေးစာချုပ်တွင် လက်မှတ်ရေးထိုးမှုမရှိသည့် နိုင်ငံများဖြစ်သည်။

အစ္စရေးလ်နိုင်ငံသည် နျူကလီးယားလက်နက် ပိုင်ဆိုင်ကြောင်း ထုတ် ဖော် ကြေညာခြင်းမရှိသေးသည့်နိုင်ငံ ဖြစ်သည်။

## လက်နက်ကိုင်တပ်ဖွဲ့ဝင် အင်အားအကြီးမားဆုံးနိုင်ငံများ

**အမေရိကန်နိုင်ငံ**

| | | |
|---|---|---|
| ၁။ | အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား | - ၂၂၆၀၀၀၀ ခန့် |
| ၂။ | စစ်ရေးအသုံးစရိတ် | - ၇၅၀ ဘီလီယံဒေါ်လာ |
| ၃။ | ပင်မတိုက်ပွဲဝင်တင့်ကား | - ၆၂၈၉ စင်း |
| ၄။ | စစ်သင်္ဘောများ | - ၄၉၀ စင်း |
| ၅။ | လေယာဉ်တင်သင်္ဘော | - ၂၀ စင်း |
| ၆။ | တိုက်ပွဲဝင်လေယာဉ်များ | - ၂၀၈၅ စင်း |
| ၇။ | စစ်လေယာဉ်များ | - ၁၃၂၆၄ စင်း |
| ၈။ | မဟာဗျူဟာမြောက် နျူကလီးယားလက်နက်များ | - ရှိ |

**ရုရှားနိုင်ငံ**

| | | |
|---|---|---|
| ၁။ | အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား | - ၃၀၁၃၀၀၀ ခန့် |
| ၂။ | စစ်ရေးအသုံးစရိတ် | - ၄၈ ဘီလီယံဒေါ်လာ |
| ၃။ | ပင်မတိုက်ပွဲဝင်တင့်ကား | - ၁၂၉၅၀ စင်း |
| ၄။ | စစ်သင်္ဘောများ | - ၆၀၃ စင်း |
| ၅။ | လေယာဉ်တင်သင်္ဘော | - ၁ စင်း |
| ၆။ | တိုက်ပွဲဝင်လေယာဉ်များ | - ၈၇၃ စင်း |
| ၇။ | စစ်လေယာဉ်များ | - ၄၁၆၃ စင်း |
| ၈။ | မဟာဗျူဟာမြောက် နျူကလီးယားလက်နက်များ | - ရှိ |

**တရုတ်နိုင်ငံ**

| | | |
|---|---|---|
| ၁။ | အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား | - ၂၆၉၃၀၀၀ ခန့် |
| ၂။ | စစ်ရေးအသုံးစရိတ် | - ၂၃၇ ဘီလီယံဒေါ်လာ |
| ၃။ | ပင်မတိုက်ပွဲဝင်တင့်ကား | - ၃၅၀၀ စင်း |
| ၄။ | စစ်သင်္ဘောများ | - ၇၇၇ စင်း |
| ၅။ | လေယာဉ်တင်သင်္ဘော | - ၂ စင်း |
| ၆။ | တိုက်ပွဲဝင်လေယာဉ်များ | - ၁၂၃၂ စင်း |

၇။ စစ်လေယာဉ်များ - ၃၂၁၀ စင်း
၈။ မဟာဗျူဟာမြောက် နျူကလီးယားလက်နက်များ - ရှိ

**အိန္ဒိယနိုင်ငံ**

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား - ၃၅၄၄၀၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် - ၆၁ ဘီလီယံဒေါ်လာ
၃။ ပင်မတိုက်ပွဲဝင်တင့်ကား - ၄၂၉၂ စင်း
၄။ စစ်သင်္ဘောများ - ၂၈၅ စင်း
၅။ လေယာဉ်တင်သင်္ဘော - ၁ စင်း
၆။ တိုက်ပွဲဝင်လေယာဉ်များ - ၄၁၆၃ စင်း
၇။ စစ်လေယာဉ်များ - ၁၅၆၁ စင်း
၈။ နျူကလီးယားလက်နက်များ - ရှိ

**ဂျပန်နိုင်ငံ**

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား - ၃၀၃၁၆၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် - ၄၉ ဘီလီယံဒေါ်လာ
၃။ ပင်မတိုက်ပွဲဝင်တင့်ကား - ၁၀၀၄ စင်း
၄။ စစ်သင်္ဘောများ - ၁၅၅ စင်း
၅။ လေယာဉ်တင်သင်္ဘော - ၄ စင်း
၆။ တိုက်ပွဲဝင်လေယာဉ်များ - ၂၇၉ စင်း
၇။ စစ်လေယာဉ်များ - ၁၅၆၁ စင်း
၈။ မဟာဗျူဟာမြောက် နျူကလီးယားလက်နက်များ - မရှိ

**တောင်ကိုရီးယားနိုင်ငံ**

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား - ၃၆၈၀၀၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် - ၄၄ ဘီလီယံဒေါ်လာ
၃။ ပင်မတိုက်ပွဲဝင်တင့်ကား - ၂၆၁၄ စင်း
၄။ စစ်သင်္ဘောများ - ၂၃၄ စင်း
၅။ လေယာဉ်တင်သင်္ဘော - ၂ စင်း
၆။ တိုက်ပွဲဝင်လေယာဉ်များ - ၄၁၄ စင်း

၇။ စစ်လေယာဉ်များ - ၁၆၄၉ စင်း
၈။ မဟာဗျူဟာမြောက် - မရှိ
နျူကလီးယားလက်နက်များ

## ပြင်သစ်နိုင်ငံ

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား - ၄၅၁၆၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် - ၄၂ ဘီလီယံဒေါ်လာ
၃။ ပင်မတိုက်ပွဲဝင်တင့်ကား - ၅၂၈ စင်း
၄။ စစ်သင်္ဘောများ - ၁၈၀ စင်း
၅။ လေယာဉ်တင်သင်္ဘော - ၄ စင်း
၆။ တိုက်ပွဲဝင်လေယာဉ်များ - ၂၆၉ စင်း
၇။ စစ်လေယာဉ်များ - ၁၂၂၉ စင်း
၈။ မဟာဗျူဟာမြောက် - မရှိ
နျူကလီးယားလက်နက်များ

## ယူကေနိုင်ငံ

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား - ၂၇၅၆၆၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် - ၅၅ ဘီလီယံဒေါ်လာ
၃။ ပင်မတိုက်ပွဲဝင်တင့်ကား - ၂၂၇ စင်း
၄။ စစ်သင်္ဘောများ - ၈၈ စင်း
၅။ လေယာဉ်တင်သင်္ဘော - ၂ စင်း
၆။ တိုက်ပွဲဝင်လေယာဉ်များ - ၁၃၃ စင်း
၇။ စစ်လေယာဉ်များ - ၇၃၃ စင်း
၈။ မဟာဗျူဟာမြောက် - မရှိ
နျူကလီးယားလက်နက်များ

## အီဂျစ်နိုင်ငံ

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား - ၉၂၀၀၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် - ၁၁ ဒသမ ၂ ဘီလီယံဒေါ်လာ
၃။ ပင်မတိုက်ပွဲဝင်တင့်ကား - ၄၂၉၅ စင်း
၄။ စစ်သင်္ဘောများ - ၃၁၆ စင်း

၅။ လေယာဉ်တင်သင်္ဘော - ၂ စင်း
၆။ တိုက်ပွဲဝင်လေယာဉ်များ - ၂၁၅ စင်း
၇။ စစ်လေယာဉ်များ - ၁၀၅၄ စင်း
၈။ မဟာဗျူဟာမြောက် နျူကလီးယားလက်နက်များ - မရှိ

**ဘရာဇီးလ်နိုင်ငံ**

၁။ အမြဲတမ်းတပ်ဖွဲ့ဝင်အင်အား - ၁၆၇၄၅၀၀ ခန့်
၂။ စစ်ရေးအသုံးစရိတ် - ၂၈ ဘီလီယံဒေါ်လာ
၃။ ပင်မတိုက်ပွဲဝင်တင့်ကား - ၄၃၇ စင်း
၄။ စစ်သင်္ဘောများ - ၁၁၂ စင်း
၅။ လေယာဉ်တင်သင်္ဘော - မရှိ
၆။ တိုက်ပွဲဝင်လေယာဉ်များ - ၄၃ စင်း
၇။ စစ်လေယာဉ်များ - ၇၁၅ စင်း
၈။ မဟာဗျူဟာမြောက် နျူကလီးယားလက်နက်များ - မရှိ

## ခေတ်သစ်အိုလံပစ်အားကစားပွဲများ

**နွေရာသီအားကစားပြိုင်ပွဲများ**

| စဉ် | ခုနှစ် | နိုင်ငံ | မြို့ |
|---|---|---|---|
| ၁။ | ၁၈၉၆ | ဂရိ | အေသင် |
| ၂။ | ၁၉၀၀ | ပြင်သစ် | ပါရီ |
| ၃။ | ၁၉၀၄ | အမေရိကန် | စိန့်လူးဝစ် |
| ၄။ | ၁၉၀၈ | အင်္ဂလန် | လန်ဒန် |
| ၅။ | ၁၉၁၂ | ဆွီဒင် | စတော့ဟုမ်း |
| ၆။ | ၁၉၁၆ | မကျင်းပဖြစ်ပါ။ | |
| ၇။ | ၁၉၂၀ | ဘယ်လ်ဂျီယံ | အန်းဝပ် |
| ၈။ | ၁၉၂၄ | ပြင်သစ် | ပါရီ |
| ၉။ | ၁၉၂၈ | နယ်သာလန် | အမ်စတာဒမ် |

| | | | |
|---|---|---|---|
| ၁၀။ | ၁၉၃၂ | အမေရိကန် | လော့စ်အိန်ဂျလိစ် |
| ၁၁။ | ၁၉၃၆ | ဂျာမနီ | ဘာလင် |
| ၁၂။ | ၁၉၄၀-၄၄ | မကျင်းပဖြစ်ပါ။ | |
| ၁၃။ | ၁၉၄၈ | အင်္ဂလန် | လန်ဒန် |
| ၁၄။ | ၁၉၅၂ | ဖင်လန် | ဟယ်ဆင်ကီး |
| ၁၅။ | ၁၉၅၆ | ဩစတြေးလျ | မဲလ်ဘုန်း |
| ၁၆။ | ၁၉၆၀ | အီတလီ | ရောမ |
| ၁၇။ | ၁၉၆၄ | ဂျပန် | တိုကျို |
| ၁၈။ | ၁၉၆၈ | မက္ကဆီကို | မက္ကဆီကိုစီးတီး |
| ၁၉။ | ၁၉၇၂ | အနောက်ဂျာမနီ | မြူးနစ် |
| ၂၀။ | ၁၉၇၆ | ကနေဒါ | မွန်ထရီယဲလ် |
| ၂၁။ | ၁၉၈၀ | ဆိုဗီယက်ပြည်ထောင်စု | မော်စကို |
| ၂၂။ | ၁၉၈၄ | အမေရိကန် | လော့စ်အိန်ဂျလိစ် |
| ၂၃။ | ၁၉၈၈ | တောင်ကိုရီးယား | ဆိုးလ် |
| ၂၄။ | ၁၉၉၂ | စပိန် | ဘာစီလိုနာ |
| ၂၅။ | ၁၉၉၆ | အမေရိကန် | အတ္တလန္တာ |
| ၂၆။ | ၂၀၀၀ | ဩစတြေးလျ | ဆစ်ဒနီ |
| ၂၇။ | ၂၀၀၄ | ဂရိ | အေသင် |
| ၂၈။ | ၂၀၀၈ | တရုတ် | ဘေဂျင်း |
| ၂၉။ | ၂၀၁၂ | အင်္ဂလန် | လန်ဒန် |
| ၃၀။ | ၂၀၁၆ | ဘရာဇီးလ် | ရီယိုဒီဂျနေးယိုး |
| ၃၁။ | ၂၀၂၀ | ဂျပန် | တိုကျို |
| ၃၂။ | ၂၀၂၂ | တရုတ် | ဘေဂျင်း |
| ၃၃။ | ၂၀၂၄ | ပြင်သစ် | ပဲရစ် |

**ဆောင်းရာသီအားကစားပြိုင်ပွဲများ**

| စဉ် | ခုနှစ် | နိုင်ငံ | မြို့ |
|---|---|---|---|
| ၁။ | ၁၉၂၄ | ပြင်သစ် | ချာမိုနစ် |
| ၂။ | ၁၉၂၈ | ဆွစ်ဇာလန် | စိန့်မိုရစ် |
| ၃။ | ၁၉၃၂ | အမေရိကန် | လိတ်ပလာစစ် |

| | | | |
|---|---|---|---|
| ၄။ | ၁၉၃၆ | ဂျာမနီ | ဂါးဖစ်ရှ်- ပါတင်ကာချင် |
| ၅။ | ၁၉၄၀–၄၄ | မကျင်းပဖြစ်ပါ။ | |
| ၆။ | ၁၉၄၈ | ဆွစ်ဇာလန် | စိန့်မိုရစ် |
| ၇။ | ၁၉၅၂ | နော်ဝေ | အော်စလို |
| ၈။ | ၁၉၅၆ | အီတလီ | ကော်တီနာဒီအမ်ပက်ဇို |
| ၉။ | ၁၉၆၀ | အမေရိကန် | စကောဗဲလီး |
| ၁၀။ | ၁၉၆၄ | ဩစတြီးယား | အင်းစ်ဘရပ် |
| ၁၁။ | ၁၉၆၈ | ပြင်သစ် | ဂရင်နိုဘယ် |
| ၁၂။ | ၁၉၇၂ | ဂျပန် | ဆက်ပိုရို |
| ၁၃။ | ၁၉၇၆ | ဩစတြီးယား | အင်းစ်ဘရပ် |
| ၁၄။ | ၁၉၈၀ | အမေရိကန် | လိတ်ပလာစစ် |
| ၁၅။ | ၁၉၈၄ | ယူဂိုဆလားဗီးယား | ဆာရာယေဗို |
| ၁၆။ | ၁၉၈၈ | အမေရိကန် | ကာလ်ဂါရီ |
| ၁၇။ | ၁၉၉၂ | ပြင်သစ် | အဲလ်ဘတ်ဗီလ်း |
| ၁၈။ | ၁၉၉၆ | နော်ဝေ | ဟီလီဟာမ်းမား |
| ၁၉။ | ၂၀၀၀ | ဂျပန် | နာဂါနို |
| ၂၀။ | ၂၀၀၄ | အမေရိကန် | ဆော့လိတ်စီးတီး |
| ၂၁။ | ၂၀၀၈ | အီတလီ | တိုရီနို |
| ၂၂။ | ၂၀၁၀ | ကနေဒါ | ဗင်ကူဗာ |
| ၂၃။ | ၂၀၁၄ | ရုရှား | ဆိုချီ |
| ၂၄။ | ၂၀၁၈ | တောင်ကိုရီးယား | ဖျောင်းယောင်းဂျိန် |
| ၂၅။ | ၂၀၂၂ | တရုတ် | ဘေဂျင်း |

## ကမ္ဘာ့အမြင့်ဆုံးအဆောက်အအုံ ၁၀ ခု

**ဘာ့ဂျ်ခါလီဖာ**

၁။ တည်ရှိသည့်နေရာ = ဒူဘိုင်း၊ အာရပ်စော်ဘွားများနိုင်ငံ
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၀ ခုနှစ်
၃။ အမြင့် = ၂၇၁၇ ပေ (၈၂၈ မီတာ)
၄။ အထပ်ပေါင်း = ၁၆၃ ထပ်

ရှန်ဟိုင်းတာဝါ

၁။ တည်ရှိသည့်နေရာ = ရှန်ဟိုင်း၊ တရုတ်
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၅ ခုနှစ်
၃။ အမြင့် = ၂၀၇၃ ပေ (၆၃၂ မီတာ)
၄။ အထပ်ပေါင်း = ၁၂၈ ထပ်

အဘရာ့ဂျ်အယ်လ်ဘိတ်နာရီစင်

၁။ တည်ရှိသည့်နေရာ = မက္ကာ၊ အာရပ်စော်ဘွားများနိုင်ငံ
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၂ ခုနှစ်
၃။ အမြင့် = ၁၉၇၁ ပေ (၆၀၁ မီတာ)
၄။ အထပ်ပေါင်း = ၁၂၀ ထပ်

ပင်အန်းစီးပွားရေးဌာန

၁။ တည်ရှိသည့်နေရာ = ရှန်းကျန့်၊ တရုတ်
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၇ ခုနှစ်
၃။ အမြင့် = ၁၉၆၅ ပေ (၅၉၉ မီတာ)
၄။ အထပ်ပေါင်း = ၁၁၅ ထပ်

လော့တ်ကမ္ဘာ့မျှော်စင်

၁။ တည်ရှိသည့်နေရာ = ဆိုးလ်၊ တောင်ကိုရီးယား
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၆ ခုနှစ်
၃။ အမြင့် = ၁၈၁၉ ပေ (၅၅၄.၅ မီတာ)
၄။ အထပ်ပေါင်း = ၁၂၃ ထပ်

ဝမ်းကမ္ဘာ့ကုန်သွယ်မှုဌာန

၁။ တည်ရှိသည့်နေရာ = နယူးယောက်၊ အမေရိကန်
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၄ ခုနှစ်
၃။ အမြင့် = ၁၇၇၆ ပေ (၅၄၁.၃ မီတာ)
၄။ အထပ်ပေါင်း = ၁၀၄ ထပ်

ကွမ်ကျိုး CTF စီးပွားရေးအဆောက်အအုံ

၁။ တည်ရှိသည့်နေရာ = ကွမ်ကျိုး၊ တရုတ်

၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၆ ခုနှစ်
၃။ အမြင့် = ၁၇၃၉ ပေ (၅၃၀ မီတာ)
၄။ အထပ်ပေါင်း = ၁၁၁ ထပ်

**တီယန်ဂျင်း CTF စီးပွားရေးအဆောက်အအုံ**

၁။ တည်ရှိသည့်နေရာ = တီယန်ဂျင်း၊ တရုတ်
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၈ ခုနှစ်
၃။ အမြင့် = ၁၇၃၉ ပေ (၅၃၀ မီတာ)
၄။ အထပ်ပေါင်း = ၉၈ ထပ်

**CITIC အဆောက်အအုံ**

၁။ တည်ရှိသည့်နေရာ = ဘေဂျင်း၊ တရုတ်
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၁၈ ခုနှစ်
၃။ အမြင့် = ၁၇၃၁ ပေ (၅၂၈ မီတာ)
၄။ အထပ်ပေါင်း = ၁၀၉ ထပ်

**တိုင်ပေ ၁၀၁ မျှော်စင်**

၁။ တည်ရှိသည့်နေရာ = တိုင်ပေ၊ တရုတ်(တိုင်ပေ)
၂။ ပြီးစီးသည့်ခုနှစ် = ၂၀၀၄ ခုနှစ်
၃။ အမြင့် = ၁၆၆၇ ပေ (၅၀၈ မီတာ)
၄။ အထပ်ပေါင်း = ၁၀၁ ထပ်

# နိုင်ငံ့ဝန်ထမ်းလျှောက်ထားခြင်းဆိုင်ရာ
# သိမှတ်ဖွယ်ရာများ

## နိုင်ငံ့ဝန်ထမ်းလျှောက်ထားခြင်းဆိုင်ရာ သိမှတ်ဖွယ်ရာများ

**ပြန်တမ်းဝင်အရာရှိရာထူးအတွက် လူတွေ့စစ်ဆေးခြင်းဆိုင်ရာ သိမှတ်ဖွယ်ရာများ**

လူတွေ့စစ်ဆေးခြင်းတွင် အပိုင်းနှစ်ပိုင်း ပါဝင်သည် -

(၁) စိတ်အခြေအနေစစ်ဆေးခြင်း

(၂) လူတွေ့နှုတ်ဖြေစစ်ဆေးခြင်း

စစ်ဆေးမှုခံယူရန်လာရောက်သည့် လျှောက်လွှာရှင်များသည် အောက်ပါ စာရွက်စာတမ်းများကို တစ်ပါတည်း ယူဆောင်လာရမည်-

(၁) လျှောက်လွှာတင်စဉ်ကပါရှိသောအောင်လက်မှတ်၊အထောက်အထား မူရင်းများ

(၂) အကျင့်စာရိတ္တကောင်းမွန်ကြောင်း သက်ဆိုင်ရာမြို့နယ်ပြည်သူ့ ရဲတပ်ဖွဲ့ စခန်းမှ လွန်ခဲ့သည့် ၆ လအတွင်းက ရယူထားသည့်ထောက်ခံစာ

(၃) အကျင့်စာရိတ္တကောင်းမွန်ကြောင်း ပြန်တမ်းဝင်အရာရှိတစ်ဦးထံမှ ထောက်ခံစာ

(၄) ကျန်းမာကြောင်း ဆေးလက်မှတ်

စိတ်အခြေအနေစစ်ဆေးခြင်းကို ကဏ္ဍနှစ်ရပ်ခွဲခြားထားရာ ပထမပိုင်းတွင် အသင့်ပြုစုထားသည့် မေးခွန်းပုံစံကို စာမေးပွဲသဏ္ဍာန် ဖြည့်စွက်ဖြေဆိုကြရပါသည်။ ဒုတိယပိုင်းတွင် စိတ်စစ်ဆေးရေးအရာရှိက ဖြည့်စွက်ဖြေဆိုထားသည့် အဖြေလွှာပုံစံကို အခြေခံ၍ တစ်ဦးချင်း လူတွေ့စစ်မေးပါသည်။ တစ်ဦးချင်းစစ်မေးသည့်အခါ စိတ်အခြေအနေကို ဖော်ထုတ်သိရှိနိုင်သည့် နည်းလမ်းများဖြင့် မေးမြန်းသဖြင့် မိမိကိုယ်မိမိ ယုံကြည်မှုလွန်ကဲသူ၊ ယုံကြည်မှုအားနည်းသူ၊ ပတ်ဝန်းကျင် လွှမ်းမိုးခံရမှု၊ စိတ်အားငယ်တတ်မှု၊ စိတ်ဖိစီးခံရမှု၊ စိတ်ဖိစီးမှုကို ကြံ့ကြံ့ခံကျော်လွှားနိုင်မှု စသည်များကို ဖော်ထုတ်ရရှိနိုင်ပါသည်။

လူတွေ့နှုတ်ဖြေစစ်ဆေးမှုခံယူရန် လာရောက်ကြသည့် လျှောက်လွှာရှင်များ အား အဖွဲ့ဝင်လူကြီးများက လူတွေ့နှုတ်ဖြေစစ်ဆေးမှု အပြီးသတ်ပြုလုပ်မည်ဖြစ်ပါသည်။ တည်ဆဲအကဲဖြတ်ချက်များမှာ လူအကဲဖြတ်ခြင်း၊ အထွေထွေဗဟုသုတစစ်ဆေးခြင်းနှင့် လုပ်ငန်းဗဟုသုတနှင့် လူမှုရေးဆောင်ရွက်ချက် စစ်မေးခြင်းများပါဝင်မည်ဖြစ်ပါသည်။

**စိတ်ပိုင်းဆိုင်ရာစာမေးပွဲများအတွက် အထွေထွေသိကောင်းစရာများ**

ယနေ့ခေတ်တွင် ပညာအရည်အချင်း တူညီနေလျှင် ပို၍ကောင်းသူကိုသာ ရွေးချယ်လေ့ရှိပါသည်။ ယခုအခါ လူငယ်အရေအတွက်များပြားသည်နှင့်အမျှ အလုပ်ခွင်အတွက် စစ်ဆေးမှုများ အကူအညီဖြင့် ပို၍ပို၍ကောင်းသော ပညာတတ်ကို အလုပ်ခန့်ရာတွင် ရွေးချယ်ကြပါသည်။

စိတ်အခြေအနေ စမ်းသပ်နည်းများဆိုသည်မှာ လူတစ်ယောက်၏ အတွင်းသဘောစိတ်နေစိတ်ထား၊ ဟန်ဆောင်မှုကိုပေါ်လွင်အောင်စစ်ဆေးခြင်းဖြစ်သည်။

လူတစ်ယောက်၏ပင်ကိုယ်အရည်အသွေးဟူသည်ပြုပြင်လို့ရလွယ်သောကိစ္စမဟုတ်ပေ။ ဟန်ဆောင်လို့လည်းမရ၊ လိမ်ညာအဖြေပေးလို့လည်းမဖြစ်နိုင်။

စာအုပ်စာတမ်းများ၊ ကျမ်းကြီး၊ ကျမ်းငယ်များကို ကြိုတင်လေ့လာခြင်းဖြင့်လည်း အကျိုးရှိမည်မဟုတ်။ လုပ်ငန်းခွင် စိတ်ပိုင်းဆိုင်ရာ စစ်ဆေးနည်းများကို ကြိုတင်လေ့လာထားခြင်းဖြင့်လည်း အကျိုးရှိမည်မဟုတ်။ ထို့ကြောင့် စိတ်ပညာရှင်များက ဦးဆောင်၍ စစ်ဆေးပေးလျက်ရှိသည်။ သို့သော် လုပ်ငန်းခွင် စိတ်ပိုင်းဆိုင်ရာ စစ်ဆေးတော့မည်ဆိုလျှင် စာမေးပွဲဖြေသလို အောင်မှတ်၊ ကျမှတ်ဆိုပြီး သတ်မှတ်ပေးထားသော စာမေးပွဲမဟုတ်ပါ။ လုပ်ငန်းခွင်နှင့်ဆက်သွယ်နေသော အရည်အချင်းများဖြစ်သည့် -

(၁) ကိုယ်ရည်ကိုယ်သွေး
(၂) သက်လုံကောင်းမှု
(၃) ဖွဲလုံ့လရှိမှု
(၄) ဖြတ်လတ်ရဲဝံ့စွာလုပ်ဆောင်နိုင်မှု စသည့်စွမ်းရည်များ တစ်ပြိုင်တည်း စစ်ဆေးလေ့ရှိသည်။

**လူတွေ့စစ်ဆေးခြင်း**

စိတ်ပညာနည်းအရ လေ့လာစစ်ဆေးရာတွင် တစ်နေကုန် အချိန်ယူလေ့ရှိသည်။ လက်နက်ကိုင်အဖွဲ့အစည်းရာထူးများအတွက်ဆိုလျှင် အဆင့်ဆင့် အကြိမ်ကြိမ်စစ်ဆေးခံကြရသည်။ လျှောက်လွှာရှင်အားလုံးကို တူညီသောစည်းကမ်းသတ်မှတ်

ချက်နှင့်အညီ စခန်းသွင်းထားကာ စစ်ဆေးမှုများကို ပြုလုပ်လေ့ရှိသည်။

စခန်းသွင်းစစ်ဆေးပြီးဆိုလျှင်အကဲဖြတ်ပုဂ္ဂိုလ်ကလျှောက်လွှာရှင်များကို အဖွဲ့ငယ်အလိုက် စုထားပေးပြီး အားလုံးကို စစ်ဆေးမည့် နည်းစနစ်ကို ရှင်းလင်း ပြောပြပါမည်။

ပြီးလျှင် မိမိအရည်အချင်းကို လူတကာထက်ပေါ်လွင်အောင် ပြသပေးရ ပါမည်။ ဤကာလတစ်လျှောက်လုံးတွင် အကဲခတ်အဖွဲ့က လျှောက်လွှာရှင်၏ စုပေါင်းဆွေးနွေး လှုပ်ရှားမှုတို့ကို အချိန်ကုန်သည်အထိ ထိုင်ကြည့်ကာ အရည် အသွေးကို အကဲခတ်ရပါသည်။

(က) **လူအကဲဖြတ်ခြင်း။** စုစုပေါင်းပေးမှတ် ၁၀၀ ဖြစ်ပြီး အောက်ပါ အချက်များကို အကဲဖြတ်အမှတ်ပေးမည်ဖြစ်ပါသည် -

(၁) ဥပဓိရုပ်

(၂) တည်ကြည်မှု၊ ဖြတ်လတ်မှု

(၃) အပြောအဆို

(၄) ဉာဏ်ရည်ထက်မြက်မှု

( ခ ) **အထွေထွေဗဟုသုတ။** စုစုပေါင်းပေးမှတ် ၁၀၀ ဖြစ်ပြီး ပြည်တွင်း ဗဟုသုတနှင့် ပြည်ပဗဟုသုတအပိုင်း နှစ်ပိုင်းပါဝင်သည်။

( ဂ ) **လုပ်ငန်းဗဟုသုတနှင့် လူမှုရေးဆောင်ရွက်ချက်။** စုစုပေါင်း ပေးမှတ် ၁၀၀ ဖြစ်ပြီး လုပ်ငန်းဗဟုသုတနှင့် လူမှုရေးဆောင်ရွက်ချက် အပိုင်း နှစ်ပိုင်း ပါဝင်သည်။

**ဝတ်စားဆင်ယင်မှု**

ပြန်တမ်းဝင်အရာရှိအဆင့်ဖြင့် နိုင်ငံ့ဝန်ထမ်းဘဝ ခံယူမည့်သူများသည် မြန်မာဆန်ဆန် ဝတ်စားဆင်ယင်သင့်ပါသည်။

**အမျိုးသားများသည်-**

- ဆံပင်သေသပ်စွာ ညှပ်ထားသင့်သည်၊
- အတွင်းခံအင်္ကျီ၊ ရှပ်လက်ရှည်ကော်လာကတုံးနှင့် မြန်မာပုဆိုးကို သေသပ်စွာ ဝတ်ဆင်သင့်သည်။
- မြန်မာခြေညှပ်ဖိနပ် ဝတ်ဆင်သင့်ပါသည်။

**အမျိုးသမီးများသည်-**

- ဆံပင်သေသပ်စွာ ဖီးလိမ်းပေးထားရမည်။ မြန်မာဆံထုံး (ကျစ်ဆံမြီး ကျစ်ထားလျှင်လည်း လက်ခံနိုင်ပါသည်။)

- မြန်မာအင်္ကျီ၊ ထဘီကို သေသပ်စွာ ဝတ်ဆင်သင့်ပါသည်။
- ဘလောက်စ်အင်္ကျီများ မဝတ်သင့်ပါ။ ဘေးကွဲ၊ နောက်ကွဲ၊ စကပ်ထဘီများ မဝတ်သင့်ပါ။
- မြန်မာခြေညှပ်ဖိနပ်ကို ဝတ်ဆင်သင့်ပါသည်။

**နိုင်ငံ့ဝန်ထမ်းများလိုက်နာရမည့် ကျင့်ဝတ်နှင့် စည်းကမ်းများ**

နိုင်ငံရေးနှင့်အုပ်ချုပ်ရေးအပြောင်းအလဲများ အခါအားလျော်စွာ ရှိလင့်ကစား ဝန်ထမ်းတို့ထာဝစဉ်ပြုမူ လိုက်နာအပ်သည့်ကျင့်ဝတ်နှင့်စည်းကမ်းများမှာ–

(က) နိုင်ငံတော်၏ ကျေးဇူးသစ္စာကိုစောင့်သိရှိသေရမည်။
( ခ ) တည်ဆဲဥပဒေများကို လေးစားလိုက်နာရမည်။
( ဂ ) ပြည်သူတို့၏အကျိုးစီးပွားကို အလေးထား၍ ဆောင်ရွက်ရမည်။
(ဃ) တာဝန်နှင့် ဝတ္တရားများကို ကျေပွန်စွာနှင့် ရိုးသားဖြောင့်မတ်စွာ ထမ်းဆောင်ရမည်။
( င ) လုပ်ငန်းကျွမ်းကျင်မှုအဆင့်မြင့်မားလာစေရန်နှင့် အရည်အချင်းနှင့် စွမ်းဆောင်ရည်တိုးတက်နေစေရန် အစဉ်ကြိုးစားရမည်။
( စ ) အထက်အဆင့်အကြီးအကဲက တာဝန်အရ ပေးအပ်သည့်အမိန့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ရမည်။
(ဆ) ပြည်သူပိုင်ပစ္စည်းများနှင့် ပြည်သူ့ဘဏ္ဍာငွေ ယိုဖိတ်ဆုံးရှုံးမှုမရှိစေရန် ထိန်းသိမ်းစောင့်ရှောက်ရမည်။
( ဇ ) ဝန်ထမ်းဆိုင်ရာစည်းမျဉ်းစည်းကမ်းများကို လိုက်နာရမည့်အပြင် ဝန်ထမ်းအဖွဲ့အစည်းအလိုက် သတ်မှတ်ထားသော လုပ်ငန်းခွင်စည်းကမ်းများ အမိန့်ညွှန်ကြားချက်များကိုလည်းလိုက်နာရမည်။
(ဈ) အကျင့်စာရိတ္တပျက်ပြားခြင်း၊သိက္ခာကင်းမဲ့စွာပြုမူနေထိုင်ခြင်းကို ရှောင်ကြဉ်ရမည်။
(ည) တာဝန်အရ အပ်နှင်းထားသည့်လုပ်ပိုင်ခွင့်ကို အလွဲသုံးစားပြု၍ ကိုယ်ကျိုးရှာခြင်း၊ လာဘ်ပေးလာဘ်ယူပြုခြင်းတို့ကို ရှောင်ကြဉ်ရမည်။
( ဋ ) တရားသဖြင့်ရရှိအပ်သောဝင်ငွေမှတစ်ပါးမရိုးသားသောနည်းဖြင့် အခြားဝင်ငွေရှာခြင်းကို ရှောင်ကြဉ်ရမည်။
( ဌ ) ဝန်ထမ်းအချင်းချင်းစည်းလုံးညီညွတ်မှုကိုထိန်းသိမ်းစောင့်ရှောက်ရမည်။

(ဍ) ဌာနဆိုင်ရာ ပစ္စည်းပစ္စယများကို ခွင့်ပြုချက်မရှိဘဲ သုံးစွဲခြင်း မပြုရ။

(ဎ) နိုင်ငံတော်ကို အကြည်ညိုပျက်စေမည့် စာအုပ်စာတမ်းရေးသား ခြင်း သို့မဟုတ် ဖြန့်ဝေခြင်းမပြုရ။

(ဏ) နိုင်ငံတော်၏ လုံခြုံရေးနှင့် ငြိမ်ဝပ်ပိပြားရေးကို ထိခိုက်စေမည့် လှုပ်ရှားမှုတစ်ခုခုတွင်ပါဝင်ခြင်း သို့မဟုတ် လှုံ့ဆော်ခြင်း သို့မဟုတ် အားပေးကူညီခြင်းမှ ရှောင်ကြဉ်ရမည်။

**နိုင်ငံ့ဝန်ထမ်းတွင် ပြည့်စုံရမည့်အင်္ဂါရပ်များ**

(က) အကြားအမြင်ဗဟုသုတရှိခြင်း။

(ခ) ကိုယ်နှုတ်အမူအရာ ယဉ်ကျေး၍တင့်တယ်သော ရုပ်ဆင်းအင်္ဂါနှင့် ပြည့်စုံခြင်း။

(ဂ) ကိုယ်ကျင့်တရားကောင်းမွန်သူဖြစ်ခြင်း။

(ဃ) ရဲရင့်သူ(ရဲစွမ်းသတ္တိရှိသူ)ဖြစ်ခြင်း။

(င) ဖွဲ့လုံ့လဝီရိယရှိခြင်း။

(စ) ကာယဗလ၊ ဉာဏဗလဖွံ့ဖြိုးခိုင်မာခြင်း။

(ဆ) ဥစ္စာကိုမမက်မောခြင်း။

**ဝန်ထမ်းများမလိုက်စားအပ်သောတရား(၇)ပါး**

(က) **တံစိုး(၃)ပါး**

(၁) ဉာတိသလောဟိတ(ဆွေမျိုးသားချင်းတော်စပ်၍ လိုက်လျောခြင်း – မေတ္တာတံစိုး)

(၂) ပီဟမိတ္တ (ချစ်ကျွမ်းဝင်သူဖြစ်၍လိုက်လျောခြင်း–မျက်နှာတံစိုး)

(၃) ဓနုဂ္ဂဟ (အခကြေးငွေယူ၍ လိုက်လျောခြင်း–ဥစ္စာတံစိုး)

(ခ) **အဂတိတရား(၄)ပါး**

(၁) ဆန္ဒဂတိ – ချစ်သောကြောင့် မျက်နှာလိုက်၍မတရားပြုခြင်း

(၂) ဒေါသဂတိ – မုန်းသောကြောင့် မတရားပြုခြင်း

(၃) မောဟဂတိ – မသိသောကြောင့် မတရားပြုခြင်း

(၄) ဘယာဂတိ – ကြောက်သောကြောင့် မတရားပြုခြင်း

## အသက်အရွယ်အလိုက် ပြုလုပ်ပေးသင့်သောကာကွယ်ဆေးများ

| | | |
|---|---|---|
| ၁။ | ကိုယ်ဝန်ဆောင်ချိန် | မေးခိုင်ရောဂါကာကွယ်ဆေး |
| ၂။ | မွေးကင်းစ | အသည်းရောင်အသားဝါ(ဘီ)ပထမအကြိမ် |
| ၃။ | ၁ လ | အသည်းရောင်အသားဝါ(ဘီ)ဒုတိယအကြိမ် |
| ၄။ | ၁လခွဲ၊ ၂လခွဲ၊ ၃လခွဲ (သို့)၂လ၊ ၃လ၊၄လ | ဘီစီဂျီ ခေါ် အဆုတ်ရောင်ရောဂါကာကွယ်ဆေး ဆ–က–မ ခေါ် ဆုံဆို့နာရောဂါ၊ ကြက်ညှာချောင်းဆိုးရောဂါနှင့် မေးခိုင်ရောဂါကာကွယ်ဆေး |
| ၅။ | ၆ လ | အသည်းရောင်အသားဝါ(ဘီ)တတိယအကြိမ် |
| ၆။ | ၁၂ လ | ရေကျောက်ရောဂါကာကွယ်ဆေး |
| ၇။ | ၁၂–၁၅လ | ဝက်သက်၊ ပါးချိတ်ရောင်နှင့် ဂျိုက်သိုးရောဂါ ကာကွယ်ဆေး(ပထမအကြိမ်) |
| ၈။ | ၁၅–၁၈လ | ဆ–က–မ ခေါ် ဆုံဆို့နာရောဂါ၊ ကြက်ညှာချောင်းဆိုးရောဂါနှင့် မေးခိုင်ရောဂါကာကွယ်ဆေး၊ ပိုလီယိုခေါ် အကြောသေရောဂါကာကွယ်ဆေး၊ Hib ပိုးကြောင့်ဖြစ်သော ဦးနှောက်အမြှေးရောင်ရောဂါကာကွယ်ဆေး၊ |
| ၉။ | ၂နှစ် | အူရောင်ငန်းဖျားရောဂါ (တိုက်ဖွိုက်ရောဂါ) ကာကွယ်ဆေး (၃ နှစ်တစ်ကြိမ် ထိုးရန် လိုအပ်သည်) |
| ၁၀။ | ၄–၆နှစ် | ဝက်သက်၊ ပါးချိတ်ရောင်နှင့် ဂျိုက်သိုးရောဂါ ကာကွယ်ဆေး |

## ရှေးဦးပြုစုမှုများ

### ရှေးဦးပြုစု အပူလောင်မှု

၁။ အပူလောင်သောနေရာကို ရေများများလောင်းပါ။

၂။ အပူလောင်သောနေရာကို သန့်ရှင်းသောအဝတ်ဖြင့် ဖုံးအုပ်ပါ။

၃။ အပူလောင်၍ ဖြစ်ပေါ်လာသော အရေကြည်ဖုများအား ဖောက်ခြင်း၊ နီးစပ်ရာဆေးများဖြင့်လိမ်းခြင်း မပြုရ။

### ရှေးဦးပြုစု ဓာတ်လိုက်မှု

၁။ မီးခလုတ်ပိတ်ပါ သို့မဟုတ် မီးအဆက်အသွယ်ဖြတ်ပါ။

၂။ ပိုသေချာစေရန် မီးခလုတ်ဖြုတ်လိုက်ပါ။

၃။ ခြောက်သွေ့သောနေရာတွင် ခုံပေါ်တက်၍ ဓာတ်ကြိုးထိသောလူနာ၏ ခန္ဓာကိုယ် အစိတ်အပိုင်းကို တုတ်ဖြင့်တွန်းပါ။

၄။ ဒဏ်ရာကို အပူလောင်ခြင်းအတွက် ရှေးဦးပြုစုနည်းအတိုင်း ပြုစုပါ။

### ရှေးဦးပြုစု ရေနစ်မှု

၁။ ရေနစ်သူအား ကမ်းပေါ်ရောက်ရောက်ချင်း အသက်ရှူ မရှူကြည့်ပါ။

၂။ အသက်ရှူပါက လူနာအား ဘေးစောင်းအနေအထားတွင်ထားပါ သို့မဟုတ် လူနာအား ပခုံးပေါ်ထမ်း၍ ဝမ်းဗိုက်အတွင်းမှ ရေများ ပြန်အန်လာအောင် ပြုလုပ်ပါ။

၃။ အသက်မရှူပါက ပါးစပ်ပေါက်မှတစ်ဆင့် လေရှူသွင်းပါ။

### ရှေးဦးပြုစု အသက်ရှူရပ်မှု

၁။ လူနာကို ပက်လက်ထားပါ။

၂။ လူနာ၏ဦးခေါင်းကို အနောက်ဘက်သို့လှန်ပါ။

၃။ လူနာ၏ နှာခေါင်းကို လက်ဖြင့်ညှစ်၍ပိတ်ထားပါ။

၄။ လူနာ၏မေးရိုးထောင့်နှစ်ဖက်ကို ကျန်လက်ဖြင့် မ ထားပါ။

၅။ သင်အသက်ပြင်းစွာရှူပါ။

၆။ သင်၏ပါးစပ်ကိုဖွင့်ပြီး လူနာ၏ပါးစပ်ကိုငုံ၍ လေကိုမှုတ်သွင်းပါ။

၇။ လူနာ၏ရင်ဘတ် မြင့်တက်လာသည်ကို တွေ့ရှိပါက လေရှူသွင်းမှု ရပ်လိုက်ပါ။

**ရှေးဦးပြုစုမြွေကိုက်ခံရမှု**

၁။ အကိုက်ခံရသည့်နေရာကို ရေများများလောင်း၍ သန့်စင်ပါ။
၂။ ဒဏ်ရာကို အဝတ်သန့်ဖြင့်အုပ်ပါ။
၃။ ဒဏ်ရာ၏အထက်နှင့်အောက်တွင် ကြိုးတင်းတင်းချည်ပါ။
၄။ အကိုက်ခံရသည့်ခြေ၊ လက်တို့ကို ဆန့်တန်းပြီး မလှုပ်နိုင်ရန်ပြုလုပ်ပါ။
၅။ လူနာကို နီးစပ်ရာဆေးခန်း၊ ဆေးရုံသို့ ပို့ဆောင်ပါ။
၆။ ဖြစ်နိုင်လျှင် ကိုက်သည့်မြွေအမျိုးအစားကိုသိပါက ထိရောက်လျင်မြန်စွာကုသနိုင်မည်ဖြစ်သောကြောင့် ကိုက်သည့်မြွေကိုပါ တစ်ပါတည်းဖမ်းဆီးမိပါက ပိုမိုကောင်းမွန်ပါသည်။

## သွေးတိုးရောဂါ

**ရောဂါဖြစ်ပွားရခြင်းအကြောင်းရင်းများ**

- အငန်၊ အဆီအဆိမ့် အလွန်အကျွံစားခြင်း
- အဝလွန်ခြင်း
- အရက်အလွန်အကျွံသောက်ခြင်း
- ဆေးလိပ်အလွန်အကျွံသောက်ခြင်း
- မျိုးရိုးတွင် သွေးတိုးရှိခြင်း
- အသက် ၄၀ ကျော်သူများ
- ဆီးချိုသွေးချိုရောဂါရှိခြင်း
- စိတ်ဖိစီးမှုများခြင်း

**သွေးတိုးရောဂါလက္ခဏာများ**

- ခေါင်းကိုက်ခြင်း
- ခေါင်းအုံခြင်း
- ခေါင်းမူးခြင်း
- ဇက်ကြောတက်ခြင်း
- မျက်ရိုးကိုက်ခြင်း
- အသက်ရှူမဝခြင်း
- ရင်တုန်ခြင်း

- မောခြင်း
- ပျို့အန်ခြင်း
- စိတ်မတည်ငြိမ်ခြင်း

**သွေးတိုးရောဂါဖြစ်ပြီး နောက်ဆက်တွဲဖြစ်ပေါ်လာသောရောဂါများ**

- နှလုံးကြီးခြင်း
- နှလုံးသွေးကြောကျဉ်းရောဂါ
- လေဖြတ်ခြင်း
- ဦးနှောက်သွေးကြောပိတ်ခြင်း၊ဦးနှောက်အတွင်းသွေးယိုခြင်း၊သွေးခဲပိတ်ခြင်းကြောင့် သတိလစ်ပြီးအသက်ဆုံးရှုံးခြင်း
- ကျောက်ကပ်ရောဂါ
- မျက်စိကွယ်ခြင်း
- ခြေလက်ပုပ်ခြင်း

**သွေးကြောများပိတ်ခြင်းကုသခြင်း**

- သွေးတိုးသည်ဟု သံသယရှိလျှင် ဆရာဝန်ထံပြသပါ၊
- ဆေးကိုမှန်မှန်သောက်ပါ၊
- ဆရာဝန်က ထပ်မံ ပြသရန်ချိန်းပါက မပျက်မကွက်ပြသပါ၊
- သွေးကျဆေးကို ဆရာဝန်က မညွှန်ကြားဘဲ မိမိသဘောဖြင့် ကြာရှည်မသောက်သင့်ပါ၊
- ဆေးသောက်နေရင်း ဆရာဝန်က မညွှန်ကြားဘဲ ဆေးကိုမဖြတ်ရပါ။

**ကာကွယ်ခြင်း**

သွေးတိုးဖြစ်ပွားမှုမှကင်းဝေးစေရန် အောက်ပါအချက်များကို ဂရုပြုဆောင်ရွက်ကြရမည်–

- သွေးပေါင်ချိန်ခြင်း
- အငန်လျှော့စားခြင်း
- အဆီအဆိမ့်ကိုရှောင်ကြဉ်ခြင်း
- ကိုယ်အလေးချိန်ပုံမှန်ဖြစ်ရန်ထိန်းသိမ်းခြင်း
- အရက်အလွန်အကျွံသောက်ခြင်းကိုရှောင်ကြဉ်ခြင်း
- ဆီးချိုသွေးချိုရောဂါရှိလျှင် သတိပြုခြင်း

- ကိုယ်လက်လှုပ်ရှားခြင်း
- ဆေးလိပ်ရှောင်ကြဉ်ခြင်း

## နှလုံးရောဂါ

**နှလုံးရောဂါဖြစ်စေသောအခြေအနေများ**

- အဝလွန်ခြင်း
- အရက်၊ ဆေးလိပ်အလွန်အကျွံသောက်ခြင်း
- အဆီအဆိမ့်အစားများခြင်း
- ဆီးချို၊ သွေးချို၊ သွေးတိုးရောဂါရှိခြင်း
- စိတ်ဖိစီးမှုများခြင်း
- သွေးထဲတွင် ကိုလက်စထရော အဆီဓာတ်များခြင်း

**နှလုံးရောဂါလက္ခဏာများ**

- ရင်ဘတ်အောင့်ခြင်း
- ရင်တုန်ခြင်း
- မောခြင်း
- အသက်ရှူကျပ်ခြင်း
- ဖောရောင်ခြင်း
- ခြေလက်ပြာနှမ်းခြင်း
- ချောင်းဆိုးခြင်း
- လေဖြတ်ခြင်း

**ဖြစ်ပွားမှုများသော နှလုံးရောဂါများ**

- နှလုံးသွေးကြောကျဉ်းရောဂါ
- သွေးတိုးကြောင့်ဖြစ်သော နှလုံးရောဂါ
- လေးဘက်နာရောဂါကြောင့်ဖြစ်သော နှလုံးရောဂါ
- အဆုတ်နှင့်ဆက်နွယ်သော နှလုံးရောဂါ

**ကုသခြင်း**

- နှလုံးရောဂါလက္ခဏာတစ်ခုခုရှိပါက ဆရာဝန်ထံပြသပါ၊
- ဆရာဝန် ညွှန်ကြားချက်အတိုင်း အီးစီဂျီရိုက်ခြင်း၊ ရင်ဘတ်ဓာတ်မှန်ရိုက်

ခြင်း၊ သွေးစစ်ခြင်းတို့ကို ပြုလုပ်ပါ၊

- နှလုံးရောဂါဖြစ်သည့်အခါ ဆရာဝန်က ထပ်မံစစ်ဆေးမှုခံယူရန်ချိန်းပါက သွားရောက်ပြသရန် မပျက်ကွက်သင့်ချေ။ တစ်ကြိမ်ရောဂါဖြစ်ပြီး သက်သာလျှင် ရောဂါပျောက်ပြီဟု မယူဆသင့်ချေ။ ရောဂါအခြေအနေအရ ခွဲစိတ်ကုသရန် လိုအပ်သည့်အခါ ဆရာဝန်က ညွှန်ကြားမည်ဖြစ်သည်။

## ဆီးချို သွေးချိုရောဂါ

### ဖြစ်ပွားရသည့်အကြောင်းရင်းများ

ရောဂါဖြစ်ရသည့်အကြောင်းရင်းကို လူနာ ၉၀ ရာခိုင်နှုန်းကျော်တွင် ရှာဖွေတွေ့ရှိခြင်းမရှိချေ။ ကျန်လူနာ ၁၀ ရာခိုင်နှုန်းတွင်မူ အောက်ပါရောဂါများကြောင့် ဆီးချို သွေးချိုရောဂါဖြစ်ပွားသည်ကို တွေ့ရသည်–

- ပန်ကရိယရောဂါ
- အက်ဒရီနယ်ဂလင်းမှ ဟော်မုန်းထုတ်လုပ်မှုများခြင်း
- ပီကျူထရီဂလင်းမှ ဟော်မုန်းထုတ်လုပ်မှုများခြင်း

### ရောဂါလက္ခဏာများ

- ဆီးချို သွေးချိုဖြစ်ပါက ဆီးများများသွားခြင်း၊
- ညအခါ မကြာခဏဆီးသွားခြင်း၊
- ရေငတ်ခြင်း၊ ခြေလက်ထုံကျဉ်ခြင်း၊ ပိန်လာခြင်း၊ မောပန်းလွယ်ခြင်း၊
- မကြာခဏအနာပေါက်ပြီး အနာကျက်ရန် နှေးခြင်း၊
- ဆီးတွင် ပုရွက်ဆိတ်အုံတတ်ခြင်း၊
- ဆီးသွားသည့်အင်္ဂါအနီးတစ်ဝိုက်တွင် ယားယံတတ်ခြင်း။

### နောက်ဆက်တွဲရောဂါများ

- မျက်စိမှုန်ခြင်း၊ မျက်စိကွယ်ခြင်း
- ခြေလက်ပုပ်ခြင်း
- နှလုံးကြွက်သားပုပ်ခြင်း
- ကြွက်တက်ခြင်း
- လေဖြတ်ခြင်း
- ထုံနာ ကျဉ်နာ

- သွေးတိုး
- နှလုံးသွေးကြောကျဉ်းရောဂါ
- ကျောက်ကပ်ပျက်စီးခြင်း
- သတိလစ်မေ့မြော၍ အသက်ဆုံးရှုံးခြင်း
- ရောဂါပိုး ဝင်ရောက်လွယ်ခြင်း
- အနာကျက်ရန် မလွယ်ကူခြင်း

**ကုသခြင်း**

- အမြစ်ပြတ်အောင်ကုသနိုင်သောဆေး မရှိသေးပါ၊
- ဆရာဝန်ညွှန်ကြားသည့်အတိုင်း တစ်သက်တာလုံး စနစ်တကျကုသရန်၊
- အစားအသောက်ဆင်ခြင်ခြင်းအပြင် ဆီးချို သွေးချိုချဆေးသောက်ရန် သို့မဟုတ် အင်ဆူလင်ဆေးထိုးခြင်းဖြင့် ကုသရမည် ဖြစ်သည်။

**ကာကွယ်ခြင်း**

အောက်ပါဝေဒနာတို့ကို ခံစားရသည့်အခါ ဆရာဝန်ထံပြသပြီး ဆီးချို သွေးချို ရှိ၊ မရှိ စစ်ဆေးမှုကိုခံယူသင့်သည်-

- ဆီးအလွန်သွားခြင်း
- အခြားအကြောင်းတစ်စုံတစ်ရာမရှိဘဲ ပိန်လာခြင်း
- အကြောင်းမဲ့မောပန်းနေခြင်း
- အနာဖြစ်သည့်အခါ အလွယ်တကူမကျက်ခြင်း

## ကင်ဆာရောဂါ

**ဖြစ်ပွားရသည့်အကြောင်းရင်းများ**

- မျိုးရိုးဗီဇ
- ဓာတ်ရောင်ခြည်ထိတွေ့မှု
- ဆေးလိပ်သောက်ခြင်း
- အရက်သောက်ခြင်း
- ကွမ်းစားခြင်း
- အစားအစာဆိုးဆေးများ
- မှိုအဆိပ်များ

- ဗိုင်းရပ်စ်ပိုးများ
- ဘက်တီးရီးယားပိုးများ
- ဆေးဝါးများ
- အသက်ကြီးရင့်မှု
- ခန္ဓာကိုယ်၏ ခုခံအားစနစ်ပြောင်းလဲမှု

**ရောဂါလက္ခဏာများ**

- အသည်းကင်ဆာဖြစ်သည့်အခါ ဝမ်းဗိုက် ညာဘက် အထက်ပိုင်း နံရိုးစွန်း နေရာ၌ တင်းခြင်း၊ နာကျင်ခြင်းတို့ဖြစ်ပြီး အကျိတ်ပေါ်လာခြင်း၊
- အစားအသောက်ပျက်ခြင်း၊ နုံးချည့်ခြင်း၊ ပိန်လာခြင်း၊
- အစာအိမ်ကင်ဆာ၊ အူမကြီးကင်ဆာ စသည့် အစာအိမ်လမ်းကြောင်း ကင်ဆာတို့တွင် သွေးအန်ခြင်း၊ သွေးဝမ်းသွားခြင်း၊
- ဝမ်းဗိုက်အတွင်းရေစုပြီး ရေဖျဉ်းစွဲခြင်း၊
- ဝမ်းပျက် ဝမ်းလျှောခြင်း၊
- မီးယပ်သွေးဆင်းများခြင်း၊ သို့မဟုတ် မီးယပ်သွေးဆင်းချိန်မဟုတ်ဘဲ သွေးဆင်းခြင်း၊
- မီးယပ်သွေးဆုံးပြီးမှ သွေးပြန်ဆင်းခြင်း၊
- အသားဝါခြင်း၊
- ဖျားခြင်း၊
- သွေးအားနည်းပြီး ဖြူဖပ်ဖြူရော်ဖြစ်ခြင်း၊
- ရင်ဘတ်အောင့်ခြင်း၊ အသက်ရှူကျပ်ခြင်း။

**ကုသခြင်း**

- ဆေးဝါးဖြင့်ကုသခြင်း
- ခွဲစိတ်ကုသခြင်း
- ဓာတ်ရောင်ခြည်ဖြင့်ကုသခြင်း
- ဟော်မုန်းဖြင့်ကုသခြင်း
- ဗီဇပြုပြင်ပေးခြင်း

**ကာကွယ်ခြင်း**

- အပူအစပ်၊ ဆေးလိပ်၊ အရက်တို့ကို ရှောင်ကြဉ်ခြင်း၊
- ဆိုးဆေးပါရှိသောအစားအသောက်များကို ရှောင်ကြဉ်ခြင်း၊
- မှိုတက်သောအစားအသောက်များကို ရှောင်ကြဉ်ခြင်း၊

- ခါတ်ရောင်ခြည်၊ ဓာတုပစ္စည်းများနှင့် ထိတွေ့လုပ်ကိုင်ရသူတို့သည် အကာအကွယ်များဝတ်ဆင်၍ စနစ်တကျလုပ်ကိုင်ခြင်း၊
- ကင်ဆာသို့ပြောင်းလဲစေတတ်သည့်ရောဂါများအား ကုသခြင်း၊
- ဟော်မုန်းဆေးများ မလိုအပ်ဘဲသုံးစွဲခြင်းကို ရှောင်ကြဉ်ခြင်း၊
- ခန္ဓာကိုယ်တွင် အကျိတ်အဖုများပေါ်ခြင်းရှိ၊ မရှိ ဂရုပြု စမ်းသပ်ခြင်း၊
- ရောဂါကို စောစီးစွာသိရှိခြင်းဖြင့် ရောဂါပျံ့နှံ့မှုနှင့် အသက်အန္တရာယ်ကို တားဆီးကာကွယ်နိုင်ရန် ကုသမှုပြုနိုင်မည်ဖြစ်၍ သံသယဖြစ်ပါက ဆေးရုံ၊ ဆေးခန်းသို့ပြသခြင်း၊
- ပဲပိစပ်၊ ခရမ်းချဉ်သီး၊ ကြက်သွန်ဖြူ စသော ဗီတာမင်အီးပါသည့် အစားအစာများစားခြင်း။

## လေးဘက်နာရောဂါ

**ရောဂါလက္ခဏာများ**

- လေးဘက်နာရောဂါဖြစ်ပါက ဖျားလာမည်။
- အဆစ်အမြစ်တစ်နေရာရာတွင် ကိုက်ရာမှ အခြားတစ်နေရာသို့ရွှေ့ပြီးကိုက်သည်။
- အဆစ်အမြစ်ရောင်၊ ပခုံးဆစ်နာရာမှ တံတောင်ဆစ်၊ တံတောင်ဆစ်မှ လက်ကောက်ဝတ်သို့ ရွှေ့ပြောင်းပြီးကိုက်သည်။ မျက်နှာနှင့် ခန္ဓာကိုယ်ပေါ်တွင် အနီကွက်များ ပေါ်တတ်သည်။
- တံတောင်ဆစ်၊ လက်ကောက်ဝတ် စသည့် အဆစ်တို့တွင် အဖုအသီးများဖြစ်ပြီး ယင်းတို့သည် နာကျင်ခြင်းမရှိချေ။
- ခြေလက်များ အငြိမ်မနေဘဲ လှုပ်ရှားနေတတ်သည်။
- နှလုံးကိုထိခိုက်နိုင်ပြီး နှလုံးခုန်မြန်၍ ခန္ဓာကိုယ်ဖောရောင်လာတတ်သည်။
- မောပန်းခြင်း၊ ရင်တုန်ခြင်းတို့ဖြစ်နိုင်သည်။ နှလုံးအဆို့ရှင်ကျဉ်းခြင်း၊ သို့မဟုတ် ကျယ်ခြင်းဖြစ်နိုင်သည်။

**ကုသခြင်း**

- အဆစ်အမြစ်ကိုက်ခြင်းအတွက် သက်သာစေသော အကိုက်အခဲပျောက်ဆေးဖြင့် ကုသရသည်။
- အက်စ်ပရင်ကို အများဆုံးပေးသည်။

- ရောဂါပိုးသေစေရန် ပင်နင်စလင်ဆေးသောက်ခြင်း၊ သို့မဟုတ် ထိုးခြင်းဖြင့် ကုသပေးသည်။
- အနားယူရန်လည်း လိုအပ်သည်။

**ကာကွယ်ခြင်း**

- လေးဘက်နာရောဂါရှိ၊ မရှိ သိရန် ASO titre ကို တိုင်းကြည့်ရမည်။ သွေးစစ်ကြည့်ရမည်။
- ASO titre မြင့်တက်နေလျှင် လေးဖက်နာရောဂါဟု သတ်မှတ်နိုင်သည်။
- ရောဂါထပ်မံဖြစ်ပွားမှုမရှိစေရန် ပင်နင်စလင်ဆေးပြားကို တစ်နေ့နှစ်ကြိမ်၊ နံနက်တစ်ကြိမ်၊ ညနေတစ်ကြိမ် နေ့စဉ်သောက်ရမည်။
- သို့မဟုတ်ပါက ပင်နင်စလင်ထိုးဆေး (Benzathine Penicillin)ကို လစဉ်တစ်ကြိမ် ထိုးပေးရမည်။
- ပင်နင်စလင်သောက်ခြင်း၊ သို့မဟုတ် ဆေးထိုးခြင်းဖြင့် ငါးနှစ်ကြာ ဆက်လက်ကုသမှုခံယူရန် လိုအပ်သည်။
- လူနာအနေဖြင့် ဆေးသောက်ခြင်း၊ သို့မဟုတ် ဆေးထိုးခြင်းကို မပျက်ကွက်သင့်ချေ။
- လိုအပ်ပါက အသက် ၃၀ နှစ်အထိ ကုသမှုခံယူရမည်။

## အသည်းရောင် အသားဝါရောဂါ

**ရောဂါလက္ခဏာများ**

- A ပိုးကြောင့်ဖြစ်ပါက ပိုးဝင်ပြီးနှစ်ပတ်မှခြောက်ပတ်အကြာတွင် ရောဂါလက္ခဏာများ ပြလေ့ရှိသည်။
- B ပိုးကြောင့်ဖြစ်ပါက ပိုးဝင်ပြီးတစ်လမှ ခြောက်လကြာမှသာ ရောဂါလက္ခဏာပြသည်။
- လူနာသည် ဖျားပြီး ကိုယ်လက်ကိုက်ခဲမည်။ နုံးချွေနေပြီး ပျို့အန်တတ်သည်။ ခံတွင်းပျက်ခြင်း၊ ဝမ်းလျှောခြင်းတို့ ဖြစ်နိုင်သည်။
- ဆီးဝါရာမှ မျက်လုံးဝါခြင်း၊ အသားဝါခြင်းတို့ဖြစ်သည်။
- အသည်းကြီးနေပြီး လက်ယာဘက်ရင်ဘတ် အောက်ပိုင်းတွင်နာသည်။

**ကုသခြင်း**

- ရေများများသောက်ပါ။
- ဂလူးကို့စ်၊ သံပရာရည်တို့ကို သောက်ပါ။

- ပျို့အန်မှုမရှိပါက ဆီကိုစားနိုင်သည်။
- အပူအစပ်များကိုရှောင်ပါ။
- အသားအလွန်ဝါနေပါက အသား၊ နို့၊ ကြက်ဥတို့ကို မစားရ။
- ဆရာဝန်ကညွှန်ကြားပါက အသည်းအားဆေးကိုသောက်ပါ။
- အပြည့်အဝအနားယူပါ။

**ကာကွယ်ခြင်း**

- ရေကိုကျိုချက်၍သောက်ခြင်း၊
- ယင်နားစာကိုရှောင်ကြဉ်ခြင်း၊
- အစားအသောက်များကို ယင်မနားစေရန် ဖုံးအုပ်ထားခြင်း၊
- အစားအသောက်များကို ကျန်းမာရေးနှင့်ညီညွတ်စွာ ကိုင်တွယ်ချက်ပြုတ်ရောင်းချခြင်း၊
- အစာမစားမီနှင့် အိမ်သာမှအဆင်းတွင် လက်ကို ဆပ်ပြာနှင့်ဆေးခြင်း၊ အသည်းရောင်အသားဝါလူနာထံမှ ရောဂါမကူးစေရန် လူနာအသုံးပြုသည့် ပန်းကန်ခွက်ယောက်၊ မျက်နှာသုတ်ပဝါ စသည်တို့ကို သီးသန့်ထားခြင်း၊
- ယင်လုံအိမ်သာ ဆောက်လုပ်သုံးစွဲခြင်း၊
- သွေးသွင်းခြင်းမှ မကူးစေရန် သွင်းမည့်သွေးအားစစ်ခြင်း၊
- မူးယစ်ဆေးကိုအကြောထဲထိုးထည့်ရာမှမကူးစေရန်မူးယစ်ဆေးသုံးစွဲမှုကို ရှောင်ကြဉ်ခြင်း၊
- ကာကွယ်ဆေးထိုးခြင်း၊
- ဆေးထိုးအပ်၊ ဆေးထိုးပြွန်တို့မှ မကူးစက်ရန် တစ်ခါသုံးပစ္စည်းများသုံးခြင်း၊ သို့မဟုတ် ယင်းတို့ကို မိနစ် ၂၀ ကြာပြုတ်ခြင်း၊
- တစ်နှစ်အတွင်း အသည်းရောင်အသားဝါရောဂါဖြစ်ဖူးပါက သွေးသွင်းလှူဒါန်းမှု မပြုခြင်း၊

## အသည်းခြောက်ရောဂါ

**ရောဂါလက္ခဏာများ**

- ရင်ညွန့်အောင့်ခြင်း၊ အန်ခြင်း၊
- အသားဝါခြင်း၊ မောခြင်း၊ ခံတွင်းပျက်ခြင်း၊
- ဝမ်းဗိုက်တွင် ရေဖျဉ်းစွဲခြင်း၊
- နှာခေါင်းသွေးယိုခြင်း၊ သွေးအန်ခြင်း၊ သွေးဝမ်းသွားခြင်း၊

- အမျိုးသားများတွင် နို့အုံစူထွက်လာခြင်း၊ ဝှေးစေ့ သိမ်သွားခြင်း၊
- အမျိုးသမီးများတွင် ရာသီသွေးထိန်ခြင်း၊
- လူနာအား စမ်းသပ်သည့်အခါ အသည်းနှင့် သရက်ရွက်ခေါ်ဘေလုံး (Spleen) ကြီးခြင်း၊
- လက်ဖဝါးအရေပြားနီလာခြင်း၊
- လက်ချောင်းထိပ်များ တင်းပုတ်ပုံ ဖုလုံးလာခြင်း၊
- မျက်နှာနှင့် ခန္ဓာကိုယ်အထက်ပိုင်းတွင် ပင့်ကူကွက်ပုံသွေးမျှင်များ ဖြစ်ပေါ်လာခြင်း၊

**ကုသခြင်း**

- အရက်သောက်ခြင်းကြောင့် အသည်းခြောက်ရောဂါဖြစ်ပါက အရက်သောက်ခြင်းကို ဖြတ်ရမည်။
- ခွဲစိတ်ကုသခြင်းကို သွေးအန်ခြင်းရပ်တန့်ရန်လိုအပ်သည့်အခါပြုလုပ်ပေးသည်။
- အစာမျိုပြွန်နှင့် အစာအိမ်တို့တွင် ဘောလုံးဖြင့် သွေးယိုခြင်းကိုတားဆီးခြင်း၊ သွေးပြန်ကြောထဲသို့ ဆေးထိုးခြင်း၊ လမ်းကြောင်းလွှဲ ခွဲစိတ်ကုသခြင်းစသည့် နည်းများဖြင့် ခွဲစိတ်ကုသသည်။

**ကာကွယ်ခြင်း**

- အရက်သည် အသည်းကိုထိခိုက်ပျက်စီးစေသဖြင့် အရက်သောက်ခြင်းကို ရှောင်ကြဉ်ရမည်။
- အသည်းရောင်အသားဝါ ဘီ မဖြစ်ရန်ကာကွယ်ခြင်းသည် အသည်းခြောက်ရောဂါကာကွယ်ခြင်းဟုဆိုနိုင်သည်။ အသည်းရောင်အသားဝါဘီ ကာကွယ်ရန် မူးယစ်ဆေးအကြောထဲထိုးခြင်း၊ မသန့်ရှင်းသောဆေးထိုးအပ်နှင့် ပြွန်သုံးခြင်း၊ ပိုးပါရှိသောသွေးသွင်းခြင်းတို့ကို ရှောင်ကြဉ်ရမည်။

## ခုခံအားကျဆင်းမှု ကူးစက်ရောဂါ

**အေအိုင်ဒီအက်စ်**

အေအိုင်ဒီအက်စ် (AIDS)၏ အမည်အပြည့်အစုံမှာ Acquired Immune Deficiency Syndrome ဖြစ်သည်။ ခုခံအားကျဆင်းမှုကူးစက်ရောဂါဟု ခေါ်သည်။

အိပ်ချ်အိုင်ဗွီဗိုင်းရပ်စ်ပိုးသည် လူ့ခန္ဓာကိုယ်အတွင်းသို့ရောက်ရှိပြီး ခန္ဓာကိုယ်၏ ခုခံအားစနစ်ကိုဖျက်ဆီးသဖြင့် ဖြစ်ပေါ်လာသောရောဂါစုကို အေအိုင်ဒီအက်စ်ဟု ခေါ်သည်။

**ကူးစက်ခြင်း**

အေအိုင်ဒီအက်စ်ရောဂါသည် အိပ်ချ်အိုင်ဗွီပိုးရှိသူနှင့် လိင်ဆက်ဆံရာမှ ကူးစက်သည်။ လိင်အပျော်အပါးလိုက်စားခြင်းသည် ရောဂါကူးစက်စေသော အဓိက အကြောင်းရင်းဖြစ်သည်။ အိပ်ချ်အိုင်ဗွီပိုးရှိသူမှတစ်ဆင့် ဇနီး သို့မဟုတ် ခင်ပွန်းသို့ ကူးစက်ဖြစ်ပွားသည်။ ပြည့်တန်ဆာများ၊ အပျော်အဖော်များသည် ရောဂါပြန့်ပွား စေနိုင်သူများဖြစ်သည်။

ပိုးရှိသူသုံးပြီးသည့် မသန့်ရှင်းသောဆေးထိုးအပ်၊ ဆေးထိုးပြွန်တို့ကို မျှဝေသုံးစွဲရာမှတစ်ဆင့် ကူးစက်နိုင်သည်။ ဆေးမင်ကြောင်ထိုးခြင်း၊ နားဖောက်ခြင်း၊ ဆံပင်ညှပ်ခြင်း၊ လက်သည်းညှပ်ခြင်းတို့ပြုလုပ်သည့်အခါ မသန့်ရှင်းသော ကိရိယာကြောင့် ရောဂါကူးစက်စေနိုင်သောအန္တရာယ်ရှိသည်။ မူးယစ်ဆေးကို သွေးကြောထဲထိုးသူတို့သည် မသန့်ရှင်းသောဆေးထိုးအပ်နှင့် ပြွန်တို့ကို အတူသုံးခြင်းကြောင့် ရောဂါ ကူးစက်ပျံ့နှံ့သည်။

လက်ဆွဲနှုတ်ဆက်ခြင်း၊ နမ်းရှုပ်ခြင်း၊ ချောင်းဆိုးခြင်း၊ အတူစားသောက်ခြင်း၊ ရေကူးခြင်း၊ အတူနေထိုင်ခြင်း၊ အတူကစားခြင်း၊ အတူကျောင်းတက်ခြင်းတို့ကြောင့် အေအိုင်ဒီအက်စ်ရောဂါမကူးစက်နိုင်ချေ။

**ရောဂါလက္ခဏာများ**

- ခန္ဓာကိုယ်အလေးချိန် ၁၀ ရာခိုင်နှုန်းထက် ပို၍လျော့ကျခြင်း၊ တစ်လထက် ပို၍ ဝမ်းဆက်တိုက်သွားခြင်း၊
- တစ်လထက်ပို၍ အဖျားဆက်တိုက်တက်ခြင်းတို့ဖြစ်ကြသည်။
- တစ်လထက်ပို၍ ချောင်းဆိုးခြင်း၊
- အကျိတ်များ တစ်ကိုယ်လုံးအနှံ့အပြားထွက်ခြင်း၊
- မွေးကင်းစကလေးကို မွေးပြီး ၁၂ နာရီအတွင်း B ပိုးကာကွယ်ဆေးထိုးခြင်း၊
- ခန္ဓာကိုယ်အနှံ့အပြား ရေယုန်မကြာခဏ ထွက်ခြင်း၊
- ပါးစပ်အတွင်းတွင် မှက္ခရုများထွက်ခြင်း၊
- ခန္ဓာကိုယ်အနှံ့အပြား အရေပြားယားယံရောင်ရမ်းခြင်းတို့ ဖြစ်သည်။

**ကုသခြင်း**

အေအိုင်ဒီအက်စ်ရောဂါကုသရန် ဆေးဝါးများ(Anti-Retrovinal)ကို ရောဂါလက္ခဏာပြခြင်း၊ သို့မဟုတ် $CD_4$ ခေါ်သွေးဖြူဥအရေအတွက် သွေးထဲတွင် ၂၀၀ နှင့် ၂၀၀ အောက်လျော့မှသာ သောက်ရသည်။ ယခုအခါ Zidovudine (AZT), Didanosine(DDL), Zalcitabine(DDC), Ritonavir (RTV) စသည့် ဆေးဝါးများကို အသုံးပြုပြီး ရောဂါတိုးလာသော အရှိန်ကို နှေးစေသော အာနိသင်သာရှိသည်။ ရောဂါသက်သာရန်သာ စွမ်းဆောင်နိုင်ပြီး လုံးဝပျောက်ကင်းရန် မတတ်နိုင်ချေ။ ဆေး၏ နောက်ဆက်တွဲဆိုးကျိုးများလည်း ရှိသည်။

## တီဘီရောဂါ

**ကူးစက်ခြင်း**

တီဘီသည် မျိုးရိုးလိုက်ပြီးမဖြစ်ပွားချေ။ တီဘီပိုးပါသောလေကို ရှူရှိုက်မိခြင်းမှတစ်ဆင့် ကူးစက်ဖြစ်ပွားသည်။ တီဘီလူနာ နှာချေခြင်း၊ ချောင်းဆိုးခြင်း၊ တံတွေးထွေးခြင်း၊ ကျယ်လောင်စွာ သီချင်းဆိုခြင်းတို့မှတစ်ဆင့် တီဘီပိုး လေထဲသို့ရောက်ပြီး ကူးစက်သည်။

တီဘီလူနာမှ အတူနေမိသားစုနှင့် မိတ်ဆွေများသို့ ရောဂါကူးစက်နိုင်သည်။ အထူးသဖြင့် လူစုလူဝေးရှိသောနေရာတွင် ကူးစက်ပြန့်ပွားလွယ်သည်။ တီဘီလူနာ တစ်ဦးသည် အခြားလူ ၁၀ ဦးမှ ၁၅ ဦးအထိ တီဘီရောဂါကို ကူးစက်စေနိုင်သည်။

**ရောဂါလက္ခဏာများ**

- ဖျားပြီးချောင်းဆိုးမည်။
- ချောင်းဆိုးသည့် အခါ သလိပ်ထွက်ပြီး သွေးလည်းပါနိုင်သည်။
- ရင်ဘတ်နှင့် ကျောအောင့်တတ်သည်။
- ခံတွင်းပျက်ခြင်း၊ မောပန်းလွယ်ခြင်း၊ ညပိုင်း၌ ချွေးထွက်ခြင်းတို့ဖြစ်နိုင်သည်။
- တီဘီကြောင့်ဖျားပါက အဖျားတငွေ့ငွေ့တက်တတ်သည်။
- ညနေပိုင်းတွင် အဖျားတက်နိုင်သည်။
- ချောင်းဆိုးခြင်းသည် ရက်သတ္တပတ် ၃ ပတ်ထက်ပို၍ ကြာရှည်နိုင်သည်။
- ကိုယ်အလေးချိန်လျော့ပြီး တဖြည်းဖြည်းပိန်ချုံးလာနိုင်သည်။

- ရက်သတ္တပတ် ၃ ပတ်ထက်ပို၍ ကြာရှည်စွာချောင်းဆိုးခြင်း၊ ချောင်းဆိုးသည့်အခါ သလိပ်ထွက်ခြင်းနှင့် တဖြည်းဖြည်းပိန်ချုံးလာခြင်းတို့ ဖြစ်ပွားပါက တီဘီသံသယလူနာဟု သတ်မှတ်နိုင်သည်။

**တိုက်ရိုက်ကြည့်ရှု အချိန်တိုကု**

ယခင်က တီဘီကုသရာ၌ ၁ နှစ်မှ ၁ နှစ်ခွဲအထိ ကြာရှည်စွာဆေးထိုးဆေးသောက်ပြီးကုသရသည်။ ယခုအခါ တီဘီကို တိုက်ရိုက်ကြည့်ရှု အချိန်တိုကုထုံး(Directly Observed Treatment Short Course)(D.O.T.S) နည်းဗျူဟာဖြင့် ထိရောက်စွာကုသပေးလျက်ရှိသည်။

တီဘီကို အချိန်တိုကုထုံးဖြင့် ၆ လမှ ၈ လအထိ စနစ်တကျကုသပါက ရောဂါပျောက်ကင်းနိုင်ပြီဖြစ်သည်။

**ကာကွယ်ခြင်း**

- တီဘီရောဂါကာကွယ်ရန် ကလေးအသက် တစ်လခွဲအရွယ်၌ ဘီစီဂျီ ကာကွယ်ဆေးထိုးပေးခြင်းဖြင့် ကာကွယ်နိုင်သည်။
- ဆကမ (ဆုံဆို့၊ ကြက်ညှာ၊ မေးခိုင်)နှင့် ပိုလီယိုကာကွယ်ဆေးတို့ကို ထိုးနှံတိုက်ကျွေးသည့်အခါ ဘီစီဂျီ ဆေးကိုပါ တစ်ပါတည်းထိုးနိုင်သည်။
- တီဘီလူနာနှင့် အတူနေမိသားစုသည် လူနာတို့အနေဖြင့် ချောင်းဆိုး၊ နှာချေ သည့်အခါ နှာခေါင်းနှင့် ပါးစပ်ကို လက်ကိုင်ပဝါနှင့် လုံအောင်အုပ်ပြီး ချောင်းဆိုးရမည်ဖြစ်သည်။

## ငှက်ဖျားရောဂါ

**ငှက်ဖျားရောဂါပိုး**

ငှက်ဖျားရောဂါဖြစ်စေသောပိုးမှာ ပလတ်စ်မိုဒီယမ်(Plasmodium) ခေါ် ကပ်ပါးပိုးဖြစ်သည်။ ငှက်ဖျားရောဂါပိုး ၄ မျိုးရှိသည်။ ယင်းတို့မှာ ပလတ်စ်မိုဒီယမ် ဖယ်လ်ဆီပါရမ် (Plasmodium Falciparum)၊ ပလတ်စ်မိုဒီယမ် အိုဗေလီ (Plasmo–dium Ovale)၊ ပလတ်စ်မိုဒီယမ် မလေးရီးယား (Plasmodium Malariae)၊ ပလတ်စ် မိုဒီယမ် ဗိုင်းဗက်စ်(Plasmodium Vivax) တို့ ဖြစ်ကြသည်။

**ရောဂါလက္ခဏာများ**

- ငှက်ဖျားပိုးရှိသော အနောဖလီခြင်အကိုက်ခံရပြီး ၁၀ ရက်မှ ၁၅ ရက် ကြာ

သောအခါ ခြင်ကိုက်ခံရသူတွင် ငှက်ဖျားရောဂါလက္ခဏာများ ပေါ်ပေါက်လာသည်။

- လူနာသည် ချမ်းတုန်၍ဖျားသည်။ အချို့မှာ ချမ်းတုန်ခြင်းမရှိချေ။
- ခေါင်းကိုက်ခြင်း၊ အဆစ်ကိုက်ခြင်း၊ ပျို့အန်ခြင်း၊ ခံတွင်းပျက်ခြင်းတို့ဖြစ်သည်။

**ကုသခြင်း**

သွေးစစ်ပြီး ပိုးအမျိုးအစားအလိုက် ကုသရသည်။ သွေးမစစ်နိုင်ပါက ဖယ်လ်ဆီပါရမ်ပိုးဟုယူဆပြီး ကုသနိုင်ပါသည်။ ဖယ်လ်ဆီပါရမ်ပိုးကြောင့်ဖြစ်သော ငှက်ဖျားကို ကလိုရိုကွင်းဖြင့်ကုသရသည်။ ကလိုရိုကွင်းသောက်ပါက ခေါင်းမူးခြင်း၊ ပျို့အန်ခြင်း၊ ဝမ်းလျှောခြင်း၊ ဝမ်းဗိုက်မအီမသာဖြစ်ခြင်း၊ ယားယံခြင်းတို့ ဖြစ်နိုင်သည်။

**ကြိုတင်ကာကွယ်ဆေးသောက်ခြင်း**

ငှက်ဖျားကူးစက်ဖြစ်ပွားမှုရှိသောဒေသသို့ သွားသည့်အခါ ဆရာဝန်နှင့် တိုင်ပင်၍ မသွားမီတစ်ပတ်အလိုတွင် စတင်သောက်ရသည်။ ယင်းဒေသတွင် ရှိနေစဉ် အပတ်စဉ်သောက်ပြီး ပြန်လာသည့်အခါ လေးပတ်ကြာသည်အထိ အပတ်စဉ် ဆက်သောက်ရမည်။ ကြိုတင်ကာကွယ်ဆေးအဖြစ် ကလိုရိုကွင်းကို တစ်ပတ်လျှင် နှစ်ပြားသောက်ရသည်။ အကယ်၍ ရုတ်တရက်ခရီးထွက်ပါက ငှက်ဖျားကူးစက်သော ဒေသသို့ရောက်သည့်နေ့၌ စတင်သောက်ရမည်။ ယင်းဒေသ၌ရှိနေစဉ် အပတ်စဉ်သောက်သွားရမည်။

**ကာကွယ်ခြင်း**

ခြင်ကိုက်ခံရမှုမှ ကင်းဝေးရန် အောက်ပါတို့ကိုလုပ်ဆောင်သင့်သည်–

- ခြင်ထောင်နှင့်အိပ်ခြင်း၊ ပိုးသတ်ဆေးစိမ်ထားသော ခြင်ထောင်ကို အသုံးပြုခြင်း၊
- ခြင်လာမနားစေရန်၊ လိမ်းဆေး(Repellent)ကို အဝတ်မဖုံးအုပ်သော ခန္ဓာကိုယ်နေရာ၌လိမ်းခြင်း၊
- အင်္ကျီလက်ရှည်၊ ဘောင်းဘီရှည်၊ ပုဆိုးတို့ကို လုံခြုံစွာဝတ်ဆင်ခြင်း၊
- ခြင်ဆေးခွေထွန်းခြင်း၊
- မီးခိုးမှိုင်း၊ နနွင်းမှိုင်းတိုက်ခြင်း၊

- ခြင်လုံးသံဇကာတပ်ခြင်း၊
- ဆေးဖျန်းခြင်း၊

ခြင်ပေါက်ပွားမှုမရှိရန် အောက်ပါတို့ကိုလုပ်ဆောင်ရမည် –

- ရေကန်၊ ရေအိုင်၊ စိမ့်စမ်း၊ မြစ်ချောင်းတို့တွင် ရေစပ်ရှိ မြက်ပင်၊ ချုံပင်တို့ကို ရှင်းလင်းခြင်း၊
- ရေအိုင်များကို မြေဖို့ခြင်း၊ ရေစီးရန် ဖောက်ထုတ်ခြင်း၊
- ခြင်ခိုအောင်းသည့်မြက်ပင်၊ ချုံနွယ်များကို ခုတ်ထွင်ရှင်းလင်းခြင်း၊
- ရေကန်၊ ရေအိုင်နှင့် ရေတွင်းတို့တွင် ပိုးလောက်လမ်းစားငါးများဖြစ်သော ငါးဘေးစင်း၊ ငါးမော့တော့၊ ဒေါင်းငါး၊ ငါးရံ့ခေါင်းတို၊ တီလားပီးယား စသည့် ငါးတစ်မျိုးမျိုးထည့်ခြင်း၊

## သွေးလွန်တုပ်ကွေးရောဂါ

**ရောဂါလက္ခဏာများ**

သွေးလွန်တုပ်ကွေးသည် အသက် ၁၅ နှစ်အောက်ကလေးများတွင် ဖြစ်ပွားသည်။ ကလေးသည် အဖျားတက်ပြီးခေါင်းကိုက်ခြင်း၊ ကိုယ်လက်ကိုက်ခဲခြင်း၊ ခံတွင်းပျက်ခြင်း၊ လက်နှင့် ရင်ဘတ်တို့တွင် အနီစက်များထွက်ခြင်း၊ ပျို့အန်ခြင်းတို့ဖြစ်သည်။ ထို့အပြင် သွေးယိုထွက်ခြင်းရှိနိုင်ရာ နှာခေါင်းသွေးလျှံခြင်း၊ သွေးအန်ခြင်း၊ ကော်ဖီရောင်အညိုစက်များအန်ခြင်း၊ ဝမ်းသွားပါက ကတ္တရာစေး အရောင်အမည်းသွားခြင်းတို့ ဖြစ်နိုင်ပါသည်။

သွေးလန့်ခြင်း (Shock)ဖြစ်တတ်သည်။ သွေးလန့်သောလက္ခဏာများမှာ အောက်ပါအတိုင်းဖြစ်သည်–

- ဖျားရာမှ အဖျားကျပြီး ခြေဖျားလက်ဖျားအေးစက်ခြင်း
- မှိန်းနေခြင်း၊ သို့မဟုတ် ဂနာမငြိမ်ဖြစ်ခြင်း
- မကြာခဏအန်ခြင်း
- အန်သည့်အခါ အညိုရောင်အစက်များပါခြင်း
- ဝမ်းအမည်းသွားခြင်း

**ကုသခြင်း**

သွေးလွန်တုပ်ကွေးရောဂါဖြစ်ပွားလျှင် သွေးလန့်ခြင်းမရှိပါက ဆရာဝန်ကိုပြသပြီး ကလေးအား အိမ်တွင်ထားနိုင်ပါသည်။ သွေးလန့်ပါက ဆေးရုံသို့

တက်ရောက်ကုသရမည်။ သို့မှသာ အသက်ဆုံးရှုံးခြင်းမှ ကင်းဝေးမည်။ ဗိုင်းရပ်စ်ပိုး အား သေစေရန် ဆေးဝါးမရှိသဖြင့် လူနာအား ဝေဒနာသက်သာရန် ပြုစုကုသမှု ပေးသည်။ အဖျားကျစေရန် ပါရာစီတမောကို တိုက်နိုင်ပါသည်။ ဘတ်စ်ပရို၊ အေပီစီ၊ အနာဂျက်ဆင် စသည့် အဖျားကျဆေးတို့ကို မတိုက်သင့်ချေ။ တိုက်ပါက သွေးအန်ခြင်းဖြစ်နိုင်သည်။

**ကာကွယ်ခြင်း**

သွေးလွန်တုပ်ကွေးအန္တရာယ်မှ ကင်းဝေးရန် အောက်ပါနည်းလမ်းများကို လုပ်ဆောင်သင့်သည်–

- ခြင်နှိမ်နင်းရာတွင် ပိုးလောက်လန်းများကို နှိမ်နင်းရမည်။ ရေသိုလှောင်ထားသော စည်၊ အိုးတို့ကို လုံခြုံစွာဖုံးအုပ်ထားရမည်။ ပိုးလောက်လမ်းတွေ့ပါက ရေကိုသွန်ပစ်ခြင်း၊ ရေစစ်ဖြင့် ခပ်စစ်ခြင်း၊ သိုလှောင်ထားသော ရေကို တစ်ပတ်တစ်ကြိမ်လဲလှယ်ခြင်းတို့ ဆောင်ရွက်ရန် လိုအပ်သည်။
- ခြင်များမခိုအောင်းနိုင်ရန် အိမ်တွင် လေဝင်လေထွက်ကောင်းအောင် ထားသင့်သည်။
- ကလေးများ နေ့လယ်တွင် အိပ်သည့်အခါ ခြင်ထောင်ဖြင့် အိပ်စေရမည်။
- ကြောင်အိမ်အောက်ခံခွက်များတွင် ခြင်မပေါက်ပွားရန် စက်ဆီတစ်ခုခု သို့မဟုတ် ဆားထည့်ထားရမည်။
- အိမ်တွင်းရှိ အုန်းမှုတ်ခွက်၊ အိုးခွက်ပဲ့၊ တာယာခွံ၊ ဘူးခွံ စသည်တို့ကို ရေမတင်ရန် ရှင်းလင်းပစ်ရမည်။
- ကျန်းမာရေးဌာနမှ ဆေးမှုတ်ခြင်းကို လူနာအိမ်နှင့် ပတ်ဝန်းကျင်ကိုက် ၁၀၀ တွင် လုပ်ဆောင်ရာ ဆေးမှုတ်အဖွဲ့လာရောက်ပါက အိမ်အတွင်းမှ ဖယ်ပေးခြင်း၊ မှုတ်ပြီး တစ်နာရီကြာသည်အထိ တံခါးများကို ပိတ်ထားခြင်း၊ အစားအစာများကို ဖုံးအုပ်ထားခြင်းတို့ဖြင့် ကူညီရမည်။
- သွေးလွန်တုပ်ကွေးသံသယရှိပါက ဆေးရုံဆေးခန်းတွင် ပြသရမည်။
- သွေးလန့်သောလက္ခဏာရှိပါက ဆေးရုံသို့ အမြန်ဆုံးပို့ဆောင်၍ ကုသမှု ခံယူရမည်။

# ကြက်ငှက်တုပ်ကွေးရောဂါ

## ရောဂါလက္ခဏာများ

ကြက်၊ ဘဲ၊ ငန်း၊ ငုံး၊ ခိုနှင့် တောငှက်များတွင် ကြက်ငှက်တုပ်ကွေးရောဂါ ဖြစ်ပွားလေ့ရှိသည်။ ကြက်ငှက်များတွင်ရောဂါဖြစ်လျှင် ရုတ်တရက်သေဆုံးမှု များလာသည်။ ဥကြက်တို့တွင် ဥနှုန်းကျဆင်းလာသည်။

ကြက်များသည် ကုပ်၍ အစာစားနှုန်းကျကာ ရေသောက်နှုန်းများပြီး ဝမ်းသွားသည်။ အသက်ရှူခက်ခြင်း၊ မျက်ရည်နှင့် နှာရည်ကျခြင်း၊ ဦးခေါင်းနှင့် မျက်နှာဖော ရောင်ခြင်းတို့ကိုလည်း တွေ့ရသည်။

ကြက်အမောက်နှင့် ပါးပျဉ်းရောင်၍ ပြာနှမ်းလာနိုင်သည်။ ခြေထောက်နှင့် ခြေဆစ်တို့တွင် သွေးယိုစီးမှုဖြစ်ပြီး အနီစက်များထွက်သည်။ သေနှုန်းမြင့်မား၍ ခြံလုံးကျွတ် ကြက်များသေဆုံးသည်အထိ ဖြစ်နိုင်သည်။

## ကူးစက်ခြင်း

ရောဂါဖြစ်သည့် ကြက်ငှက်တို့၏မစင်၊ နှာရည်တို့တွင် ပိုးများပါရှိပြီး ယင်းတို့မှတစ်ဆင့် ကူးစက်သည်။ ကိုယ်ထဲသို့ ပိုးဝင်ပြီး ၃ ရက်မှ ၇ ရက်အကြာတွင် ရောဂါ လက္ခဏာများပေါ်ပေါက်သည်။

## လူတွင်ကူးစက်ခြင်း

ကြက်ငှက်များနှင့်ထိတွေ့မှုရှိသော လူတို့တွင် ရောဂါကူးစက်မှုဖြစ်ပါက အပြင်းဖျားခြင်း၊ ချောင်းဆိုးခြင်း၊ အသက်ရှူမဝခြင်း၊ အသက်ရှူကျပ်ခြင်းတို့ကို ခံစား ရသည်။

## ကြက်ငှက်များတွင် ကာကွယ်ခြင်း

- ဈေးများ၊ မွေးမြူရေးခြံများရှိ ကြက်ငှက်များကို တောရိုင်းကြက်ငှက်များ၊ ဆောင်းခိုငှက်များနှင့် ထိတွေ့မှုမရှိစေရန်ထားခြင်း။
- အခြားမွေးမြူရေးခြံမှ ကြက်ငှက်များကို တင်သွင်းမွေးမြူမှု မပြုခြင်း။
- ကြက်ခြံတွင်းသို့ ဧည့်သည်၊ သူစိမ်း၊ ကလေးငယ်များ မဝင်စေခြင်း။
- မည်သူမဆို ကြက်ခြံအတွင်းသို့ ဝင်ရောက်ပါက သတ်မှတ်ထားသည့် ဖိနပ်၊ ဝတ်စုံ၊ ခေါင်းစည်း၊ နှာခေါင်းစည်း၊ လက်အိတ်တို့ ဝတ်ဆင်ခြင်း။
- ကြက်ခြံအတွင်းသို့ ပြင်ပမှပိုးများ မဝင်ရောက်စေရန် ထုံး၊ ပိုးသတ်ဆေးများ ကိုသုံး၍ ပုံမှန်သန့်ရှင်းခြင်း။

- ကြက်ခြံလုပ်သားများ ကြက်ဘဲဈေးဒိုင်သို့ သွားရောက်မှုမပြုစေရန်နှင့် သွားပါကလည်း အဝတ်၊ ဖိနပ်လဲ၍ ပိုးမွှားသန့်စင်ပြီးမှ ခြံတွင်းသို့ ဝင်ရောက်ခြင်း။

**သတိပြုရန်**

ကြက်၊ ဘဲ၊ ဥနှင့်အသား စားသုံးသူများသည် အောက်ပါအချက်များကို သတိပြု သင့်ပါသည်–

- ကြက်ဥ၊ ဘဲဥကို အခြားစားစရာ၊ ဟင်းချက်စရာများနှင့်အတူ မထားသင့်ပါ။
- ဈေးမှဝယ်လာသည့် ကြက်သားကို သေချာစွာဆေးကြောရန် လိုအပ်သည်။
- ကြက်သားခုတ်သည့် စဉ်းတီတုံးနှင့် ဓားကိုဆေးကြောသန့်စင်ရန် လိုအပ်သည်။
- ကြက်ဥ၊ ဘဲဥ၊ ငုံးဥတို့၏အခွံပေါ်နှင့် အထဲတွင်ပါ ကြက်ငှက်တုပ်ကွေးရောဂါပိုးရှိနိုင်သဖြင့် ကိုင်တွယ်ပြီးပါက လက်ကို ဆပ်ပြာဖြင့် စင်ကြယ်အောင် ဆေးပါ။
- ကြက်၊ ဘဲ၊ ငှက်တို့၏ အသားနှင့် ဥများကို အတွင်းပိုင်းအထိ သေချာအောင် ချက်ပြုတ်သင့်သည်။ ကြက်ဥအနှစ်ကို ကျက်အောင် ကြော်ရန် လိုအပ်သည်။
- ကြက်ငှက်တုပ်ကွေးရောဂါ ဖြစ်ပွားချိန်နှင့် ကြက်၊ ဘဲ အသားနှင့် ဥများ မရောင်းချရန် တားမြစ်ထားချိန်တွင် ဝယ်ယူစားသောက်ခြင်း မပြုသင့်ပါ။ ရောင်းချရန် ပြန်လည်ခွင့်ပြုမှသာ ကြက်၊ ဘဲ အသားနှင့် ဥတို့ကို ပြန်စားသင့်သည်။

## ကမ္ဘာ့လူတုပ်ကွေးရောဂါ

### ကမ္ဘာ့လူတုပ်ကွေးရောဂါ

ရာသီအလိုက်တုပ်ကွေး၊ ကြက်တုပ်ကွေး၊ ဝက်တုပ်ကွေး စသည်ဖြင့် တုပ်ကွေးရောဂါအမျိုးမျိုးရှိပါသည်။ ယခုဖြစ်ပေါ်နေသော ကမ္ဘာ့လူတုပ်ကွေးရောဂါသည် ယခင်တုပ်ကွေးရောဂါများနှင့်မတူဘဲ ရောဂါအသစ်အဆန်းတစ်ခု ဖြစ်ပါသည်။ မြောက်အမေရိက ဝက်တုပ်ကွေး၊ မြောက်အမေရိက ကြက်ငှက်တုပ်ကွေး၊ ရာသီ လူတုပ်ကွေးနှင့် အာရှ– ဥရောပ ဝက်တုပ်ကွေးတို့ ပေါင်းစပ်ထားသော New Influenza A (H1N1) ဗိုင်းရပ်စ်ပိုးအသစ်ဖြစ်ပါသည်။ လူမှလူသို့ လျင်မြန်စွာ ကူးစက်လျက်ရှိပါသည်။ လူအများသို့ ကူးစက်ပြီး နိုင်ငံတကာသို့ ကူးစက်ပျံ့နှံ့မှု

ဖြစ်ပွားနေသဖြင့် ကမ္ဘာ့ကျန်းမာရေးအဖွဲ့က ကမ္ဘာ့လူတုပ်ကွေးရောဂါ (Human Influenza Pandemic) အဆင့်အဖြစ် ၂၀၀၉ ခုနှစ်၊ ဇွန်လ ၁၁ ရက်နေ့တွင် ကြေညာခဲ့ပါသည်။

**ကူးစက်ပုံ**

ကမ္ဘာ့လူတုပ်ကွေးရောဂါသည် အသက်ရှူလမ်းကြောင်းမှတစ်ဆင့် ကူးစက်ပါသည်။ လူနာချောင်းဆိုးခြင်း၊ နှာချေခြင်းဖြင့် တိုက်ရိုက်သော်လည်းကောင်း၊ ရောဂါဖြစ်သူ၏ ချွဲ၊ သလိပ်၊ ခန္ဓာကိုယ်အရည်၊ အသုံးအဆောင်ပစ္စည်းများကို ကိုင်တွယ်ထိတွေ့ခြင်းမှသော်လည်းကောင်း ကူးစက်နိုင်ပါသည်။

**ရောဂါလက္ခဏာများ**

(က) ယေဘုယျအားဖြင့် ရာသီတုပ်ကွေးရောဂါလက္ခဏာများနှင့် ဆင်တူပြီး အောက်ပါ လက္ခဏာများရှိတတ်ပါသည်–
- အဖျားရှိခြင်း(အပူချိန် ၃၈·C)
- နှာရည်ယိုခြင်း၊ နှာချေခြင်း
- ချောင်းဆိုးခြင်း
- လည်ချောင်းနာခြင်း
- ကိုယ်လက်ကိုက်ခဲခြင်း
- ခေါင်းကိုက်ခြင်း
- အစားအသောက်ပျက်ခြင်း
- တစ်ခါတစ်ရံတွင် ပျို့အန်ခြင်းနှင့်ဝမ်းသွားခြင်း

စသည်တို့ ဖြစ်တတ်ပါသည်။

( ခ ) ရောဂါပြင်းထန်လာလျှင် အောက်ပါလက္ခဏာများကို တွေ့ရှိနိုင်ပါသည်–
- အဖျားကြီးလွန်းခြင်း (အပူချိန် ၃၈.ဃ အထက်ရှိခြင်း)
- ချောင်းအလွန်ဆိုးခြင်း၊ မောခြင်း
- ပင်ပန်းနွမ်းနယ်ခြင်း
- အသက်ရှူကျပ်ခြင်း၊ အသက်ရှူခက်ခဲခြင်း
- ဂနာမငြိမ်ဖြစ်ခြင်း
- သတိလစ်ခြင်း

ထိုသို့ဖြစ်လျှင် ကျန်းမာရေးစောင့်ရှောက်မှု အမြန်ဆုံး ခံယူသင့်ပါသည်။

**ကာကွယ်ရန် လူတစ်ဦးချင်း လိုက်နာသင့်သည့်အချက်များ**

- တစ်ကိုယ်ရေသန့်ရှင်းမှုကို ဂရုပြုဆောင်ရွက်ခြင်း။
- နှာချေ၊ ချောင်းဆိုးလျှင် လက်ကိုင်ပုဝါဖြင့် ဖုံးအုပ်ခြင်း။
- လက်ကို ဆပ်ပြာဖြင့် စင်ကြယ်စွာ ဆေးကြောခြင်း။
- ကောင်းစွာ အိပ်စက်အနားယူခြင်း။
- အာဟာရပြည့်ဝသည့် အစားအစာများ စားသုံးခြင်း။
- ကိုယ်လက်လှုပ်ရှားမှု မှန်မှန်ပြုလုပ်ခြင်း။
- လေကောင်းလေသန့် ရရှိအောင် ဆောင်ရွက်နေထိုင်ခြင်း။
- လူထူထပ်သောနေရာနှင့် ပွဲလမ်းသဘင်များသို့ သွားရောက်ခြင်းမှ ရှောင်ကြဉ်ခြင်း။
- အရက်လွန်ကဲစွာ သောက်သုံးခြင်းနှင့် မူးယစ်ဆေးဝါးသုံးစွဲခြင်းမှ ရှောင်ကြဉ်ခြင်း။
- ရောဂါဖြစ်ပွားသူများနှင့် သံသယရှိသူများမှ ခြောက်ပေအကွာတွင် နေထိုင်ခြင်း။
- ရောဂါမကူးစက်စေရန် နှာခေါင်းနှင့် ပါးစပ်ကို လုံအောင်ဖုံးအုပ်သည့် ပါးစပ်နှာခေါင်းစည်း (Surgical Mask)ကို အသုံးပြုခြင်း။
- ရောဂါရှိသူ၏ နေအိမ်နှင့် ဆေးရုံများသို့ မလိုအပ်ဘဲ သွားရောက်ခြင်းမှ ရှောင်ကြဉ်ခြင်း။
- မိမိတွင် ရောဂါလက္ခဏာများရှိသည်ဟု ယူဆပါက နီးစပ်ရာ ကျန်းမာရေးဌာနသို့ အမြန်ဆုံး သတင်းပေးပို့ အကူအညီတောင်းခံခြင်းများ ပြုလုပ်ရပါမည်။

**အများနှင့်ဆိုင်သော နေရာများတွင် လိုက်နာသင့်သည့်အချက်များ**

- အဆောက်အအုံများ လေဝင်လေထွက် ကောင်းမွန်ရေးအတွက် ဆောင်ရွက်ခြင်း။
- ပတ်ဝန်းကျင်သန့်ရှင်းရေးကို ဂရုပြုဆောင်ရွက်ခြင်း။
- အမှိုက်နှင့် အညစ်အကြေးများ စနစ်တကျစွန့်ပစ်ခြင်း။
- လူအသုံးအဆောင်ပစ္စည်းများ၊ လှေကား၊ ဓာတ်လှေကား၊ နံရံများနှင့် ရုံးတွင်းပရိဘောဂများကို တစ်နေ့နှစ်ကြိမ်မှ သုံးကြိမ် ပိုးသန့်စင်ခြင်း။
- စာသင်ကျောင်း၊ လုပ်ငန်းခွင်၊ ဟိုတယ်၊ လူမှုရေးရိပ်သာနှင့် ဂေဟာများတွင်

နေထိုင်ဆောင်ရွက်သူများအားလုံး၏ ကျန်းမာရေးကို စောင့်ကြပ်ကြည့်ရှုခြင်း။
- တစ်ဦးဦးတွင် တုပ်ကွေးရောဂါဖြစ်ပွားသည်ဟု သံသယရှိပါက ကျန်းမာရေးဌာနနှင့် အမြန်ဆုံး ဆက်သွယ်ဆောင်ရွက်ခြင်း။

**ကမ္ဘာ့လူတုပ်ကွေးရောဂါဖြစ်နေသူ လိုက်နာရမည့်အချက်များ**
- လူနာအနေဖြင့် ပါးစပ်နှာခေါင်းစည်း တပ်ဆင်ထားရမည်။
- မိမိအိမ်တွင် နေထိုင်ရမည်။
- ရုံး၊ ကျောင်း၊ လုပ်ငန်းခွင်များနှင့် ခရီးသွားလာခြင်းကို ရှောင်ကြဉ်ရမည်။
- နှာချေ၊ ချောင်းဆိုးလျှင် တစ်သျှူး(သို့မဟုတ်)လက်ကိုင်ပုဝါ အသုံးပြုရမည်၊ လက်ကို ဆပ်ပြာဖြင့် စနစ်တကျ ဆေးရမည်။
- အာဟာရဖြစ်သော အစားအစာများ စားရန်နှင့် အရည်များများ သောက်ရမည်။
- လေကောင်းလေသန့် ရရှိအောင် ဆောင်ရွက်နေထိုင်ရမည်။
- ကျန်းမာရေးဌာနနှင့် ဆက်သွယ်ဆောင်ရွက်ရမည်။

**မိမိ မိသားစုအတွင်း တုပ်ကွေးဖြစ်ပွားသူရှိပါက အိမ်တွင်ပြုစုရမည့်အချက်များ**
- လူနာအတွက် သီးသန့်နေထိုင်ရန် နေရာရှိပါက လေဝင်လေထွက်ကောင်းသောနေရာတွင် ထားရမည်။
- ဖျားနာသူအား အနီးကပ်စောင့်ရှောက်သူသည် (ဖျားနာသူနှင့် ခြောက်ပေအတွင်း) ပါးစပ်နှာခေါင်းစည်းနှင့် လက်အိတ်များ ဝတ်ဆင်ရမည်၊ ဖြစ်နိုင်ပါက ပလတ်စတစ် ရင်ကာခါးစည်း(Apron)ကိုလည်း အသုံးပြုနိုင်ပါသည်။
- လူနာအသုံးအဆောင်ပစ္စည်းများ အသုံးပြုပြီးသော ပါးစပ်နှာခေါင်းစည်းနှင့် လက်အိတ်များ စသည်တို့ကို သုည ဒသမ၅ ရာခိုင်နှုန်း available chlorine ရရှိစေရန် Bleaching powder ဟင်းစားဇွန်း နှစ်ဇွန်းကို ရေတစ်လီတာဖြင့် ဖျော်စပ်၍ မိနစ် ၃၀ စိမ်ထားရမည်၊ မရှိလျှင် ရေနွေးဖြင့် ပြုတ်လျှော်ရမည်။
- လူနာပြုစုပြီးတိုင်း လက်ကို ဆပ်ပြာဖြင့် သေချာစွာ ဆေးကြောရမည်၊ ဖြစ်နိုင်လျှင် အရက်ပြန် (Alcohol rub) အသုံးပြုနိုင်ပါသည်။
- လူနာနှင့် အနီးကပ်ပြုစုသူများ၏ ကျန်းမာရေးအခြေအနေကို ကျန်းမာရေးဌာနသို့သတင်းပို့ခြင်း၊ဆက်သွယ်ဆောင်ရွက်ခြင်းတို့ကို လုပ်ဆောင်ရမည်။

## အီဘိုလာဗိုင်းရပ်စ်ရောဂါ

- အီဘိုလာဗိုင်းရပ်စ်ရောဂါသည် ကူးစက်မြန်ရောဂါတစ်မျိုးဖြစ်ပြီး ကုသရန် ခက်ခဲသည့်အပြင် ရောဂါပြန့်ပွားမှုအား ထိန်းချုပ်ရန် အလွန်ခက်ခဲသော ရောဂါ ဖြစ်ပါသည်။
- အာဖရိကအနောက်ပိုင်းဒေသရှိ Guinea, Liberia, Nigeria & Sierra Leone နိုင်ငံတို့တွင် ရောဂါကူးစက်ဖြစ်ပွားနေပြီး ၂၀၁၄ ခုနှစ် မတ်လမှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့အထိ အီဘိုလာဗိုင်းရပ်စ်ရောဂါ ဖြစ်ပွားသူ ၁၆၀၃ ဦးနှင့် သေဆုံးသူ ၈၈၇ ဦးတို့ ရှိခဲ့ပါသည်။

**အီဘိုလာဗိုင်းရပ်စ်ရောဂါကူးစက်နိုင်သော နည်းလမ်းများ**

- အီဘိုလာဗိုင်းရပ်စ်ရောဂါသည် ရောဂါပိုးရှိသောသူ (သို့မဟုတ်) တိရစ္ဆာန်၏ တံတွေး၊ သွေး၊ ခန္ဓာကိုယ်မှ ထွက်သောအရည်တို့နှင့် တိုက်ရိုက်ထိတွေ့ ကိုင်တွယ်ခြင်း။
- အဆိုပါသွေးနှင့် ခန္ဓာကိုယ်မှ အရည်များထိတွေ့ထားသော အရာဝတ္ထုများ နှင့် ထိတွေ့ကိုင်တွယ်ခြင်းတို့မှ ကူးစက်နိုင်ပါသည်။
- ဆားစ်၊ လူတုပ်ကွေးကပ်ရောဂါ၊ H7N9 ကြက်ငှက်တုပ်ကွေးရောဂါ၊ မားစ် ပြင်းထန် အဆုတ်ရောင်ရောဂါ (MERS Cov) တို့ကဲ့သို့ လေထဲမှတစ်ဆင့် ကူးစက်နိုင်သော ရောဂါမဟုတ်ပါ။
- အီဘိုလာရောဂါသည် လေ၊ ရေ၊ အစားအစာတို့မှတစ်ဆင့် မကူးစက်နိုင်ပါ။
- ယခုအချိန်ထိ အီဘိုလာဗိုင်းရပ်စ်ရောဂါကို ကာကွယ်ကုသရန် ဆေးမရှိ သေးပါ။ ရောဂါမဖြစ်ပွားစေရေး ကာကွယ်ရန် အရေးကြီးပါသည်။
- ရောဂါပိုးရှိသော လူနာနှင့် တိရစ္ဆာန်တို့၏ တံတွေး၊ သွေးစသော ခန္ဓာကိုယ် အရည်များအား ကိုင်တွယ်ထိတွေ့သူများတွင် အဓိကရောဂါ ကူးစက်နိုင်ခြေ ရှိသဖြင့် ကာကွယ်သည့်နည်းလမ်းများကို တိကျစွာ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

**အီဘိုလာဗိုင်းရပ်စ်ရောဂါ သံသယလက္ခဏာများ**

- အီဘိုလာဗိုင်းရပ်စ်ရောဂါ ကူးစက်ဖြစ်ပွားနေသောနိုင်ငံများ အထူးသဖြင့် (အနောက်အာဖရိကနိုင်ငံများ)သို့သွားရောက်ခဲ့သူများ (သို့မဟုတ်) နိုင်ငံတကာ

ရီးသွားသူများ ကူးစက်မြန်အီဘိုလာရောဂါလူနာအား တိုက်ရိုက်ပြုစု ကုသ ထိတွေ့ကိုင်တွယ်ခဲ့သူများ၊ ရောဂါရှိသော တောရိုင်းတိရစ္ဆာန်များအား ထိတွေ့ ကိုင်တွယ်သူများတွင်–

- ဖျားခြင်း၊ အားအင်ချည့်နဲ့ခြင်း၊ ကြွက်သားများ နာကျင်ကိုက်ခဲခြင်း၊ ခေါင်းကိုက်ခြင်း၊ လည်ချောင်းနာခြင်း၊ အန်ခြင်း၊ အရည်ဝမ်းသွားခြင်း။
- အီဘိုလာဗိုင်းရပ်စ်ပိုးသည် အသည်းနှင့် ကျောက်ကပ်များ ပျက်စီးနိုင်သဖြင့် ခန္ဓာကိုယ်အတွင်းနှင့် အပြင်သွေးယိုထွက်မှုရှိခြင်းကြောင့် အသက်အန္တရာယ် ဖြစ်နိုင်ပါသည်။

**အီဘိုလာဗိုင်းရပ်စ်ရောဂါ ကူးစက်မှုမရှိစေရေး ကာကွယ်ရန်နည်းလမ်းများ**

၁။ တစ်ကိုယ်ရေသန့်ရှင်းရေးကို အထူးဂရုပြုပါ။

၂။ လက်ကို ရေနှင့်ဆပ်ပြာဖြင့် မကြာခဏဆေးကြောပါ။

၃။ ရောဂါပိုးရှိသူ၏ သွေးနှင့် ၎င်းခန္ဓာကိုယ်မှထွက်သော အရည်များအား ထိတွေ့ကိုယ်တွယ်ခြင်းမပြုရ။

၄။ ရောဂါပိုးရှိသော လူ၊ တိရစ္ဆာန်တို့၏ သွေးနှင့် ၎င်းခန္ဓာကိုယ်မှ ထွက်သော အရည်များရှိနိုင်သည့် (အရာဝတ္ထုပစ္စည်း၊ ခုံများ၊ စားပွဲများ၊ အိပ်ရာ၊ လှေကားလက်ရမ်း၊ နံရံစသည်တို့အား) ထိတွေ့ကိုင်တွယ်ခြင်းမပြုရ။

၅။ အထူးသဖြင့် အီဘိုလာဗိုင်းရပ်စ်ရောဂါ ကူးစက်ဖြစ်ပွားသောနိုင်ငံများသို့ သွားရောက်ခဲ့သူများနှင့် နိုင်ငံတကာ ခရီးသွားသူများတွင် အောက်ဖော်ပြပါ သံသယလက္ခဏာများ ဖြစ်ပေါ်လာပါက ကျန်းမာရေးဌာနသို့ ချက်ချင်း သတင်းပို့ဆေးကုသမှုခံယူပါ။ ဖျားခြင်း၊ ခေါင်းကိုက်ခြင်း၊ ကိုယ်လက်ကိုက်ခဲခြင်း၊ နုံးချည့်ခြင်း၊ လည်ချောင်းနာခြင်း၊ အရည်ဝမ်းသွားခြင်း၊ အန်ခြင်း၊ ခန္ဓာကိုယ်အတွင်းနှင့်အပြင် သွေးယိုထွက်မှုရှိခြင်း။

၆။ အထက်ပါ သံသယလက္ခဏာဖြစ်ပွားသူများ တွေ့ရှိပါက နီးစပ်ရာကျန်းမာရေးဌာနသို့ ချက်ချင်းသတင်းပို့ပါ။

၇။ နိုင်ငံခြားသို့ ခရီးသွားရောက်ရန် အစီအစဉ်ရှိပါက ရောဂါဖြစ်ပွားကူးစက်နေသည့် နိုင်ငံများသို့ သွားရောက်ခြင်းကို ရှောင်ကြဉ်ပါ။

ကျန်းမာရေးဝန်ကြီးဌာနမှ အီဘိုလာရောဂါ ကြိုတင်ကာကွယ် ကုသထိန်းချုပ်ရေးလုပ်ငန်းများကို စနစ်တကျဆောင်ရွက်လျက်ရှိသည့်အတွက် ကျန်းမာရေးဝန်ကြီးဌာန၏ သတိပေးနှိုးဆော်ချက်များကို တိကျစွာလိုက်နာဆောင်ရွက်ပါ။

## ဇီကာဗိုင်းရပ်စ်ရောဂါ

**ရောဂါလက္ခဏာများ**

- လတ်တလော ပြင်းထန်စွာဖျားခြင်း
- ပြင်းထန်စွာခေါင်းကိုက်ခြင်း၊ အန်ခြင်း
- ဇက်တောင့်ခြင်း
- ကြွက်သားများ နာကျင်ခြင်း
- အရေပြားတွင် သွေးခြေဥများထွက်ခြင်း
- အန်ခြင်း၊ မှိန်းခြင်း၊ သတိလစ်ခြင်း၊ တက်ခြင်း၊ သွေးလန့်ခြင်း

**ကူးစက်ပျံ့နှံ့ပုံ**

- လူနာချောင်းဆိုးခြင်း၊ နှာချေခြင်းတို့မှ တိုက်ရိုက်ကူးစက်ပါသည်။
- ရောဂါဖြစ်သူ၏ ချွဲသလိပ်၊ ခန္ဓာကိုယ်အရည်နှင့် အသုံးအဆောင်ပစ္စည်းများကို ထိတွေ့ခြင်းတို့မှ တစ်ဆင့်လည်း ကူးစက်နိုင်ပါသည်။

**ကြိုတင်ကာကွယ်ခြင်း**

- အထက်ပါရောဂါလက္ခဏာများရှိလျှင် အသက်ဆုံးရှုံးမှုနှင့် ရောဂါပြန့်ပွားမှုတို့မှ ကာကွယ်ရန် နီးစပ်ရာကျန်းမာရေးဌာနတွင် ဆောလျင်စွာ ဆေးကုသမှုခံယူပါ။ ချက်ချင်းသတင်းပို့ပါ။
- တစ်ကိုယ်ရေ သန့်ရှင်းမှုကို ဂရုပြုဆောင်ရွက်ပါ။
- နှာချေ၊ ချောင်းဆိုးလျှင် နှာခေါင်းနှင့်ပါးစပ်ကို လက်ကိုင်ပဝါဖြင့် ဖုံးအုပ်ပါ။
- လက်ကိုင်ပုဝါအသင့်မရှိပါက နှာခေါင်းနှင့်ပါးစပ်ကို ဖုံးအုပ်၍ နှာစေးချောင်းဆိုးပါ။
- ရောဂါဖြစ်ပွားသူများ၊ သံသယရှိသူ လူနာများနှင့် တွေ့ဆုံရန် လိုအပ်ပါက ရောဂါမကူးစက်စေရန် နှာခေါင်းနှင့်ပါးစပ်ကို ဖုံးအုပ်ထားသော မျက်နှာဖုံး အကာအကွယ်နှင့် အခြားအကာအကွယ်ပစ္စည်းများကို အသုံးပြုပါ။
- ပွဲလမ်းသဘင်၊ လူစည်ကားသော နေရာနှင့် ဖုန်ထူထပ်သော နေရာများကို တတ်နိုင်သမျှ ရှောင်ကြဉ်ပါ။
- မိမိတွင် ရောဂါရှိသည်ဟု သံသယရှိပါက ကျန်းမာရေးဌာနသို့ ချက်ချင်း သတင်းပို့၍ ဆေးကုသမှုခံယူပါ။

## ကိုရိုနာဗိုင်းရပ်စ်ရောဂါ (COVID – 19)

ကိုရိုနာဗိုင်းရပ်စ် (Coronavirus)ဆိုသည်မှာ တိရစ္ဆာန်များတွင်သာမက လူများတွင်ပါတွေ့နိုင်သည့် ကြီးမားသည့် ဗိုင်းရပ်စ်အုပ်စုတစ်မျိုးဖြစ်သည်။ လူများကို ကူးစက်သည့်အခါ သာမန်တုပ်ကွေးရောဂါလက္ခဏာမှ ပြင်းထန်သည့် အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများအထိ ဖြစ်ပွားတတ်သည်။ (၂၀၀၂) ခုနှစ်တွင် တရုတ်ပြည်သူ့သမ္မတနိုင်ငံ၌ ဖြစ်ပွားခဲ့သော SARS ရောဂါ၊ (၂၀၁၂) ခုနှစ်က အရှေ့အလယ်ပိုင်းဒေသ၌ ဖြစ်ပွားခဲ့သော MERS ရောဂါများကဲ့သို့ ပြင်းထန်အဆုတ်ရောင်ရောဂါများသည် ကိုရိုနာဗိုင်းရပ်ရောဂါပိုးများကြောင့် ဖြစ်ပွားရခြင်းဖြစ်သည်။ ၂၀၁၉ ခုနှစ်တွင် အသစ်တွေ့ရှိရသည့် ကိုရိုနာဗိုင်းရပ်စ်သည် (COVID–19) လတ်တလော အသက်ရှူလမ်းကြောင်းဆိုင်ရာရောဂါကို ဖြစ်ပွားစေခဲ့ပါသည်။ ကိုရိုနာဗိုင်းရပ်စ်ရောဂါသည် ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလက တရုတ်ပြည်သူ့သမ္မတနိုင်ငံ၊ ဝူဟန်မြို့တွင် စတင်တွေ့ရှိခဲ့သည့် Coronavirus မျိုးစိတ်အသစ်တစ်ခုကြောင့် ဖြစ်ပွားခဲ့သည့် ကူးစက်ရောဂါဖြစ်ပါသည်။

**ရောဂါလက္ခဏာများ**

- လွန်ခဲ့သည့် (၁၄)ရက်အတွင်း ရောဂါကူးစက်ပျံ့ပွားနေသည့်နိုင်ငံများသို့ ခရီးသွားခဲ့ခြင်း သို့မဟုတ် ကိုရိုနာဗိုင်းရပ်စ်ရောဂါ ဖြစ်ပွားသည်ဟု အတည်ပြုခံရသူနှင့် အတူနေထိုင်ခဲ့ခြင်း။
- ဖျားခြင်း အပူချိန် ၃၈ ဒီဂရီစင်တီဂရိတ် (၁၀၀.၄ ဒီဂရီဖာရင်ဟိုက်) နှင့် အထက်ရှိခြင်း၊ အဖျားကြီးခြင်း။
- ချောင်းခြောက်ဆိုးခြင်း၊ အသက်ရှူရခက်ခဲခြင်း၊ အားအင်ကုန်ခန်းခြင်း၊ ပင်ပန်းနွမ်းနယ်ခြင်း၊ မောခြင်း၊ လည်ချောင်းနာခြင်း၊ ခေါင်းကိုက်ခြင်း။
- အသက်ကြီးသူများအနေဖြင့် နာတာရှည်ရောဂါ (သွေးတိုး၊ ဆီးချို၊ နှလုံးရောဂါ) ရှိသူများတွင် ရောဂါပိုမိုပြင်းထန်တတ်ခြင်း။

**ကူးစက်ပျံ့နှံ့ပုံ**

- အသက်ရှူလမ်းကြောင်းမှတစ်ဆင့် တိုက်ရိုက်ဝင်ရောက် ကူးစက်ပျံ့နှံ့စေခြင်း။
- အရာဝတ္ထုများ၌ ထိကပ်နေသောရောဂါပိုးများအား လက်နှင့်ကိုင်တွယ်ထိတွေ့ရာမှတစ်ဆင့် ကူးစက်ခြင်း။

**ကြိုတင်ကာကွယ်ခြင်း**

- အထက်ပါရောဂါလက္ခဏာခံစားနေရသူများနှင့် အနီးကပ်ထိတွေ့ခြင်းမှ ရှောင်ကြဉ်ပါ။
- လက်ကို စင်ကြယ်အောင် မကြာခဏ စနစ်တကျ ဆေးကြောပါ။
- နှာချေ၊ ချောင်းဆိုးသည့်အခါ နှာခေါင်းနှင့်ပါးစပ်ကို လုံခြုံအောင် ဖုံးအုပ်ပါ။
- တစ်ရှူးအသုံးပြုပါက အမှိုက်ပုံးထဲသို့ စနစ်တကျစွန့်ပစ်ပါ။ လက်ကို စနစ်တကျ ပြန်လည်ဆေးကြောပါ။
- တစ်ကိုယ်ရေသန့်ရှင်းမှု ဂရုပြုဆောင်ရွက်ပါ။ အာဟာရပြည့်ဝစွာ စားသုံးပါ။ ကောင်းမွန်စွာ အိပ်စက်အနားယူပါ။
- လူထူထပ်သည့်နေရာများသို့ သွားလာခြင်းမှ တတ်နိုင်သမျှ ရှောင်ကြဉ်ပါ။
- ဟိုတယ်နှင့် အများပြည်သူသုံးနေရာများရှိ ဓာတ်လှေကားခလုတ်များ၊ စက်လှေကားလက်ရမ်းများနှင့် တံခါးလက်ကိုင်များကို မလိုအပ်ဘဲ ကိုင်တွယ်ခြင်းမပြုပါနှင့်။ ကိုင်တွယ်ပြီးပါက လက်ကိုစနစ်တကျပြန် ဆေးပါ။
- ဓာတ်လှေကားခလုတ်များ၊ စက်လှေကားလက်ရမ်းများနှင့် တံခါးလက်ကိုင်များကို Alcohol 70 ရာခိုင်နှုန်းပါဝင်သော ပိုးသန့်စင်ဆေးရည်ဖြင့် မကြာခဏ ပွတ်တိုက်သန့်စင်ပါ။
- မိမိရဲ့ မျက်လုံး၊ နှာခေါင်းနဲ့ပါးစပ်များအား မကြာခဏ ကိုင်တွယ်ခြင်း မပြုပါနှင့် (လက်မှာရောဂါပိုးများ ကပ်ငြိနေပါက မျက်လုံး၊ နှာခေါင်းနဲ့ ပါးစပ်များမှတစ်ဆင့် ရောဂါပိုးများ ဝင်ရောက်နိုင်ခြင်း။)

**တစ်ကမ္ဘာလုံးတွင် ကိုဗစ်-၁၉ ကပ်ရောဂါ ကူးစက်မှုအခြေအနေ (၂-၉-၂၀၂၀ ရက်နေ့အထိ)**

| | | |
|---|---|---|
| အတည်ပြုလူနာ | - | ၂၅,၆၀၂,၆၆၅ ဦး |
| သေဆုံးသူ | - | ၈၅၂,၇၅၈ ဦး |

**တိုင်းဒေသကြီး/ပြည်နယ်နှင့် မြို့နယ်များ၏ COVID-19 ရောဂါတွေ့ရှိခဲ့မှု အခြေအနေ (၁-၉-၂၀၂၀) နံနက် ၈ နာရီအထိ**

| စဉ် | တိုင်းဒေသကြီး/ပြည်နယ် | မြို့နယ် | | ပိုးတွေ့လူနာဦးရေ | သေဆုံးသူဦးရေ |
|---|---|---|---|---|---|
| ၁ | ရန်ကုန်တိုင်းဒေသကြီး | ၁ | အင်းစိန် | ၅၇ | |
| | | ၂ | လှိုင် | ၄၇ | |
| | | ၃ | ဗိုလ်တထောင် | ၂၄ | ၁ |
| | | ၄ | မရမ်းကုန်း | ၂၃ | ၁ |
| | | ၅ | ကမာရွတ် | ၃၄ | |
| | | ၆ | ဒဂုံမြို့သစ် (တောင်ပိုင်း) | ၁၇ | |
| | | ၇ | တောင်ဥက္ကလာပ | ၁၅ | |
| | | ၈ | ဒဂုံမြို့သစ် (မြောက်ပိုင်း) | ၁၄ | |
| | | ၉ | တာမွေ | ၁၃ | |
| | | ၁၀ | ဗဟန်း | ၁၀ | |
| | | ၁၁ | မင်္ဂလာဒုံ | ၁၆ | |
| | | ၁၂ | ပန်းဘဲတန်း | ၇ | ၁ |
| | | ၁၃ | လှည်းကူး | ၆ | |
| | | ၁၄ | လှိုင်သာယာ | ၇ | |
| | | ၁၅ | ကျောက်တံတား | ၆ | |
| | | ၁၆ | ရွှေပြည်သာ | ၄ | |
| | | ၁၇ | ဒဂုံမြို့သစ် (အရှေ့ပိုင်း) | ၂ | |
| | | ၁၈ | ဒေါပုံ | ၂ | |
| | | ၁၉ | မင်္ဂလာတောင်ညွန့် | ၃ | ၁ |
| | | ၂၀ | မြောက်ဥက္ကလာပ | ၆ | ၁ |
| | | ၂၁ | စမ်းချောင်း | ၂ | |

| စဉ် | တိုင်းဒေသကြီး/ ပြည်နယ် | မြို့နယ် | | ပိုးတွေ့လူနာ ဦးရေ | သေဆုံးသူ ဦးရေ |
|---|---|---|---|---|---|
| | | ၂၂ | သာကေတ | ၆ | |
| | | ၂၃ | အလုံ | ၂ | |
| | | ၂၄ | သဃ်န်းကျွန်း | ၃၁ | |
| | | ၂၅ | ဒဂုံ | ၄ | |
| | | ၂၆ | မှော်ဘီ | ၁ | |
| | | ၂၇ | ပုဇွန်တောင် | ၄ | |
| | | ၂၈ | ကျောက်တန်း | ၁ | |
| | | ၂၉ | တွံတေး | ၁ | |
| | | ၃၀ | လမ်းမတော် | ၁ | |
| | | ၃၁ | ရန်ကင်း | ၁ | |
| | | ၃၂ | သန်လျင် | ၂ | |
| | | ၃၃ | ဒဂုံဆိပ်ကမ်း | ၂ | |
| | | ၃၄ | ဒလ | ၁ | |
| ၂ | ပဲခူးတိုင်းဒေသကြီး | ၁ | ပေါက်ခေါင်း | ၄ | ၁ |
| | | ၂ | ပြည် | ၃ | |
| | | ၃ | ညောင်လေးပင် | ၁ | |
| | | ၄ | ပဲခူး | ၁ | |
| | | ၅ | ရွှေတောင် | ၁ | |
| | | ၆ | ပန်းတောင် | ၁ | |
| ၃ | စစ်ကိုင်းတိုင်း ဒေသကြီး | ၁ | ကလေး | ၆ | |
| | | ၂ | စစ်ကိုင်း | ၃ | |
| ၄ | ချင်းပြည်နယ် | ၃ | တီးတိန် | ၈ | |
| | | ၄ | တွန်းဇံ | ၇ | |
| | | ၅ | ဟားခါး | ၁ | |
| | | ၆ | ထန်တလန် | ၁ | |
| | | ၇ | မင်းတပ် | ၁ | |

| စဉ် | တိုင်းဒေသကြီး/ပြည်နယ် | မြို့နယ် | | ပိုးတွေ့လူနာ ဦးရေ | သေဆုံးသူ ဦးရေ |
|---|---|---|---|---|---|
| ၅ | မန္တလေးတိုင်း ဒေသကြီး | ၁ | ချမ်းမြသာစည် | ၂ | |
| | | ၂ | အောင်မြေသာစံ | ၁ | |
| | | ၃ | မတ္တရာ | ၁ | |
| | | ၄ | အမရပူရ | ၁ | |
| | | ၅ | မြင်းခြံ | ၁ | |
| ၆ | ရှမ်းပြည်နယ် (အရှေ့ပိုင်း) | ၁ | မိုင်းဖြတ် | ၁ | |
| | | ၂ | တာချီလိတ် | ၂ | |
| | ရှမ်းပြည်နယ် (တောင်ပိုင်း) | ၁ | တောင်ကြီး | ၃ | |
| | | ၂ | ရွာင် | ၁ | |
| | | ၃ | ဆီဆိုင် | ၁ | |
| | ရှမ်းပြည်နယ် (မြောက်ပိုင်း) | ၁ | မူဆယ် | ၂ | |
| | | ၂ | ကျောက်မဲ | ၁ | |
| ၇ | နေပြည်တော် | ၁ | ဇမ္ဗူသီရိ | ၁ | |
| | | ၂ | ဇေယျာသီရိ | ၁ | |
| | | ၃ | ပုဗ္ဗသီရိ | ၁ | |
| ၈ | မကွေးတိုင်း ဒေသကြီး | ၁ | မြို့သစ် | ၁ | |
| | | ၂ | မကွေး | ၂ | |
| | | ၃ | သရက် | ၁ | |
| ၉ | ကရင်ပြည်နယ် | ၁ | ဘားအံ | ၂၆ | |
| | | ၂ | မြဝတီ | ၂ | |
| | | ၃ | ကြာအင်းဆိပ်ကြီး | ၁ | |
| ၁၀ | ရခိုင်ပြည်နယ် | ၁ | မောင်တော | ၂၉ | |
| | | ၂ | သံတွဲ | ၉ | |
| | | ၃ | တောင်ကုတ် | ၆ | |

| စဉ် | တိုင်းဒေသကြီး/ ပြည်နယ် | မြို့နယ် | | ပိုးတွေ့လူနာ ဦးရေ | သေဆုံးသူ ဦးရေ |
|---|---|---|---|---|---|
| | | ၄ | ဘူးသီးတောင် | ၇ | |
| | | ၅ | စစ်တွေ | ၂၀၇ | |
| | | ၆ | ကျောက်တော် | ၉ | |
| | | ၇ | မြောက်ဦး | ၁၈ | |
| | | ၈ | ကျောက်ဖြူ | ၅၈ | |
| | | ၉ | ပေါက်တော | ၂၀ | |
| | | ၁၀ | မင်းပြား | ၅ | |
| | | ၁၁ | ပုဏ္ဏားကျွန်း | ၇ | |
| | | ၁၂ | မြေပုံ | ၂၃ | |
| | | ၁၃ | ရသေ့တောင် | ၁ | |
| | | ၁၄ | ဂွ | ၁ | |
| | | ၁၅ | မာန်အောင် | ၁ | |
| | | ၁၆ | အမ်း | ၂ | |
| ၁၁ | မွန်ပြည်နယ် | ၁ | ကျိုက်မရော | ၁ | |
| | | ၂ | မော်လမြိုင် | ၂ | |
| ၁၂ | ကချင်ပြည်နယ် | ၁ | မိုးညှင်း | ၁ | |
| | | ၂ | မိုးမောက် | ၁ | |
| | | ၃ | ဗန်းမော် | ၂ | |
| ၁၃ | တနင်္သာရီတိုင်း ဒေသကြီး | ၁ | လောင်းလုံ | ၁ | |
| | | ၂ | ကော့သောင်း | ၁ | |
| ၁၄ | ဧရာဝတီတိုင်း ဒေသကြီး | ၁ | ပုသိမ် | ၂ | |
| စုစုပေါင်း | | ၉၄ မြို့နယ် | | ၈၈၁ | ၆ |

## နိုင်ငံများ၊ နယ်မြေများ၊ ဒေသများအလိုက် ကိုဗစ်-၁၉ ကပ်ရောဂါဖြစ်ပွားမှု နှင့် သေဆုံးမှု(၃၀-၈-၂၀၂၀)

| စဉ် | နိုင်ငံ၊ နယ်မြေ၊ ဒေသများ | ရောဂါဖြစ်ပွားသူဦးရေ စုစုပေါင်း | သေဆုံးမှု စုစုပေါင်း |
|---|---|---|---|
| အာဖရိကဒေသ | | | |
| ၁ | တောင်အာဖရိက | ၆၂၂၅၅၁ | ၁၃၉၈၁ |
| ၂ | အီသီယိုးပီးယား | ၄၉၆၅၄ | ၇၇၀ |
| ၃ | အယ်လ်ဂျီးရီးယား | ၄၃၇၈၂ | ၁၄၉၁ |
| ၄ | နိုင်ဂျီးရီးယား | ၅၂၇၂၇ | ၁၀၁၁ |
| ၅ | ကင်ညာ | ၃၃၇၉၄ | ၅၇၂ |
| ၆ | နမ်မီးဘီးယား | ၇၁၁၆ | ၆၉ |
| ၇ | ဇမ်ဘီယာ | ၁၁၉၀၂ | ၂၈၄ |
| ၈ | ရဝမ်ဒါ | ၃၈၄၃ | ၁၆ |
| ၉ | ဂါနာ | ၄၃၉၄၉ | ၂၇၀ |
| ၁၀ | ဆီနီဂေါ | ၁၃၄၅၆ | ၂၈၂ |
| ၁၁ | ယူဂန်ဒါ | ၂၇၅၆ | ၂၈ |
| ၁၂ | ကို့ဒီဗိုရီ | ၁၇၈၉၃ | ၁၁၅ |
| ၁၃ | မဒါဂတ်စကာ | ၁၄၇၉၁ | ၁၉၀ |
| ၁၄ | အိုင်ဗရီကိုးစ် | ၁၂၀၃၂ | ၂၅၁ |
| ၁၅ | ဇင်ဘာဘွေ | ၆၄၀၆ | ၁၉၆ |
| ၁၆ | မိုဇမ်ဘစ် | ၃၇၆၀ | ၂၂ |
| ၁၇ | အင်ဂိုလာ | ၂၅၅၁ | ၁၀၇ |
| ၁၈ | ကင်မရွန်း | ၁၉၁၄၂ | ၄၁၁ |
| ၁၉ | ဂန်ဘီယာ | ၂၇၉၇ | ၉၆ |

| စဉ် | နိုင်ငံ၊ နယ်မြေ၊ ဒေသများ | ရောဂါဖြစ်ပွားသူဦးရေ စုစုပေါင်း | သေဆုံးမှု စုစုပေါင်း |
|---|---|---|---|
| ၂၀ | ဘော့ဆွာနာ | ၁၆၃၃ | ၆ |
| ၂၁ | ကာဘိုဗာဒီ | ၃၇၇၈ | ၃၉ |
| ၂၂ | အာ့စဝါတီနီ | ၄၅၁၀ | ၉၁ |
| ၂၃ | ဂူနီယာ | ၉၂၅၁ | ၅၉ |
| ၂၄ | ကွန်ဂိုဒီမိုကရက်တစ် သမ္မတနိုင်ငံ | ၉၉၉၃ | ၂၅၅ |
| ၂၅ | တိုဂို | ၁၃၉၀ | ၂၇ |
| ၂၆ | မာလာဝီ | ၅၅၂၈ | ၁၇၄ |
| ၂၇ | ကွန်ဂို | ၃၉၇၉ | ၇၈ |
| ၃၀ | မော်ရီတေးနီးယား | ၇၀၁၂ | ၁၅၈ |
| ၃၁ | ဂါဘွန် | ၈၅၀၅ | ၅၃ |
| ၃၂ | ဘာကီနာဖာဆို | ၁၃၅၇ | ၅၅ |
| ၃၃ | မာလီ | ၂၇၅၇ | ၁၂၆ |
| ၃၄ | လီဆိုသို | ၁၀၆၆ | ၃၁ |
| ၃၅ | ဆီယာရာလီယွန်း | ၂၀၁၉ | ၇၀ |
| ၃၆ | ဘီနင် | ၂၁၄၅ | ၄၀ |
| ၃၇ | ချဒ် | ၁၀၀၈ | ၇၇ |
| ၃၈ | ဗဟိုအာဖရိက သမ္မတနိုင်ငံ | ၄၇၀၀ | ၆၁ |
| ၃၉ | တောင်ဆူဒန် | ၂၅၁၉ | ၄၇ |
| ၄၀ | လိုက်ဘေးရီးယား | ၁၃၀၃ | ၈၂ |
| ၄၁ | ဘူရွန်ဒီ | ၄၄၅ | ၁ |
| ၄၂ | အီကွေတိုရီယယ်ဂူနီယာ | ၄၉၄၁ | ၈၃ |
| ၄၃ | အီရီထရီယာ | ၃၁၈ | ၀ |
| ၄၄ | ကိုမိုရိုစ် | ၄၂၃ | ၇ |
| ၄၅ | ဆေးရှဲလ် | ၁၃၁ | ၀ |
| ၄၆ | နီဂါ | ၁၁၇၅ | ၆၉ |

| စဉ် | နိုင်ငံ၊ နယ်မြေ၊ ဒေသများ | ရောဂါဖြစ်ပွားသူဦးရေ စုစုပေါင်း | သေဆုံးမှု စုစုပေါင်း |
|---|---|---|---|
| ၄၇ | ဆော်တီမောနှင့် ပရင်စီပယ် | ၈၉၅ | ၁၅ |
| ၄၈ | ဂူနီယာဘစ်ဆော | ၂၁၄၉ | ၃၃ |
| ၄၉ | မောရစ်ရှ | ၃၄၆ | ၁၀ |
| ၅၀ | တန်ဇန်းနီးယား | ၅၀၉ | ၂၁ |
| ၅၁ | ရီယူနီယံ | ၁၅၅၇ | ၃ |
| ၅၂ | မာယိုတေး | ၃၃၀၁ | ၄၀ |
| အမေရိကဒေသ | | | |
| ၅၃ | အမေရိကန်ပြည်ထောင်စု | ၅၈၅၅၅၂၁ | ၁၈၀၆၈၉ |
| ၅၄ | ဘရာဇီးလ် | ၃၈၀၄၈၀၃ | ၁၁၉၅၀၄ |
| ၅၅ | ကိုလံဘီယာ | ၅၉၀၅၂၀ | ၁၈၇၆၇ |
| ၅၆ | အာဂျင်တီးနား | ၃၉၂၀၀၉ | ၈၃၀၅ |
| ၅၇ | ပီရူး | ၆၂၉၉၆၁ | ၂၈၄၇၁ |
| ၅၈ | မက္ကဆီကို | ၅၈၅၇၃၈ | ၆၃၁၄၆ |
| ၅၉ | ချီလီ | ၄၀၈၀၀၉ | ၁၁၁၈၁ |
| ၆၀ | ဘိုလီးဗီးယား | ၁၁၄၄၀၉ | ၄၈၄၆ |
| ၆၁ | ကိုစတာရီကာ | ၃၈၄၈၅ | ၄၀၇ |
| ၆၂ | ပနားမား | ၉၀၆၂၄ | ၁၉၆၆ |
| ၆၃ | ဂွာတီမာလာ | ၇၃၆၇၉ | ၂၇၂၈ |
| ၆၄ | အီကွေဒေါ | ၁၁၂၉၀၆ | ၆၅၃၇ |
| ၆၅ | ဗင်နီဇွဲလား | ၄၃၈၇၉ | ၃၅၈ |
| ၆၆ | ဟွန်ဒူးရပ်စ် | ၅၈၈၁၀ | ၁၈၂၇ |
| ၆၇ | ပါရာဂွေး | ၁၅၈၇၄ | ၂၈၀ |
| ၆၈ | ဒိုမီနီကန် | ၉၃၇၂၆ | ၁၆၇၃ |
| ၆၉ | ကနေဒါ | ၁၂၇၃၅၈ | ၉၁၀၈ |
| ၆၉ | အယ်လ်ဆာဗားဒေါ | ၂၅၃၃၇ | ၇၀၈ |
| ၇၀ | ထရီနီဒတ်(ထ်)နှင့် တိုဘားဂိုး | ၁၅၇၇ | ၁၉ |

| စဉ် | နိုင်ငံ၊ နယ်မြေ၊ ဒေသများ | ရောဂါဖြစ်ပွားသူဦးရေ စုစုပေါင်း | သေဆုံးမှု စုစုပေါင်း |
|---|---|---|---|
| ၇၁ | ဂျမေကာ | ၂၀၁၁ | ၁၉ |
| ၇၂ | ဆူရီနမ် | ၃၈၄၈ | ၆၆ |
| ၇၃ | ဘဟားမက်စ် | ၂၀၅၇ | ၄၀ |
| ၇၄ | ကျူးဘား | ၃၉၂၅ | ၉၄ |
| ၇၅ | ဂူရာနာ | ၁၁၈၀ | ၃၅ |
| ၇၆ | ဘလီဇ် | ၈၇၀ | ၁၂ |
| ၇၇ | ဟေတီ | ၈၁၇၄ | ၂၀၁ |
| ၇၈ | နီကာရာဂွာ | ၃၆၅၉ | ၁၃၇ |
| ၇၉ | ဥရုဂွေး | ၁၅၅၆ | ၄၃ |
| ၈၀ | ဘာဘေးဒိုးစ် | ၁၆၆ | ၇ |
| ၈၁ | စိန့်ဗင်းဆင့်နှင့်ဂရိနာဒိုင်း | ၆၀ | ၀ |
| ၈၂ | ဒိုမီနီကာ | ၂၀ | ၀ |
| ၈၃ | အင်တီဂွာနှင့် ဘာဘူဒါ | ၉၄ | ၃ |
| ၈၄ | ဂရီနာဒါ | ၂၄ | ၀ |
| ၈၅ | စိန့်ကစ်(စ်)နှင့်နီဗီစ် | ၁၇ | ၀ |
| ၈၆ | စိန့်လူစီယာ | ၂၆ | ၀ |
| ၈၇ | ပေါ်တိုရီကို | ၃၂၅၅၀ | ၄၂၈ |
| ၈၈ | အာရူးဗား | ၁၈၄၈ | ၈ |
| ၈၉ | ပြင်သစ်ဂိုင်ယာနာ | ၉၀၇၆ | ၅၈ |
| ၉၀ | အမေရိကန်ဗာဂျင်း ကျွန်းစုများ | ၁၁၁၈ | ၁၄ |
| ၉၁ | ဂွာဒယ်လ်လု(ပ်) | ၉၃၅ | ၁၅ |
| ၉၂ | တာ့(ခ်)နှင့်ကိုင်ကို(စ်) ကျွန်းစုများ | ၄၉၀ | ၃ |
| ၉၃ | မာတီနီ(ခ်) | ၅၉၆ | ၁၆ |
| ၉၄ | စင့်မာတန် | ၄၄၄ | ၁၇ |
| ၉၅ | စိန့်မာတင် | ၂၁၃ | ၅ |

| စဉ် | နိုင်ငံ၊ နယ်မြေ၊ ဒေသများ | ရောဂါဖြစ်ပွားသူဦးရေ စုစုပေါင်း | သေဆုံးမှု စုစုပေါင်း |
|---|---|---|---|
| ၉၆ | ကျူရားကိုး | ၅၅ | ၁ |
| ၉၇ | ဗြိတိသျှဗာဂျင်းကျွန်းစု | ၃၅ | ၁ |
| ၉၈ | ဘိုနိုင်ရီ၊ စင့်ယူစတာတီးယက်(စ်)နှင့် ဆာဘာ | ၁၅ | ၀ |
| ၉၉ | စိန့်ဘာသယ်လ်မီ | ၁၈ | ၀ |
| ၁၀၀ | ဘာမြူဒါ | ၁၆၈ | ၉ |
| ၁၀၁ | အန်ဂွီလီရာ | ၃ | ၀ |
| ၁၀၂ | ကေမန်ကျွန်းစု | ၂၀၅ | ၁ |
| ၁၀၃ | ဖော့(ခ်)လန်ကျွန်းစု | ၁၃ | ၀ |
| ၁၀၄ | မွန်(တ်)စီးရတ်(တ်) | ၁၃ | ၁ |
| ၁၀၅ | စိန့်ပီအဲရ်နှင့် မီကွီလွန် | ၅ | ၀ |
| **အရှေ့မြေထဲပင်လယ်ဒေသ** | | | |
| ၁၀၆ | အီရတ် | ၂၂၇၄၄၆ | ၆၈၉၁ |
| ၁၀၇ | အီရန် | ၃၇၁၈၁၆ | ၂၁၃၅၉ |
| ၁၀၈ | မော်ရိုကို | ၆၀၀၅၆ | ၁၀၇၈ |
| ၁၀၉ | ဆော်ဒီအာရေဗျ | ၃၁၃၉၁၁ | ၃၈၄၀ |
| ၁၁၀ | ကူဝိတ် | ၈၄၂၂၄ | ၅၂၈ |
| ၁၁၁ | လက်ဘနွန် | ၁၆၂၇၅ | ၁၅၅ |
| ၁၁၂ | ပါကစ္စတန် | ၂၉၅၆၃၆ | ၆၂၈၈ |
| ၁၁၃ | အာရပ်စော်ဘွားများ ပြည်ထောင်စု | ၆၉၃၂၈ | ၃၇၉ |
| ၁၁၄ | လစ်ဗျား | ၁၂၉၅၈ | ၂၃၁ |
| ၁၁၅ | ဘာရိန်း | ၅၁၃၉၁ | ၁၈၉ |
| ၁၁၆ | ကာတာ | ၁၁၈၄၀၇ | ၁၉၆ |
| ၁၁၇ | အီဂျစ် | ၉၈၄၉၇ | ၅၃၇၆ |
| ၁၁၈ | အိုမန် | ၈၅၀၀၅ | ၆၅၀ |
| ၁၁၉ | တူနီးရှား | ၃၅၇၂ | ၇၅ |

| စဉ် | နိုင်ငံ၊ နယ်မြေ၊ ဒေသများ | ရောဂါဖြစ်ပွားသူဦးရေ စုစုပေါင်း | သေဆုံးမှု စုစုပေါင်း |
|---|---|---|---|
| ၁၂၀ | ဆူဒန် | ၁၃၁၈၉ | ၈၂၃ |
| ၁၂၁ | ဆီးရီးယား အာရပ်ပြည်ထောင်စု | ၂၆၂၈ | ၁၀၆ |
| ၁၂၂ | ဂျော်ဒန် | ၁၈၉၃ | ၁၅ |
| ၁၂၃ | အာဖဂန်နစ္စတန် | ၃၈၁၄၃ | ၁၄၀၂ |
| ၁၂၄ | ဆိုမာလီးယား | ၃၃၁၀ | ၉၇ |
| ၁၂၅ | ယီမင် | ၁၉၅၀ | ၅၆၄ |
| ၁၂၆ | ဂျီဘိုတီ | ၅၃၈၅ | ၆၀ |
| ၁၂၇ | ပါလက်စတိုင်း | ၂၈၅၂၇ | ၁၆၄ |
| ဥရောပဒေသ | | | |
| ၁၂၈ | စပိန် | ၄၃၉၂၈၆ | ၂၉၀၁၁ |
| ၁၂၉ | ရုရှား | ၉၉၀၃၂၆ | ၁၇၀၉၃ |
| ၁၃၀ | ပြင်သစ် | ၂၅၆၈၂၉ | ၃၀၄၆၅ |
| ၁၃၁ | ယူကရိန်း | ၁၁၉၀၇၄ | ၂၅၂၇ |
| ၁၃၂ | အစ္စရေး | ၁၁၀၈၆၃ | ၈၈၅ |
| ၁၃၃ | တူရကီ | ၂၆၇၀၆၄ | ၆၂၈၄ |
| ၁၃၄ | ဂျာမနီ | ၂၄၁၇၇၁ | ၉၂၉၅ |
| ၁၃၅ | အီတလီ | ၂၆၆၈၅၃ | ၃၅၄၇၃ |
| ၁၃၆ | ရိုမေးနီးယား | ၈၅၈၃၃ | ၃၅၃၉ |
| ၁၃၇ | အင်္ဂလန် | ၃၃၂၇၅၆ | ၄၁၄၉၈ |
| ၁၃၈ | ပိုလန် | ၆၆၂၃၉ | ၂၀၃၂ |
| ၁၃၉ | နယ်သာလန် | ၆၉၅၆၃ | ၆၂၁၅ |
| ၁၄၀ | ကာဇက်စတန် | ၁၃၀၆၇၃ | ၁၇၈၁ |
| ၁၄၁ | မောလ်ဒိုဗာ | ၃၆၄၀၄ | ၉၉၀ |
| ၁၄၂ | အူဇဘက်ကစ္စတန် | ၄၁၃၀၃ | ၃၁၁ |
| ၁၄၃ | ဘယ်လ်ဂျီယံ | ၈၄၅၀၅ | ၉၈၉၁ |
| ၁၄၄ | ချက် | ၂၄၀၉၄ | ၄၂၁ |

| စဉ် | နိုင်ငံ၊ နယ်မြေ၊ ဒေသများ | ရောဂါဖြစ်ပွားသူဦးရေ စုစုပေါင်း | သေဆုံးမှု စုစုပေါင်း |
|---|---|---|---|
| ၁၄၅ | ဆွစ်ဇာလန် | ၄၁၆၁၅ | ၁၇၂၄ |
| ၁၄၆ | ပေါ်တူဂီ | ၅၇၄၄၈ | ၁၈၁၈ |
| ၁၄၇ | ခရိုအေးရှား | ၉၈၆၁ | ၁၈၃ |
| ၁၄၈ | သြစတြီးယား | ၂၆၉၃၇ | ၇၃၃ |
| ၁၄၉ | ဘော့စ်နီးယားနှင့်ဟာဇီဂိုဗီးနား | ၁၉၅၄၆ | ၅၈၈ |
| ၁၅၀ | ဂရိ | ၉၉၇၇ | ၂၆၀ |
| ၁၅၁ | ဘီလာရုဇ် | ၇၁၅၂၃ | ၆၇၁ |
| ၁၅၂ | အဇာဘိုင်ဂျန် | ၃၆၁၇၄ | ၅၂၉ |
| ၁၅၃ | ဘူလ်ဂါးရီးယား | ၁၆၁၆၄ | ၆၀၅ |
| ၁၅၄ | အယ်လ်ဘေးနီးယား | ၉၂၇၉ | ၂၇၅ |
| ၁၅၅ | မြောက်မက်ဆီဒိုနီးယား | ၁၄၂၉၃ | ၅၉၆ |
| ၁၅၆ | အာမေးနီးယား | ၄၃၇၅၀ | ၈၇၇ |
| ၁၅၇ | ဆီွဒင် | ၈၃၉၅၈ | ၅၈၂၁ |
| ၁၅၈ | အိုင်ယာလန် | ၂၈၇၂၀ | ၁၇၇၇ |
| ၁၅၉ | ကာဂျစ္စတန် | ၄၃၈၂၀ | ၁၀၅၉ |
| ၁၆၀ | ဆားဘီးယား | ၃၁၂၈၂ | ၇၁၀ |
| ၁၆၁ | ဒိန်းမတ် | ၁၆၇၀၀ | ၆၂၄ |
| ၁၆၂ | ဟန်ဂေရီ | ၅၆၆၉ | ၆၁၄ |
| ၁၆၃ | ဆလိုဗက်ကီးယား | ၃၈၄၂ | ၃၃ |
| ၁၆၄ | မွန်တီနီဂရိုး | ၄၇၇၇ | ၉၆ |
| ၁၆၅ | နော်ဝေး | ၁၀၅၄၃ | ၂၆၄ |
| ၁၆၆ | မောလ်တာ | ၁၈၄၇ | ၁၀ |
| ၁၆၇ | လစ်သူယာနီးယား | ၂၈၃၉ | ၈၆ |
| ၁၆၈ | တာဂျစ်ကစ္စတန် | ၈၅၁၆ | ၆၈ |
| ၁၆၉ | ဆလိုဗေးနီးယား | ၂၈၃၄ | ၁၂၈ |
| ၁၇၀ | ဖင်လန် | ၈၀၄၉ | ၃၃၅ |

| စဉ် | နိုင်ငံ၊ နယ်မြေ၊ ဒေသများ | ရောဂါဖြစ်ပွားသူဦးရေ စုစုပေါင်း | သေဆုံးမှု စုစုပေါင်း |
|---|---|---|---|
| ၁၇၁ | အက်စတိုးနီးယား | ၂၃၆၃ | ၆၄ |
| ၁၇၂ | အင်ဒိုရာ | ၁၁၂၄ | ၅၃ |
| ၁၇၃ | ဆိုက်ပရပ်စ် | ၁၄၈၃ | ၂၁ |
| ၁၇၄ | ဂျော်ဂျီယာ | ၁၄၆၉ | ၁၉ |
| ၁၇၅ | အိုက်စလန် | ၂၁၀၀ | ၁၀ |
| ၁၇၆ | လတ်ဗီးယား | ၁၃၇၅ | ၃၄ |
| ၁၇၇ | မိုနာကို | ၁၃၀ | ၁ |
| ၁၇၈ | ဆန်မာရီနို | ၇၃၃ | ၄၂ |
| ၁၇၉ | လစ်ချန်တစတိုင်း | ၁၀၇ | ၁ |
| ၁၈၀ | ဟိုလီဆီး | ၁၂ | ၀ |
| ၁၈၁ | လူဇင်ဘတ် | ၆၅၈၀ | ၁၂၄ |
| ၁၈၂ | ကိုဆိုဗို | ၁၃၁၇၂ | ၄၉၈ |
| ၁၈၃ | ဂျီဘရာတာ | ၂၇၄ | ၀ |
| ၁၈၄ | ဖာရိုကျွန်းစုများ | ၄၁၁ | ၀ |
| ၁၈၅ | ဂျာစီ | ၃၇၄ | ၃၂ |
| ၁၈၆ | ဂရင်းလန်(ဒ်) | ၁၄ | ၀ |
| ၁၈၇ | ဂွာနာစီ | ၂၅၂ | ၁၃ |
| ၁၈၈ | မန်ကျွန်း | ၃၃၆ | ၂၄ |
| **တောင်အရှေ့အာရှဒေသ** | | | |
| ၁၈၉ | အိန္ဒိယ | ၃၅၄၂၇၃၃ | ၆၃၄၉၈ |
| ၁၉၀ | အင်ဒိုနီးရှား | ၁၆၉၁၉၅ | ၇၂၆၁ |
| ၁၉၁ | ဘင်္ဂလားဒေ့ရှ် | ၃၀၈၉၂၅ | ၄၂၀၆ |
| ၁၉၂ | နီပေါ | ၃၇၃၄၀ | ၂၀၇ |
| ၁၉၃ | မော်လ်ဒိုက်(ဗ်) | ၇၅၇၈ | ၂၈ |
| ၁၉၄ | မြန်မာ | ၇၄၉ | ၆ |
| ၁၉၅ | သီရိလင်္ကာ | ၂၉၉၅ | ၁၂ |

| စဉ် | နိုင်ငံ၊ နယ်မြေ၊ ဒေသများ | ရောဂါဖြစ်ပွားသူဦးရေ စုစုပေါင်း | သေဆုံးမှု စုစုပေါင်း |
|---|---|---|---|
| ၁၉၆ | ဘူတန် | ၁၉၅ | ၀ |
| ၁၉၇ | ထိုင်း | ၃၄၁၁ | ၅၈ |
| ၁၉၈ | တီမောလ်လက်စတီ | ၂၇ | ၀ |
| အနောက်ပစိဖိတ်ဒေသ | | | |
| ၁၉၉ | ဖိလစ်ပိုင် | ၂၁၃၁၃၁ | ၃၄၁၉ |
| ၂၀၀ | ဂျပန် | ၆၇၂၆၄ | ၁၂၆၄ |
| ၂၀၁ | ကိုရီးယားသမ္မတနိုင်ငံ | ၁၉၆၉၉ | ၃၂၃ |
| ၂၀၂ | သြစတြေးလျ | ၂၅၅၄၇ | ၆၀၀ |
| ၂၀၃ | စင်ကာပူ | ၅၆၇၁၇ | ၂၇ |
| ၂၀၄ | တရုတ် | ၉၀၃၅၁ | ၄၇၂၈ |
| ၂၀၅ | ပါပူရာနယူးဂီနီ | ၄၅၉ | ၅ |
| ၂၀၆ | မလေးရှား | ၉၃၁၇ | ၁၂၅ |
| ၂၀၇ | နယူးဇီလန် | ၁၃၇၈ | ၂၂ |
| ၂၀၈ | ဗီယက်နမ် | ၁၀၄၀ | ၃၂ |
| ၂၀၉ | မွန်ဂိုလီးယား | ၃၀၁ | ၀ |
| ၂၁၀ | ဘရူးနိုင်းဒါရူဆလမ် | ၁၄၄ | ၃ |
| ၂၁၁ | ကမ္ဘောဒီးယား | ၂၇၃ | ၀ |
| ၂၁၂ | ဖီဂျီ | ၂၈ | ၂ |
| ၂၁၃ | လာအိုပြည်သူ့ဒီမိုကရက်တစ် သမ္မတနိုင်ငံ | ၂၂ | ၀ |
| ၂၁၄ | ဂူအမ် | ၁၃၃၉ | ၁၀ |
| ၂၁၅ | ပြင်သစ်ပေါ်လီနီးရှား | ၄၈၂ | ၀ |
| ၂၁၆ | မြောက်ပိုင်းမာရီယာနာကျွန်းစု | ၅၆ | ၂ |
| ၂၁၇ | နယူးကယ်လီဒိုးနီးယား | ၂၃ | ၀ |
| ၂၁၈ | အခြား | ၇၄၁ | ၁၃ |

# ကျမ်းကိုးစာရင်း


၁။ ကူးစက်ရောဂါနှင့်အဖြစ်များသောရောဂါများ
ဒေါက်တာအောင်သန်း၊ ကာလာဇုန်ပုံနှိပ်တိုက်၊ ၂၀၀၇ ခုနှစ်၊ ဩဂုတ်လ။

၂။ တပ်မတော်သမိုင်း(ပထမတွဲ)
သတင်းနှင့်စာနယ်ဇင်းလုပ်ငန်း၊ ၁၉၉၄ ခုနှစ်၊ ဖေဖော်ဝါရီလ။

၃။ တပ်မတော်အစိုးရလက်ထက် နိုင်ငံတော်ဖွံ့ဖြိုးတိုးတက်မှုမှတ်တမ်း (၁၉၈၈ မှ ၃၁-၁၂-၂၀၁၀ ထိ)၊ ပုံနှိပ်ရေးနှင့်စာအုပ်ထုတ်ဝေရေးလုပ်ငန်း ၂၀၁၁ ခုနှစ်၊ မတ်လ။

၄။ ဗုဒ္ဓဘာသာကောင်းတစ်ယောက် How To Live As A Good Buddhist သာသနာတော်ထွန်းကားပြန့်ပွားရေးဦးစီးဌာန၊ သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၊ ၁၉၉၂ ခုနှစ်၊ ဧပြီလ။

၅။ ဗုဒ္ဓဘာသာဆိုင်ရာ အထွေထွေဗဟုသုတ
စိန္တာမဏိ ဦးချစ်မောင်၊ သုဓမ္မဝတီပုံနှိပ်တိုက်၊ ၁၉၇၆ ခုနှစ်၊ ဇူလိုင်လ။

၆။ သိကောင်းစရာ NGO အဖွဲ့အစည်းများမှတ်စု
ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာန၊ သိန်းသန်းဦးပုံနှိပ်တိုက်၊ ၂၀၀၇ ခုနှစ်၊ နိုဝင်ဘာလ။

၇။ မြန်မာ့ရက်စဉ်သမိုင်း (အကြိုသမိုင်းကာလမှ ၁၉၄၅ အထိ) (ပထမတွဲ) (ယဉ်ကျေးမှုဝန်ကြီးဌာန၊ သမိုင်းသုတေသနဦးစီးဌာန)

၈။ မြန်မာ့ရက်စဉ်သမိုင်း (၁၉၄၅ မှ ၂၀၀၈ အထိ) (ဒုတိယတွဲ) (ယဉ်ကျေးမှုဝန်ကြီးဌာန၊ သမိုင်းသုတေသနဦးစီးဌာန)။

၉။ ၂၀၀၁ ခုနှစ်၊ စာပေဗိမာန်စာမူဆုရ ဖိုးအောင်လေး၏ မြန်မာ့လွတ်လပ်ရေး ကြိုးပမ်းမှုရက်စဉ်သမိုင်း။

၁၀။ မြန်မာ့အလင်းသတင်းစာ (၂၀၁၈ ခုနှစ် ဇန်နဝါရီ၊ ဖေဖော်ဝါရီ၊ မတ်၊ ဧပြီ၊ မေ၊ ဇွန်၊ ဇူလိုင်၊ ဩဂုတ်၊ စက်တင်ဘာ၊ အောက်တိုဘာ၊ နိုဝင်ဘာ၊ ဒီဇင်ဘာ)၊ (၂၀၁၉ ခုနှစ် ဇန်နဝါရီ၊ ဖေဖော်ဝါရီ၊ မတ်၊ ဧပြီ၊ မေ၊ ဇွန်၊ ဇူလိုင်)။

၁၁။ ကြေးမုံသတင်းစာ (၂၀၁၈ ခုနှစ် ဇန်နဝါရီ၊ ဖေဖော်ဝါရီ၊ မတ်၊ ဧပြီ၊ မေ၊ ဇွန်၊ ဇူလိုင်၊ ဩဂုတ်၊ စက်တင်ဘာ၊ အောက်တိုဘာ၊ နိုဝင်ဘာ၊ ဒီဇင်ဘာ)၊ (၂၀၁၉ ခုနှစ် ဇန်နဝါရီ၊ ဖေဖော်ဝါရီ၊ မတ်၊ ဧပြီ၊ မေ၊ ဇွန်၊ ဇူလိုင်)။

၁၂။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေ (၂၀၀၈ ခုနှစ်)။
၁၃။ ဦးတောင်လုံး + ရွှေမင်းဝန် (အင်္ဂလိပ်-မြန်မာစကားပုံများစာအုပ်)။
၁၄။ ဦးထွန်းမြင့်ရေးသားသည့် ပါဠိသက်ဝေါဟာရအဘိဓာန် (၂၀၀၄) (မြန်မာထုတ်ဝေသူများအဖွဲ့ ဝန်ဆောင်မှုကုမ္ပဏီလီမိတက်)။
၁၅။ ၂၀၁၀ ပြည့်နှစ် သူရိယစာတည်းအဖွဲ့၏ ကမ္ဘာ့နိုင်ငံများအကြောင်း သိကောင်းစရာ။
၁၆။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ပြန်တမ်း (၁၁-၂-၂၀၁၁ မှ ၂၈-၇-၂၀၂၀ ရက်နေ့ထိ)။
၁၈။ အောင်ကောင်းစုံ အထွေထွေသိစရာ မှတ်စရာ ဗဟုသုတမှတ်စု (၂၀၁၉-၂၀၂၀)
၁၉။ ကြယ်စင်အထွေထွေဗဟုသုတ (၂၀၁၉-၂၀၂၀)
၂၀။ အောင်ကောင်းစုံရာထူးဝန်ဝင်ခွင့် (၂၀၁၉-၂၀၂၀)
၂၁။ တက်လမ်း (၁) (၂၀၁၇)
၂၂။ မဟာစွယ်စုံ သုတရေးရာအဖြာဖြာ (၂၀၁၉-၂၀၂၀)

1. Facts About Myanmar, Published by Printing and Publishing, Corporation, 1983.
2. The World Almanac and Book of Facts, Published by World Almanac, Pharos books, A Scripps Howard Company, New York, 1988.
3. The World Almanac and Book of Facts, Published by World Almanac, Pharos books, A Scripps Howard Company, New York, 2007.
4. Time Almanac, Published by Encyclopaedia Britanica Inc, London, 2008.
5. Myanmar The Study of Processess and Patterns, Hla Tun Aung-NHRD.
6. http://www.aneki.com
7. The New Light of Myanmar
8. http://en,wikipedia-org
9. http://myanmarpoliceforce.org
10. http://www.mip.gov.mm
11. 2015 Myanmar Statistical Yearbook, Central Statistical

Organization, December 2015
12. http://www.moi.gov.mm
13. http://www.president-office.gov.mm
14. http://www.cbm.gov.mm
15. http://www.dica.gov.mm
16. http://www.fao.org
17. https://www.weforum.org
18. http://www.worldometers.info
19. http://worldpopulationreview.com
20. http://www.thejakartapost.com
21. https://www.indexmundi.com
22. https://www.worldatlas.com
23. https://www.forbes.com
24. http://www.worldstopexports.com
25. http://gulfbusiness.com
26. https://www.statista.com
27. https://www.lifewire.com
28. https://www.independent.co.uk
29. https://www.globalfirepower.com
30. https://www.statista.com
31. https://www.businessinsider.com
32. https://www.oic-oci.org
33. https://www.un.org/en/sections/member-states/
34. https://www.worldometers.info/world-population/population-by-country/
35. https://asean.org/asean/asean-chair/
36. https://en.wikipedia.org/wiki/List_of_current_heads_of_state_and_government
37. https://thecommonwealth.org/member-countries

